# ဟံသာသီရိ

## မြေဆိုသည်

# ဗုဒ္ဓဝါဒဆိုင်ရာ အမေးအဖြေများ

ဒုတိယအကြိမ်

www.burmeseclassic.com

စာမူခွင့်ပြုချက် = ၉၆/၂၀၀၂(၂)

မျက်နှာဖုံးခွင့်ပြုချက် = ၂၆၁/၂၀၀၂(၅)

ဩဂုတ်လပထမ အကြိမ်

အုပ်ရေ = ၅၀၀

တန်ဖိုး = ၃၀/-

ထုတ်ဝေသူ = ဦးတင်ရှိန် (မြဲ – ၀၃၆၃)
စန်းရောင်ရှိန်စာပေ
အမှတ် ၄/၁၇၇၊ မေခလမ်း
ဝေဘာဂီမြို့သစ်၊ မြောက်ဥက္ကလာပ

အတွင်း/အဖုံး ပုံနှိပ်သူ = ဦးကျော်ဇင် (မြဲ – ၀၄၂၂၉)
ခိုင်ရည်မွန်ပုံနှိပ်တိုက်၊ တိုက်ခွဲ ၁၄/၁၆
မဟာသုခလမ်းနှင့် ဂ၁ – ဗိုလ်ချုပ်လမ်း
ပုဇွန်တောင်မြို့နယ်။

# ဗုဒ္ဓဝါဒဆိုင်ရာ အမေးအဖြေများ

မာတိကာ



ဒုတိယအကြိမ်

| စဉ် | အကြောင်းအရာ | စာမျက်နှာ |
|---|---|---|









| စဉ် | အကြောင်းအရာ | စာမျက်နှာ |
|---|---|---|





## မိတ်ဆက်အမှာ

ကျွန်တော် အမှန်အတိုင်း ဝန်ခံလိုက်ပါရစေ၊ ဤ ဟံသာသီရိ၏ ဗုဒ္ဓဝါဒဆိုင်ရာ အမေးအဖြေ ကျမ်းစာအုပ် မထွက်မချင်း ကျွန်တော့်မှာ အလွန် ဝန်လေး ခေါင်းခဲနေရပါ သည်။

အကြောင်းမှာ ရတနာမွန် မဂ္ဂဇင်း ပင်တိုင်ဆောင်းပါး ရှင်ဟံသာသီရိ၏ ဗုဒ္ဓဝါဒဆိုင်ရာ အမေးအဖြေများကို လိုလား နှစ်ခြိုက်သော ရဟန်းရှင်လူ ပြည်သူများအနေဖြင့် ဟံသာသီရိ ဆောင်းပါး စ,ပါသည့် အချိန်မှစ၍ ယနေ့အထိ စာအုပ်အဖြစ် ထုတ်လုပ်ပေးပါရန် ကျွန်တော့်ထံသို့ လည်းကောင်း၊ ဟံသာ သီရိထံသို့ လည်းကောင်း အနယ်နယ် အရပ်ရပ်မှနေ၍ စာ ရေး အကူအညီ တောင်းခံထားကြပါသည်။

ကျွန်တော့်မှာ ထိုတာဝန်ကို ကျေပွန်ရန် နှစ်နှင့်ချီ၍ စောင့်ခဲ့ရပါသည်။ ဟံသာသီရိ၏ အမေးအဖြေများမှာ ကျွန်တော့်ထံတွင် တစ်ကျမ်းတစ်ဖွဲ့ ထုတ်နိုင်လောက်အောင် စာမူမရှိပါ။ တစ်လတစ်ခါ ရသမျှကို အခန်းကဏ္ဍမပျက် အောင် တသုတ်နှင့် ဖော်ပြနေရပါသည်။

တစ်ဖန် ဟံသာသီရိမှာလည်း သာသနာရေးဆိုင်ရာ တာဝန် ဝတ္တရားများကို ဆောင်ရွက်နေရာ၌ အလွန်များပြားသော တာဝန်များ အမြဲတစေ ခက်ခဲကျပ်တည်းသော အချိန်များမှ လု၍ ရေးပေးနေရခြင်းမျိုး ဖြစ်ပါသည်။

အနယ်နယ်မှ မေးလာသမျှ အမေးများကို တစ်ခုမကျန် အားလုံးကို အဖြေပေးမည်ဟူသော ရည်ရွယ်ချက်လည်း ဟံသာသီရိထံတွင် အမြဲရှိနေပါသည်။ ယင်းသို့ ကြီးမားခိုင်မြဲသော အဓိဋ္ဌာန်ဓာတ် ရှိနေသဖြင့်သာ လစဉ်မပျက်ရအောင် အလွန် ရှုပ်ထွေးများပြားသော အလုပ်များ ကြားမှ ရေးပေးနေခြင်း ဖြစ်ပါသည်။

ဤသို့ဖြင့် ဟံသာသီရိ၏ အမေးအဖြေများကို စာအုပ်အဖြစ် စောင့်ဆိုင်းနေကြသော ပရိသတ်၏ အလိုဆန္ဒကို ဖြည့်နိုင်ဖို့ ကျွန်တော့်မှာ နှစ်နှင့်ချီ၍ ထိန်းသိမ်းလာရပြီး ယခုအခါ ဤကျမ်းစာအုပ် ထွက်ပေါ်လာပြီမို့ ဗုဒ္ဓဝါဒ သုတေသီတို့ အနေဖြင့် ဝမ်းမြောက်ရွှင်လန်းရသလို ကျွန်တော့်မှာလည်း တာဝန်ကျေ ပေါ့ပါး၍ လန်းဆန်းကြည်လင်ခဲ့ရပါသည်။

ဤကျမ်းစာပါ အကြောင်းအရာတို့နှင့် ပတ်သက်၍ အထူးညွှန်းစရာပင် မလိုတော့ပါ။ ဤစာအုပ်၌ ဟံသာသီရိသည် မေးသမျှ အကြောင်းအရာတို့ကို ကျမ်းဂန်လာ အကိုးအကား၊ ဆရာအစဉ်အဆက်မှ နည်းခံရရှိလာသော ဗဟုသုတ အဖုံဖုံ၊ မိမိ၏ စူးရှထက်မြက် ထိရောက်လှသော ပင်ကိုယ်ဉာဏ် စသည် စသည်တို့ကို အသုံးပြုပြီး အမေးရှင်နှင့်တကွ ပညာရှင် အသီးသီးတို့ကိုပါ ကျေနပ်သွားရအောင် သဘာဝ ယုတ္တိ၊ အာဂမယုတ္တိတို့ဖြင့် အချက်ကျကျ ဖြေဆိုထားပြီး ဖြစ်ပါသည်။

စကားအလျဉ်းသင့်၍ ပြောလိုသည်မှာ ဤကျမ်းစာမျိုး ထွက်ဖို့ ဆိုသည်မှာ အလွန်မလွယ်ကူသော အရာမျိုး ဖြစ်ပါသည်။ ထိုမလွယ်ကူသော စာအုပ်မျိုးကိုမှ ကျွန်တော်တို့ ခေတ်တွင် ကျွန်တော်တို့နှင့် ထိုက်တန်သဖြင့် ထွက်ပေါ်လာခဲ့ခြင်းကြောင့် အလွန်ကံထူးကြသည်ဟုသာ ဆိုရပါတော့မည်။

ထို့ကြောင့် ကာမာဝစရကံ အထောက်အမကောင်း၍ ပေါ်လာရသော ဤစာအုပ်ပါ သိစရာ အဖြာဖြာတို့ကို လေ့လာမှတ်သားရင်း ဗုဒ္ဓအပေါ်၊ ဓမ္မအပေါ်၊ သံဃာ့အပေါ် ယုံကြည်မှု သဒ္ဓါဓာတ်ခံ ရင့်သည်ထက် ရင့်သန်နိုင်ကြပါစေဟု သာ ဆန္ဒပြုလိုက်ရပါတော့သည်။

ဦးထွန်းလွင် (မြော်စရိယ၊ ဘီအေ)
အယ်ဒီတာချုပ်
ရတနာ့မွန် မဂ္ဂဇင်း
ရတနာ့တံခွန် မဂ္ဂဇင်း

# သမ္ဗောဓနိယ ကထာ

မဗ္ဗဒါန ဆိုသည်မှာ တရားအလှူဖြစ်ရာ သူတစ်ပါး တို့အား တရားဟောပြောခြင်းကိုသာ "ဓမ္မအလှူ" ဆိုသည် မဟုတ်၊ ပိဋကတ်ဓမ္မ သိကြဖို့ရာ စာချပေးခြင်း၊ သင်ပြပေးခြင်း၊ ရေးသားခြင်း၊ နည်းပေးခြင်း စသည်ဖြင့် သူတစ်ပါး တရားသိအောင် ဆောင်ရွက်မှုမှန်သမျှ "ဓမ္မဒါန" ချည်းသာ ဖြစ်ပါပေသည်။

သို့ဖြစ်လျှင် ရတနာမွန် မဂ္ဂဇင်းက ထိုထိုစာရေးဆရာတို့၏ ဓမ္မနှင့် ရေးသားတင်ပြမှု မှန်သမျှ ဓမ္မဒါနချည်းသာ ဖြစ်ပါပေသည်။

ဓမ္မဒါန အမြဲတမ်း ပေးဝေလျက် ရှိသော ရတနာမွန် စာစောင်မှ "ဟံသာသိရိ" ၏ အရပ်ရပ်က ရဟန်းရှင်လူ





လူတန်းစား အသီးသီးက မေးသမျှ အမေးအဖြေ ကဏ္ဍကလည်း ဓမ္မအလှူပေးရာ ပျော်စရာကဏ္ဍ ဓမ္မဒါနခန်းကလေးပင် ဖြစ်ရာ အဖြေကို စောင့်စားသူတို့အတွက် နှစ်သက်ဖွယ် ကျေနပ်အားရဖွယ် တကယ်ကောင်းလှသော နှလုံးအေးစရာ အပြီးဆေးသာ ဖြစ်ပါပေသည်။ "အမေး နွားကျောင်း၊ အဖြေ ဘုရားလောင်း" ဆိုရိုးစကားအရ အမေးက ဘက်စုံ ထောင့်စုံ ပြဿနာစုံဖြစ်ရာ တိကျမှန်ကန်သော အဖြေပေးဖို့ရာ ရှာရဖွေရ စုံးစမ်းရ လေ့လာရသော အလုပ်မှာ ဘယ်မျှ ခက်ခဲလှသည်ကို ပညာရှင်များသာ သိနိုင်ပါသည်။

**ဝိဒ္ဓါဝ ဝိဓာနာတိ–ဝိဒ္ဓဇ္ဇန ပရိဿမံ၊**
**န ဟိ ဝဉ္ဈာ ဝိဓာနာတိ–ဂုရုံ ပသဝ ဝေဒနံ၊**

ပညာရှိ ပုဂ္ဂိုလ်တို့၏ ခက်ခဲပင်ပန်းမှုကို ပညာရှိ ပုဂ္ဂိုလ်သာ သိနိုင်ပါပေ၏။ ထိုစကား မှန်၏။ ကြီးလေး ခက်ခဲလှသော သားဖွားမှု ဝေဒနာကို အမြုံမက မသိနိုင်ပါပေ။

မိမိ သိချင်သည့် အချက်ကလေးတွေ သိရတော့ ဝမ်းသာအားရမှုမှာ လွန်စွာ ထူးခြားလှသည်ဖြစ်ရာ ရတနာမွန် ပရိသတ်သာမက အများပင် သိချင်သည့် အကြောင်းအရာတွေကို သိကြရ၍ ပျော်ရွှင်အားရ ရှိကြပါစေဟု သီးခြားစာအုပ် အဖြစ် ဖော်ထုတ်ပေးလိုက်သည်မှာလည်း တခြားမဟုတ်ပေ

**အဖြေ**

ဇယစက္ကော ဇယန္တော ယော၊
ဇယိတဗ္ဗေ ဇယာသနေ။
ဇယာ-ပေသိ ဇယေသိနံ၊ ဇယံဒေတု ဇယုတ္တရော။

ယောဇယစက္ကော -ပါရမီတော် ဆယ်ချက် အောင်လက်နက်ပိုင်ရှင် အကြင် ဘုရားရှင် ကိုယ်တော်မြတ်ကြီးသည်။ ဇယာသနေ-အောင်သိဒ္ဓိ ဆင်မြန်းသည့် ပလ္လင်နန်းမှန်ကင်း အောင်ဗောဓိပင်ရင်း၌။ ဇယိတဗ္ဗေ-အောင်အပ်သည့်တရား မာန်ငါးပါးတို့ကို၊ ဇယန္တော-အကြွင်းမဲ့ ချေမှုန်းလျက် ဖျက်ဖြုန်းကာ ပယ်ရှင်း၍ အောင်ခြင်းကြီး အောင်တော်မူခဲ့လေပြီ။ ဇယေသိနံ-မြတ်နိဗ္ဗာန် အောင်ခန်းနှင့် အောင်ဘိသိက်ပန်းမင်္ဂဖိုလ်ကို များထိုထို ဝဋ်အတွင်းမှ လွတ်ကင်းအောင် အာသာကြီးဖြင့် ရှာမှီးကာ နေကြကုန်သူတို့အား။ ဇယာပေသိ-ကိုယ်တော်မြတ်နှင့်အတူ အောင်ပန်းကို ဆွတ်ချူ၍ ထွတ်အငူအမြိုက် ဓာတ်သို့ ဆိုက်ကပ်တော်မူစေ၍ အောင်စေတော်မူလေပြီ။ ဇယုတ္တရော-အောင်သူတကာတို့၏ မှန်ကင်းအောင်ခြင်းတကာတို့၏ ဦးသျှောင် ထွတ်ခေါင်မြတ်သရဖူ သယမ္ဘူမကိုဋ်ထီး အောင်ပွဲဝင် ပုဂ္ဂိုလ်ကြီး ဖြစ်ပေထသော။ သောဇယစက္ကော-အလုံးစုံ အောင်ခြင်းနှင့် ပြည့်စုံတော်မူသော ထိုဘုရားရှင် ကိုယ်တော်မြတ်ကြီးသည်။ မေ-မြတ်နိဗ္ဗူ အောင်ပန်းကို ဆွတ်ချူရန် လက်လှမ်း၍ ကြိုးပမ်းကာ အာသာကြီးဖြင့် ရှာမှီးသူ အကျွန်ုပ်အား။ ဇယံ-အောင်ခြင်းကို (ဝါ)





အောင်ပန်းဝေမြိုင် အောင်ဖူးတွေကြိုင်လှိုင်သည့် အောင်သိဒ္ဓိပန်းခိုင်ကြီးကို။ ဒေတု-ပေးသနားတော်မူပါ အရှင်ဘုရား။

သမီးလိုချင်တဲ့ ဂါထာရဲ့ အဓိပ္ပာယ်(အနက်) ကို ဘာသာပြန်ပေးလိုက်ပါတယ်။

ဆိုင်ရာ အတန်းစာကို ကျွမ်းကျင်တတ်မြောက်အောင် သင်ယူမှ (စာမေးပွဲ အောင်နိုင်မည်) သည်ဂါထာကို ရွတ်ဆိုနေရုံနဲ့တော့ စာမေးပွဲ မအောင်နိုင်ဘူး။ သည်ဂါထာကို ရွတ်လျှင် ကုသိုလ်တွေ အများကြီးရမယ်၊ အနက်ပါ ရွတ်လျှင်တော့ အဓိပ္ပာယ် သိရတဲ့အတွက် ပိုပြီး ဘုရားကို ကြည်ညိုမှာဖြစ်လို့ ပိုပြီး ကုသိုလ်ရနိုင်ပါလိမ့်မယ်၊ သမီး ဆိုင်ရာ အတန်းစာတွေ သင်ကြားလေ့လာတဲ့အခါ အဘက်ဘက်က အဆင်ပြေချောမောအောင် သည်ကုသိုလ်တွေက အထောက်အပံ့တွေ အများကြီး ပေးမှာဖြစ်လို့ မုချ စာမေးပွဲအောင်နိုင်တာကြောင့် သမီးဆရာက ပြောတာ ဖြစ်တယ်ဆိုတာ သမီး သဘောပေါက်နားလည်ဖို့ပါပဲ။

## မေးခွန်း (၂)

**အမေး** (ထွက်လေ ဝင်လေ ရှုမှတ်ခြင်း)

တရားထိုင်ခြင်းသည် စာပေပညာ သင်ကြားရာမှာ အထောက်အကူ ပြုနိုင် မပြုနိုင် သမီးတို့ ကျောင်းသူတချို့ သိချင်နေကြပါသည်။ ဖြေကြားပေးပါ။

ဝင်းယုနွယ် (တ/ဆ ဦးမြင့်သိန်း ပ-ဓာတ်ခွဲမှူး)
ပြည်သူ့ဆေးရုံ၊ မုံရွာမြို့။

**အဖြေ** အထောက်အကူ ပြုနိုင်ပါတယ်၊ အများကြီး အထောက်အကူပြုနိုင်ပါတယ်၊ ဘာ့ကြောင့်လည်း ဆိုတော့ ...





တရားထိုင်မယ်ဆိုရင် လူပုဂ္ဂိုလ်ဖြစ်က ပထမ အနည်းဆုံး ငါးပါးသီလ၊ ရှင်ရဟန်းဖြစ်က သာမဏေတို့၏ (၁၀) ပါး သီလ၊ ရဟန်းတို့၏ ပါတိမောက္ခ သံဝရသီလများနဲ့ ပြည့်စုံစေရပါတယ်။ ဒုတိယ စိတ်တည်ငြိမ်မှု သမာဓိရှိအောင် လေ့ကျင့်ရပါတယ်။ တတိယ အဲဒီ သမာဓိကို အခြေခံပြီး ရုပ်နာမ်တို့ရဲ့ သဘော သဘာဝ ဖြစ်ပျက်လှုပ်ရှားနေပုံကို သတိနဲ့မပြတ် ရှုစိုက်စောင့်ကြည့်ရပါတယ်။ အဲဒီလို ပြုလုပ်တာဟာ တရားထိုင်တာပါပဲ။ ယနေ့ သမီးတို့လို ကျောင်းသူတွေဟာ အတော်များများ တရားထိုင်ဖူးကြတာ ဖြစ်မှာပါ။ ဒီသဘောကို နားလည်ကြမှာပါပဲ။

ပညာ သင်ရာမှာလည်း ဒီသဘောပဲ မဟုတ်ပါလား။ ထူးထူးချွန်ချွန် ပေါက်ပေါက်ရောက်ရောက် တတ်မြောက်လိုသူ ကျောင်းသူ/သား တစ်ဦးဟာ ကိုယ်ကျင့်တရား ကောင်းရမယ်။ ကိုယ်ကျင့်တရား ကောင်းမှ ပညာရေးမှာ စိတ်ဝင်စားမှု၊ ရှုစိုက်မှု စိတ်ကို သက်ဆိုင်ရာ ပညာရပ်အပေါ်မှာ ရှုစိုက်ထားပြီး နာခံမှတ်သား သင်ကြားနာယူမှသာ မိမိ လိုအပ်သော ပညာကို ထွန်းထွန်းပေါက်ပေါက် တတ်မြောက်နိုင်မှာ ဖြစ်ပါတယ်။

တရားထိုင်တဲ့ လုပ်ငန်းနဲ့ ပညာသင်တဲ့ လုပ်ငန်းဟာ ဒီနည်းအားဖြင့် ဆက်စပ်နီးနွှော သဘောသွား တူညီမှု ရှိနေလေတော့ တရားထိုင်တာဟာ ပညာသင်ကြားရေးကို အများ

ကြီး အထောက်အကူပြုနိုင်တယ်ဆိုတာ အသေအချာ မှတ်လိုက်ပါ။ တတ်နိုင်သမျှ ကြိုးစားပြီး ထိုင်ကြပါ။ ဒေကန် အကျိုးထူး ခံစားရပါလိမ့်မယ်။

တရားထိုင်တာဟာ ပညာရေးမှာသာ မဟုတ်ပါဘူး၊ ကျန်းမာရေး၊ လူမှုရေး၊ စီးပွားရေး စတဲ့ ရေးရာအဖြာဖြာမှာ များစွာ အကျိုးဖြစ်ထွန်းစေပါတယ်။

အချို့ သမားတော်ကြီးများဟာ အရေးကြီးတဲ့ လူနာများကို ခွဲစိတ်ကုသခါနီးမှာ စောစောပိုင်း အချိန်ယူ တရားထိုင်ပြီး ခွဲစိတ်တယ်လို့ ကြားဖူးကြောင်း ပြောကြားလိုက်ပါတယ်။



## မေးခွန်း (၃)

**အမေး** ကျွန်မ အိမ်မြှောင်တစ်ကောင်၏ ခါးလယ်ကို တံခါးဖြင့် မတော်တဆ တစ်ခါ ညှပ်မိဖူးပါတယ်။ ထိုအိမ်မြှောင်ကလေးမှာ ချက်ချင်းမသေဘဲ ဒုက္ခရာကို တစ်ရက်မျှခံစားနေရပြီးမှ သေဆုံးသွားပါတယ်။ ၁၉၉၁ ခု၊ ဇန်နဝါရီလထုတ် ရတနာမွန် မဂ္ဂဇင်းတွင် မလွတ်သာ ဝဋ်ကြွေးမှာကို ဖတ်မိပြီး လွန်မင်းစွာ စိတ်ဆင်းရဲမှု ဖြစ်နေပါတယ်။ ထိုကဲ့သို့ ဝဋ်ပြန်ခံရမည်လားရှင့်။ ထိုသို့ ဝဋ်မခံရလေအောင် ဗုဒ္ဓဘာသာ တရားတော်များမှ မည်သည်တို့ကို ရွတ်ဖတ်ကျင့်ကြံ ပွားများအားထုတ်ပါက ရှောင်လွှဲနိုင်ပါသလား။ ကျေးဇူးပြု၍ ပြန်လည်ဖြေကြားပေးပါ

ရန် လေးစားစွာ ပန်ကြားအပ်ပါတယ်။ ရွှတ်ဖတ်ကျင့်ကြံရန် ပြန်လည်ဖြေကြားချက်ကို ယုံကြည်စွာဖြင့် လိုက်နာ ကျင့်ဆောင်ပါမည်ဟု ကတိပြုပါတယ်။

မခင်ဝင်း၊ ပွတ်စုကျေးရွာ၊ တောင်ငူမြို့။

**အဖြေ**

အိမ်မြှောင်ကို တံခါးနဲ့မတော်တဆ ညှပ်မိလို့ သေသွားတဲ့ အတွက် မခင်ဝင်းမှာ သံသယကုက္ကုစ္စတွေနဲ့ စိတ်နှလုံး မချမ်းမြေ့၊ အပူနဲ့ တွေ့ရပုံဟာ လက်ဖက်ရည် ပန်းကန်လုံးထဲမှာ မုန်တိုင်းထန်သလို ဖြစ်နေပြီကော။ သည်နေရာမျိုးမှာ စေတနာဟာ အရေးကြီးပါတယ်။ စေတနာဟာ လိုရင်းပါ။ သည်ကိစ္စမှာ မတော်တဆလို့ ဆိုတဲ့အတွက် အိမ်မြှောင်ကလေး သေစေလို၊ ဆင်းရဲဒုက္ခရောက်စေလိုတဲ့ စေတနာ လုံးဝမရှိကြောင်း ထင်ရှားပါတယ်။ သည်လို စေတနာ မပါတဲ့အတွက် မခင်ဝင်းမှာ ဘာအပြစ်မှ မရှိပါဘူး။ ဘာဝဋ်မှလည်း လိုက်မှာ မဟုတ်ပါဘူး။ ဒါကြောင့် သည်အတွက် ဘာတွေမှလည်း ရွှတ်ဖတ်သရဇ္ဈာယ် မနေပါနဲ့၊ ကျင့်ကြံလည်း မနေပါနဲ့။

ရှင်တော်ဘုရား လက်ထက်က စက္ခုပါလ အမည်တော်ရှိတဲ့ စက္ခုနှစ်ကွင်း အလင်းမရတဲ့ ရဟန္တာအရှင်မြတ်ကြီးဟာ စင်္ကြံလျှောက်ရင်း နင်းမိတဲ့အတွက် ပိုးပရန်ကောင်လေး





တွေ အများကြီး သေကုန်ပါတယ်။ ဒါကို ရဟန်းတော်တွေက တွေ့တဲ့အခါ ကဲ့ရဲ့ကြပြီး ဘုရားရှင်ကို သွားရောက်လျှောက်ထားကြပါတယ်။ သည်အခါ ရှင်တော်ဘုရားက စိတ်စေတနာ ဖြူစင်သန့်ရှင်းတဲ့ ငါ့သားတော်ကြီး စက္ခုပါလမှာ ဘာအပြစ်မှ မရှိပါဘူးလို့ ရှင်းရှင်းကြီးပဲ မိန့်တော်မူလိုက်ပါတယ်တဲ့။

**(ဓမ္မပဒ)**

သည်ဝတ္ထု သာဓကဟာ မခင်ဝင်းအတွက် စိတ်နှလုံး အေးစရာ အကောင်းဆုံး နမူနာဖြစ်တာမို့ ငါ့မှာ ဘာအပြစ်မှ မရှိ၊ ဘာဝဋ်မှလည်း လိုက်မှာ မဟုတ်ပါဘူးလို့ စိတ်နှလုံး တုံးတုံးချ၊ သံသယကုက္ကုစ္စ ကင်းပျောက် ဝမ်းမြောက်ရွှင်လန်း စိတ်အေးချမ်းသာ ပျော်ရွှင်စွာနေဖို့ရာ ဖြစ်ကြောင်း သတင်းကောင်း ပါးလိုက်ပါတယ်။

## မေးခွန်း (၄)

တရားနှလုံးသွင်းရာ၌

**အမေး (၁)** ရုပ်၏ ဖောက်ပြန်မှု ဝေဒနာကို စောင့်၍ ဖြစ်ပျက်ရှုမှတ်ရမည်လော။

**အမေး (၂)** ခန္ဓာကို ရှုမှန်းပြီး မလိုချင်အောင် ခန္ဓာပေါ်တွင် (၃၂) ကောဋ္ဌာသဖြင့် ရှုမှတ်ရမည်လော။





**အမေး (၃)** ခန္ဓာကို မှီပြီး ဖြစ်ပေါ်လာသော ဇာတိ ဒုက္ခ၊ ဇရာ ဒုက္ခ၊ မရဏဒုက္ခနှင့် သောက ပရိဒေဝ ဒုက္ခ၊ ဒေါမနဿ၊ ဥပါယာသစသော ဒုက္ခများဖြင့် ခန္ဓာ၏ အဖြစ်ကို ရှုမှတ်ရမည်လော။

ရှုမှတ်မှုမှန်ကန်စေရေးအတွက် အထက်ပါ သံသယကို ရှင်းစေရန် လမ်းညွှန်မှု ပြုစေလိုပါသည်။

ဒေါ်လှကလျာ

**အဖြေ (၁)** ရုပ်၏ ဖောက်ပြန်မှု ဝေဒနာကို စောင့်၍ ဖြစ်ပျက်မှု ရှုမှတ်ရမည်လော။

**အဖြေ (၂)** ခန္ဓာကို ရှုမှန်းပြီး မလိုချင်အောင် ခန္ဓာပေါ်တွင် (၃၂) ကောဋ္ဌာသထင်သဖြင့် ရှုမှတ်ရမည်လော။

**အဖြေ (၃)** ခန္ဓာကို မှီပြီး ဖြစ်ပေါ်လာသော ဇာတိ, ဇရာ, ဗျာဓိ, မရဏစသော ဒုက္ခများနှင့် ရှုမှတ်ရမည်လော။ ရှုမှတ်မှု မှန်ကန်ရေးအတွက် အထက်ပါ သံသယများ ရှင်းလင်းစေရန် လမ်းညွှန်မှု ပြုစေလို

ပါသည် ဆိုတဲ့ လမ်းညွှန်မှု တောင်းခံစာပါ အချက်အလက်များ က ယောဂီ အနေနဲ့ တရားအားထုတ်ရာမှာ ရှုခင်း ရှုကွက်နဲ့ ရှုနည်း ရှုဟန်များအပေါ် အမြင်မကြည်မလင် ဖြစ်နေပုံကို ဖော်ပြနေပါတယ်။

တရားအားထုတ်ရာမှာ အဲသည် အချက်များအပေါ် အမြင်ကြည်လင်ဖို့ အရေးပါလှပါတယ်။ ဒါကြောင့် တရားအားထုတ်လိုတဲ့ ပုဂ္ဂိုလ်ဟာ ပရိယတ်မှာလည်း ကျွမ်းကျင်၊ ပဋိပတ်မှာလည်း လုပ်ငန်းခွင် ဝင်နေတဲ့ စင်ကြယ်ရိုးသား ဆရာသမားကောင်းများကို ဆည်းကပ်မိဖို့ အများကြီး လိုအပ်ပါတယ်။ ဒီကဏ္ဍကနေ ဒီအချက်များကို ရှင်းပြဖို့ ဆိုပြန်တော့လည်း "အိုးပုတ်ငယ်ကလေးထဲ ဆင်ပြောင်ကြီး ခွေထည့်သလို" ဘယ်လိုမှ အဆင်ပြေစရာ မရှိတဲ့အတွက် ယောဂီပုဂ္ဂိုလ်များဟာ ပရိယတ်၊ ပဋိပတ်အရာ တကယ် လိမ္မာတတ်ကျွမ်း ဖြောင့်တန်းရိုးသားတဲ့ ဆရာတော် သမားတော်ကြီးများ ရေးသားတဲ့ ကျမ်းစာများကို ဖတ်၊ တရားလည်းမှတ်နာ၊ မသိမရှင်းတာတွေကိုလည်း မေးမြန်းလျှောက်ထားလိုက်လျှင် ရှုမှတ်မှုနည်းမှန်ရပြီး သံသယကိုလည်း အပြတ်ရှင်းပြီး ဖြစ်ပါလိမ့်မယ်လို့ ပြန်ကြားလိုက်ပါတယ်။



## မေးခွန်း (၅)

**အမေး** လူတစ်ယောက် (တစ်ကိုယ်တွင်) နတ်တစ်ပါး စောင့်ပါသလား။

လယ်ကိုင်း၊ နန္ဒာအောင်၊ မင်းဘူး။

**အဖြေ** သည်မေးခွန်းကို ဖြေရလျှင် ကိုယ်စောင့်နတ်နဲ့ စပ်ပြီးတော့ ပါရာဇိကဏ် ပါဠိတော် ဒုဋ္ဌုလ္လဝါစာ သိက္ခာပုဒ်မှာ "သင့် ကိုယ်စောင့်နတ်တွေက ဘယ်အခါမှာ ငါ့ကို ကြည်သာကြမည်" လို့ ဆိုပါတယ်။

ပါရာဇိကကဏ် အဋ္ဌကထာ သုဒိန္နကဏ္ဍ အဖွင့်မှာ မကောင်းမှုပြုသူအတွက် ဆိတ်ကွယ်ရာ မည်သည်မရှိ။ ပထမ ပြုသူကိုယ်တိုင် သိတယ်။ နောက် သူ့ကိုယ်စောင့်နတ်က သိတယ်။ နောက် သူတစ်ပါးစိတ်ကို သိတတ်တဲ့ နတ်တွေက သိတယ်" လို့ ဆိုပါတယ်။

သုတ်မဟာဝါ အဋ္ဌကထာ မဟာပဓာနသုတ်အဖွင့်မှာ အကြင်အခါ မင်းတို့ တရားမစောင့်ကုန်။ ထိုအခါ အိမ်ရှေ့မင်း၊ အမတ်၊ စစ်သူကြီး၊ သူဌေးသူကြွယ်၊ မြို့သူမြို့သား ပြည်သူပြည်သားတို့ တရားမစောင့်ကြကုန်။ ထိုအခါ ထိုသူတို့၏ ကိုယ်စောင့်နတ်တို့ တရားမစောင့်ကြကုန် စသည်ဖြင့် ဆိုပါတယ်။

စတုက္ကနိပါတ် ရှုဋ္ဌကလိင်္ဂဇာတ်မှာ ကလိင်္ဂ မင်းနဲ့ အဿကမင်းတို့ စစ်တိုက်ကြရာ ၎င်းမင်းတို့ရဲ့ ကိုယ်စောင့်နတ် နှစ်ဦးတို့က နွားလားဥသဘ အယောင်ဆောင်ပြီး ဖေ့တိုက်ကြတယ်လို့ ဆိုပါတယ်။

အသီတိနိပါတ် မဟာကုဏာလဇာတ်မှာ ကောသလမင်း သေ၍ မိဖုရားကို ဗာရာဏသီမင်း မိဖုရား မြှောက်တယ်။ မိဖုရားမှာ ကောသလမင်းနဲ့ ရတဲ့ ပဋိသန္ဓေ ပါသွားတယ်။ သေသွားတဲ့ ကောသလမင်းဟာ ထိုမိဖုရားမှ ဖွားသော မိမိသား၏ ကိုယ်စောင့်နတ် ဖြစ်တယ်လို့ ဆိုပါတယ်။

အထက်ဖော်ပြပါ ဗုဒ္ဓစာပေ အဆိုများကို ကြည့်လျှင် လူတစ်ကိုယ်မှာ ကိုယ်စောင့်နတ် ဘယ်နှစ်ဦး စောင့်တယ်ဆိုတာ သတ်မှတ်လို့ မရပါဘူး၊ တစ်ယောက် ဖြစ်စေ၊ အများဖြစ်စေ၊ ပုဂ္ဂိုလ်အလိုက် သင့်တော်သလို စောင့်တယ်လို့ ဖြေကြားရမှာ ဖြစ်ပါတယ်။

လောကီ ကျမ်းများအဆိုအရ ကိုယ်စောင့်နတ် တစ်ကျိပ်တစ်ယောက် ရှိသည်။ ၎င်းတို့မှာ (၁) သတ္တဘာဂ–နမှုးစာရေးနတ်၊ (၂) သူရဿတီ–ပညာကို ပွားစေတတ်သော နတ်၊ (၃) သကျနတ်–စည်းစိမ်ဥစ္စာကို ပေးသောနတ်၊ (၄) မဟိရာဇာနတ်–အိပ်မက်ပေးသောနတ်၊ (၅) ဝါမသုရာနတ်–နိမိတ်ပြသောနတ်၊ (၆) ဇနသုရနတ်–အလှူပေးသည်ကို မှတ်တမ်းတင်သော နတ်၊ (၇) ကာရုဝါနတ်–ကာမသုခကို ပေးသောနတ်၊ (၈) ယောတနကနတ်–သွားလေရာသို့ လိုက်၍ စောင့်မတတ်သောနတ်၊ (၉) ကလျာဏမိတ္တနတ်–ကောင်းသော စကားကို မှတ်သားသောနတ်၊ (၁၀) စန္ဒာဒေဝီနတ်–ကျက်သရေကို စောင့်သောနတ်၊ (၁၁) နရိန္ဒာဒေဝီနတ်–အိပ်သော အခါ ဦးခေါင်းရင်းက စောင့်သော နတ်တို့ ဖြစ်ကြပါတယ်။ ဒါတွေကတော့ ထေရဝါဒ ဗုဒ္ဓစာပေလာ နတ်များ မဟုတ်ကြ။ မှတ်လိုက မှတ်သားနိုင်ကြစေရန် ဗဟုသုတအဖြစ် ထုတ်ပြလိုက်တာ ဖြစ်ပါတယ်။

# မေးခွန်း (၆)

**အမေး**

မူးယစ်စေတတ်သော ဆေးဝါးများကို အချို့သော လူနာများကို ပေးရာတွင် သူရာမေရယကံ ထိုက်ပါသလား။

(ဥပမာ ဆေးရုံတွင် ခွဲစိတ်ပြီးစ လူနာများ၊ မီးနေသည်များ ဆေးစိမ်ထားသော အရက်ကို သောက်သုံးခြင်းမျာ။)

မောင်စိုးကြည်၊ အမှတ် ၇၄၊ ဒဂုံသီရိလမ်း၊
ကျောက်မြောင်း။

**အဖြေ**

သူရာမေရယကံ မထိုက်ပါ။ သည်နေရာမှာ ကံထိုက်, မထိုက် အငြင်းပွားမှုတော့ ရှိပါတယ်။ ဒါပေမယ့် ကံမထိုက်ဆိုတဲ့ ဘက်က





ခိုင်မာ အားကောင်းတယ်လို့ အများက လက်ခံယူဆထားကြတဲ့အတွက် ကံမထိုက်ဘူးလို့ပဲ ဖြေဆိုလိုက်တာ ဖြစ်ပါတယ်။

မေးခွန်းရှင် အနေနဲ့ ကံထိုက်လျှင် အပြစ်ရှိတယ်၊ မသုံးကောင်းဘူး၊ ကံမထိုက်လျှင် အပြစ်မရှိဘူး၊ သုံးကောင်းတယ်လို့ အယူရှိပြီး မေးတာဖြစ်တယ်လို့ ယူဆမိတဲ့အတွက် အနည်းငယ် ရှင်းလင်းပေးမှသာ ပြည့်စုံတဲ့အဖြေ ဖြစ်မှာမို့ အနည်းငယ် ရှင်းပြရမည်ဆိုလျှင် မူးယစ်ဆေး သောက်သုံးမှုဟာ...

(၁) ဆေးဝါးထဲမှာ ပါလာလို့ သောက်သုံးမှု၊ (၂) ဆေးဖြစ်ဝါးဖြစ် သူ့ချည်းသက်သက် သောက်သုံးမှု၊ (၃) တမင်ကို သောက်ချင်လို့ အရသာ ခံသောက်သုံးမှု၊ (၄) ဒုစရိုက်မှု တစ်ခုခုကို လုပ်ဖို့အတွက် ရဲဆေးတင်တဲ့ အနေနဲ့ သောက်သုံးမှုလို့ လေးမျိုးလေးစား ရှိပါတယ်။ သည် လေးမျိုးထဲမှာ နံပါတ်(၁) အမျိုးအစားဟာ ဆေးကို သောက်သုံးရာ ရောက်တဲ့အတွက် တစ်စုံတစ်ရာ ဘာအပြစ်မှ မရှိပါဘူး။ (၂) အမျိုးအစားက အပြစ်မကြီးလှ။ သို့သော် လူသာမဏာတို့မှာ သီလပျက်သည်။ (၃) အမျိုးအစားက မူးယစ်ဆေးဝါးတို့ရဲ့ သဘာဝအတိုင်း "နွားတော်ရေချ သောက်မဝ" ဆိုသလို တစ်ခါသုံးမိလျှင် အဆုံးသတ်လို့ မရ တမြဲမြဲနဲ့ သောက်နေရမှ ကျေနပ်ကြတာမို့ အဲသလို အမြဲလိုနေမယ်ဆိုလျှင်တော့ အပြစ်ကြီးလှသည်။ အပါယ်ကျနိုင်သည်။ အနည်းဆုံးရူးသွား

နိုင်သည်။ ဤအချက်မှာ သောက်သုံးသူတို့ ကိုယ်တွေ့ ဖြစ်တာမို့ အငြင်းထွက်စရာ မလိုပါ။ (၄) အမျိုးအစားကတော့ ဒုစရိုက်မှုတို့ရဲ့ ရှေ့ပြေး (သူ့ကြောင့် ဒုစရိုက်မှု အောင်မြင်ရတာ) ဖြစ်တဲ့အတွက် ကံမထိုက်စေကာမူ ကံထိုက်သလောက် သေချာပေါက် အပါယ်ချနိုင်တယ်။ အလွန်အပြစ်ကြီးလှပါတယ်လို့ ဆိုရပါမယ်။

လောကမှာ လူမိုက်အားပေး လုပ်တတ်သူဟာ လူမိုက်များစွာထက် ကြောက်စရာ ကောင်းသလို ဒုစရိုက်မှု အမျိုးမျိုးကို အားပေးအားမြှောက် ပြုတတ်တဲ့ သုရာပါနဟာလည်း ဒုစရိုက်မှုပေါင်း များစွာက်ထက် ကြောက်စရာကောင်းတာကြောင့် ထိုထိုဇိုးဆရာတို့ဟာ သုရာပါနကံ မထိုက်ဘူးဆိုတာနဲ့ ဟာ, ကံမထိုက်ဘူးဆိုပါလား၊ ကြိတ်ကြမှပဲဟေ့ဆိုပြီး ဝမ်းသာအယ်လဲ မိုဝဲသောက်သုံးမနေကြဘဲ အထက်ဖော်ပြပါ ရှင်းလင်းချက်ကို လေ့လာသုံးကပ်ကာ ဟား... သောက်လို့ မဖြစ်ဘူး၊ မူးရူးပြီး ကိုယ်ကျိုးကြီး နည်းတော့မယ်ဟု သဘောပေါက်ပြီး ရှောင်ကြဉ်နိုင်မှသာ ဘဝတာအနေလှ၊ အသေလှ၊ နောက်နောင် ဘဝတွေမှာ ချမ်းသာကြမည်ဖြစ်သည်ကို သတိတမန် သံဝေဉာဏ်ဖြစ်ပွား ရှောင်ရှားနိုင်ကြပါစေ။



## မေးခွန်း (၇)

**အမေး (က)** ရဟန်းသံဃာများသည်မိမိကျောင်းကထိန်၏ အာနိသင်ကို ခံယူပြီးပါလျက် တစ်ပါးသော ဘုရားစေတီဝင်းအတွင်း ပုရိမ ဝါကပ်သူမရှိဘဲ ကျောင်းအဖြစ်လည်း မသတ်မှတ်ဘဲ ယင်းနေရာ၌ ဗုဒ္ဓကထိန်ဟု အမည်တပ်၍ ကထိန်ခင်းခွင့် ရှိနိုင်–မရှိနိုင်။

**အမေး (ခ)** ရဟန်းသံဃာများသည် ဝတ္ထုငွေများကို မိမိကိုယ်တိုင် အလှူခံ၍ မိမိကိုယ်တိုင် သန်လျက်ကိုင်ပြီး ဘုရားစေတီ တည်ခွင့်ရှိသည်–မရှိသည် သိလိုပါသည်။

မင်းကျော်စိုးနိုင်၊ နီးမှတ်ကျေးရွာ၊ ချောင်းဦးမြို့နယ်။

**အဖြေ(က)** မိမိကျောင်းတိုက် ကထိန်၏ အာနိသင်ကို ခံယူပြီး (မိမိကျောင်းမှာ ကထိန်ခင်းပြီး) သော ရဟန်းသည် မိမိကျောင်းတိုက်မှာဖြစ်စေ၊ အခြား မည်သည့် နေရာမှာဖြစ်စေ နောက်ထပ် ကထိန်ခင်းခွင့် အာနိသင် ခံယူခွင့် မရှိပါဘူး။

အချို့ ဒါယကာများ၊ အသင်းအဖွဲ့များဟာ ကိုယ့်အိမ်မှာဖြစ်စေ၊ အခြားသင့်လျော်တဲ့ တစ်နေရာရာမှာ ဖြစ်စေ တစ်ခုခုသော ကျောင်းတိုက်အတွက် ကထိန်အလှူကို လုပ်လေ့ရှိကြပါသည်။ အဲသည် ကထိန်အလှူကို ကထိန်ဒကာများ ရည်မှန်းထားတဲ့ ကျောင်းတိုက်က သံဃာများဟာ ကထိန်မခင်းရသေးလျှင် ခံယူပြီး မိမိ ဝါဆိုရာ ကျောင်းတိုက်မှာ ကထိန်ပြန်ခင်းရပါမယ်။ တခြား ဘယ်နေရာ ဘယ်ဌာနမှာမှ ကထိန်ခင်းခွင့် မရှိပါဘူး။ ကထိန်ခင်းပြီးသား သံဃာများကတော့ ကထိန်၏ အခြံအရံဖြစ်တဲ့ လှူဖွယ်ဝတ္ထုများကိုသာ ခံယူနိုင်ပါတယ်။ ကထိန်သင်္ကန်းကို မခံယူနိုင်ပါဘူး။

**အဖြေ (ခ)** ရဟန်းတော်များဟာ ရွှေ ငွေကို မိမိတို့ ကိုယ်တိုင် အလှူခံပြီး ဘုရား စေတီ တည်ထားခွင့် မရှိ၊ မတည်နိုင် မတည်ကောင်း။

သည်အလှူငွေခံတဲ့ကိစ္စ သာသနာတော်မှာ အရေးကြီးတဲ့အချက် ဖြစ်တာကြောင့် အနည်းငယ် ဆက်လက်ပြော





လိုပါတယ်။ ရဟန်းတော်များဟာ ရွှေငွေကို မိမိအတွက်ဖြစ်စေ၊ သံဃာ၊ ဂိုဏ်း၊ ပုဂ္ဂိုလ်၊ စေတီ (ဘုရား) အတွက်ဖြစ်စေ ကိုယ်တိုင်လည်း အလှူမခံကောင်း။ သူများကိုလည်း အလှူခံမခိုင်းကောင်း။ အဲသည် အလှူခံလို့ရတဲ့ငွေနဲ့ ဝယ်တဲ့ ပစ္စည်းကို ငွေအလှူခံသူနှင့် တကွ အခြားဘယ်ရဟန်းမှ မသုံးစွဲကောင်း။ သုံးစွဲလျှင် အာပတ်သင့်ပါတယ်။

အချို့ ဒကာများဟာ ငွေကို ရဟန်းအနားမှာ လာချပြီးတော့ ဖြစ်စေ၊ ဘယ်သူ့ထံ, ဘယ်နေရာ, ဘယ်ဘက်မှာ ငွေဘယ်လောက် ရှိပါတယ်။ အဲသည်ငွေဟာ အရှင်ဘုရားအတွက် ပါပဲဟု ဆိုပြီး လှူတတ်ပါတယ်။ အဲသည် ငွေမျိုးကိုလည်း အလှူ မခံရပါဘူး။ ရွှေငွေဆိုတာ ငါတို့ မအပ်စပ်ဘူးလို့ နှုတ်နဲ့ ပြောပြီးတော့ ဖြစ်စေ၊ ဦးခေါင်းခါခြင်းစတဲ့ ကိုယ်အမူအရာ ပြပြီးတော့ ဖြစ်စေ (စိတ်ထဲက တကယ် မသာယာဘဲနဲ့) ပယ်လိုက်ရပါမယ်။ လှူသူက ဘယ်သူ့ကိုမှ အမှာအထား မရှိဘဲဖြစ်စေ၊ အနားရှိသူ တစ်ဦးဦးကို ဒီငွေနဲ့ ရဟန်းအလိုရှိတဲ့ ပစ္စည်းကို ဝယ်ပြီး လှူလိုက်ပါလို့ မှာကြားပြီး ထားပစ်ခဲ့လျှင် ဖြစ်စေ၊ အဲသည် ငွေဟာလည်း ရဟန်းအတွက် ဘယ်လိုမှ မအပ်စပ်ပါဘူး။ အလှူဒကာ မှာထားခဲ့သူက "အရှင်ဘုရား တပည့်တော်ထံမှာ ငွေဘယ်လောက်တန် အပ်သော ပစ္စည်းရှိပါတယ်။ အရှင်ဘုရား အလိုရှိတဲ့အခါ တောင်းခံတော်မူပါ" ဆိုလျှင် ရဟန်းက ငါ ဘာကိုအလိုရှိတယ်လို့ ပြောကောင်း

ပါတယ်။ ဘာဝယ်ပေးပါလို့တော့ မပြောကောင်းပါဘူး။ အဲဒီလို ဝယ်ခိုင်းလို့ ရလာတဲ့ ပစ္စည်းကို ရဟန်းများ မသုံးကောင်းပါဘူး။

နည်းနည်း ဆက်ပြောပါရစေ။ ယနေ့ လမ်းမပေါ် ဈေးဆိုင်ရှေ့၊ အိမ်ပေါ်၊ ရုံးတွေ၊ ဘုရားရင်ပြင်တော်ပေါ်တွေ တက်ကာ သင်္ကန်းဖိုး၊ စာအုပ်ဖိုး၊ ဆေးဖိုး ဘာဖိုး ညာဖိုး စသည် တစ်ခုခု အကြောင်းပြပြီး ပိုက်ဆံ အလှူခံသူတွေ၊ လမ်းဘေးတစ်နေရာရာမှာ ထိုင်လို့ ဖြစ်စေ၊ ရပ်လို့ဖြစ်စေ၊ တရားအားထုတ်နေသယောင် ဣန္ဒြေကြီး တစ်ခွဲသားနဲ့ အသံတိတ် ပိုက်ဆံတောင်းနေကြသူတွေကို အထင်ကြီး အဟုတ်မှတ်ပြီး ပိုက်ဆံလှူမိလျှင်တော့ အဲဒါ အဆိပ်ပင် ရေလောင်းမိတာပါပဲ၊ အဲဒါတွေကို လှူတာဟာ သာသနာတော်ကို ညစ်နွမ်းအားနည်း စေပါတယ်။ အလစ္ဆီရဟန်းတွေ တိုးပွားစေပါတယ်။ ဒါကြောင့် ငွေနဲ့ပတ်သက်ပြီး လှူတဲ့နေရာမှာ အပ်အပ်စပ်စပ် လှူတတ်အောင် လေ့လာသင်ကြား မှတ်သားဖို့ အထူးလိုအပ်ပါတယ်။ သဒ္ဓါတရားကို အလွဲသုံးစား လုပ်မိလျှင် ကျားသေကို အသက်သွင်းပေးမိတဲ့ သဋ္ဌိဝကဟာ အဲဒီကျားရဲ့ ကိုက်သတ်တာကို ခံလိုက်ရသလို ကိုယ်ကျိုးကြီးနည်းမှာ သေချာပါတယ်လို့ ပြောပါရစေ။

ဘုရားတည်တာနဲ့ ပတ်သက်ပြီး ဆရာသမားများထံက ကြားဖူးတာကလေးကို ပြောပြရလျှင် အင်းဝခေတ်





ဘကြီးတော်လက်ထက်က သာသနာပိုင် ဆရာတော်ကြီးက နာမည်ကျော် ဆရာတော် ဦးဗုဓ်ကျောင်းက ရဟန်းများ ဆေးလိပ်သောက်ကြတဲ့အတွက် ဆုံးမပေးဖို့ မဟာဒါန်ဝန်တွေ လွှတ်ပြီး လျှောက်ထားစေတဲ့အခါ ဆရာတော် ဦးဗုဓ်က "ငါ့ကျောင်းက ပဉ္စင်းတွေ ဆေးလိပ်သောက်တာ နင်တို့သာသနာပိုင် ဘုရားတည်တာလောက် မဆိုးဘူး၊ သွားကြ" လို့ ငေါက်လွှတ်လိုက်ပါသတဲ့။

ဆေးလိပ်သောက်တာက သောက်သူတစ်ဦးသာ အပြစ်ရှိနိုင်ပြီး ငွေအလှူခံပြီး ဘုရားတည်တာက သာသနာတော်မှာ အတော်ကျယ်ကျယ်ပြန့်ပြန့် အပြစ်ရှိသွားနိုင်တာကြောင့် ဖြစ်ပါတယ်။

## မေးခွန်း (၈)

**အမေး** ကွယ်လွန်သူအတွက် ကျန်ရစ်သူများက ကုသိုလ်ကောင်းမှုပြု၊ မေတ္တာပို့၊ အမျှဝေ ပြုလုပ်ကြပါတယ်။ ထိုကဲ့သို့ ကျန်ရစ်သူတွေ ပြုလုပ်ပေးတဲ့ ကောင်းမှုကုသိုလ်ဟာ ကွယ်လွန်သူအတွက် အမှန်ရပါသလား။ အကျိုးရှိနိုင်ပါသလား။ ကွယ်လွန်သွားတဲ့သူ ကုသိုလ်ကောင်းမှုရအောင် ဘယ်လိုနည်းသစ်များနဲ့ ပြုလုပ်ပေးလျှင် အကောင်းဆုံး ဖြစ်နိုင်မယ် ဆိုတာကို ရှင်းပြပေးစေလိုပါတယ်။

မခင်ဌေးစိုး၊
ထူပါရုံလမ်း၊ မောင်းတိုင်ရပ်၊
တောင်တွင်းကြီးမြို့။





**အဖြေ** မေးခွန်းမှာ (၁) မေတ္တာပို့၊ (၂)အမျှဝေလို့ နှစ်မျိုးပါတာ တွေ့ရပါတယ်။

(၁) အတွက်ဖြေရလျှင် မေတ္တာဟာ သက်ရှိသတ္တဝါကိုသာ အာရုံပြုပါတယ်။ ဘယ်သူ ဘယ်ဝါ ကျန်းမာချမ်းသာပါစေ စသည်ဖြင့် အသက်ရှင်နေသူကိုသာ အာရုံပြု ရည်မှန်းပြီး မေတ္တာပို့တာကိုပဲ ကြည့်ပါ။ ကွယ်လွန်ပြီး ဖြစ်တဲ့သူကို ကျန်းမာချမ်းသာပါစေလို့ ဆုတောင်း မေတ္တာပို့လျှင်ကော သူဟာ ကျန်းမာချမ်းသာ လာနိုင်ပါဦးမလား။ မကျန်းမာ မချမ်းသာနိုင်တော့ပါဘူး၊ ဒါကြောင့် ကွယ်လွန်ပြီးသူကို မေတ္တာပို့လို့ မရပါဘူး။

(၂) ကွယ်လွန်သူအား အမျှဝေရာမှာ နည်းလမ်းတကျ အလှူဒါန ပြုလုပ်ပြီး အမျှဝေလျှင် ကွယ်လွန်သူ အမှန်ရပါတယ်။ နည်းလမ်းတကျ မလုပ်လျှင်တော့ မရပါဘူး။

နည်းလမ်းတကျ လုပ်ပြီး အမျှဝေပုံကတော့ ...

ပေတကိစ္စ, လှူဒါနဒ္ဓ, ရည်ထပေးပြု, သာဓုခေါ်တတ်, လှူခံမြတ်မှ သေသူရ၏, ဆိုတဲ့အတိုင်း ကွယ်လွန်သူအတွက် ကုသိုလ်လုပ်တဲ့အခါ အမှတ်တမဲ့ မလုပ်ဘဲ (၁) အခု ငါလုပ်တဲ့ ကုသိုလ်ကောင်းမှုဟာ ကွယ်လွန်သူ မည်သူမည်ဝါအတွက် ဖြစ်စေ၊ ဒါဟာ ဘယ်သူ့အတွက် လုပ်တာလည်းဆိုတဲ့

လေးနက်တဲ့ ရည်ရွယ်ချက်ရှိရမယ်။ (၂) အမှုဝေတဲ့ အခါမှာ ကွယ်လွန်သူက ဒါဟာ ငါ့အတွက် လုပ်တာပဲလို့ သိပြီး ဝမ်းမြောက်ဝမ်းသာ သာဓုခေါ်နိုင်ရမယ်။

သည်အချိန်မှာ သေသူဟာ လူဖြစ်နေမယ်၊ တိရစ္ဆာန်ဖြစ်နေမယ်၊ ငရဲကျနေမယ်ဆိုလျှင်တော့ သာဓုမခေါ်နိုင်ပါဘူး၊ နတ်၊ ပြိတ္တာ တစ်မျိုးမျိုး ဖြစ်နေပြီး အမှုဝေတာကို ကြားသိနိုင်တဲ့ နေရာမျိုး ဖြစ်နေလျှင်တော့ သာဓုခေါ်နိုင်မှာ ဖြစ်ပါတယ်။ ဒါကြောင့် သည်လို ကုသိုလ်မျိုးလုပ်တော့မယ်ဆိုလျှင် မလှူခင် တစ်ရက်လောက်က ကြိုတင်ပြီး သုသာန်သို့ ဖြစ်စေ၊ အဲသည်လို ပုဂ္ဂိုလ်မျိုးတွေ ရှိတတ်တဲ့ နေရာမျိုးသို့ သွားပြီးတော့ ဖြစ်စေ, မိမိအိမ် တစ်နေရာရာမှာ နေပြီးတော့ ဖြစ်စေ ဘယ်သူ့အတွက် ဘယ်သူများက ဘယ်နေ့ ဘယ်ရက် ဘယ်နေရာ ဘယ်ဌာနမှာ အလှူဒါနပြုလုပ်ပြီး အမှုအတန်းပေးဝေကြပါမယ်။ ဘယ်သူ ဘယ်သူများနှင့်တကွ ကြားကြားသမျှ ပုဂ္ဂိုလ်တွေ အဲသည်ဌာနကို ကြွရောက်ပြီး သာဓု အနုမောဒနာ ခေါ်ဆိုတော်မူကြပါလို့ အသံကျယ်ကျယ်နဲ့ ကြိုတင် ဖိတ်ကြားထားရပါမယ်၊ အဲသည်လို ဖိတ်ကြားထားပြီးနောက်မှ အလှူဒါနပြုလုပ်ပြီး အမှုအတန်း ပေးဝေရပါမယ်။

(၃) အလှူခံပုဂ္ဂိုလ်ကလည်း မြတ်ရမယ်၊ သီလနဲ့





ပြည့်စုံရမယ်။ အနည်းဆုံး ငါးပါးသီလနဲ့ ပြည့်စုံရမယ်။ သည်နေရာမှာ အလှူခံဟာ သံဃာဖြစ်လျှင် (သံဃာ့ဂုဏ်ကို အာရုံပြုပြီး သံဃာကို ရည်မှန်း လှူဒါန်းလျှင်) အကောင်းဆုံးပါပဲ။ ရဟန်း သံဃာမှ မရနိုင်တဲ့ နေရာမျိုးဆိုလျှင်တော့ လူပုဂ္ဂိုလ် တစ်ယောက်ကို သရဏဂုံနှင့်တကွ ငါးပါးသီလ ဆောက်တည်စေပြီး လှူဒါန်းလျှင်လည်း ရပါတယ်။

သည်နေရာမှာ အလှူခံပုဂ္ဂိုလ်နဲ့ ပတ်သက်ပြီး စိတ်ဝင်စားစရာ အဖြစ်အပျက်ကလေး တစ်ခုကို ပြောရမယ်ဆိုလျှင် ရှေးအခါက ကွယ်လွန်ပြီး ပြိတ္တာဖြစ်နေသူ တစ်ယောက်အတွက် ဆွေမျိုးဉာတိများက အလှူလုပ်ပြီး သူ့ကို အမျှပေးဝေပါသတဲ့၊ အဲဒီလို အမျှပေးဝေပြီး ဆွေမျိုးတွေက ငါတို့ ဆွေမျိုး ပြိတ္တာကြီး သာဓုခေါ်ဆို အမျှရလို့ ချမ်းသာသွားပြီဆိုပြီး ကျေနပ်ဝမ်းသာနေကြတာပေါ့၊ အဲ မကြာပါဘူး၊ ပြိတ္တာကြီးက ဝင်ပူးပြီး "နင်တို့အမှုဝေတာ ငါ မရဘူး၊ ငါရမယ့် ကုသိုလ်တွေ ဒုဿီလကြီးက ကြားဖြတ်လုယူသွားတယ်" လို့ ပြောပါလေရော။ သည်အခါ ဆွေမျိုး တစ်သိုက်ဟာ ရှုတ်ရှုတ်သဲသဲ ဖြစ်ပြီး အလှူခံပုဂ္ဂိုလ်ကို သေသေချာချာ စိစစ်တဲ့အခါ ပြိတ္တာကြီးပြောတဲ့အတိုင်း ဒုဿီလကြီး ဖြစ်နေတာကို သိရပြီး သူ့ကို့ထဲက လေးစားရတဲ့ လူတစ်ယောက်ကို သရဏဂုံသီလ

ဆောက်တည်စေပြီး သူတို့မှာရှိတဲ့ တဘက် တစ်ထည်ကို အဲသည် ပုဂ္ဂိုလ်ကို လှူဒါန်းပြီး အမျှဝေလိုက်မှ ပြိတ္တာကြီးဟာ သာဓုခေါ်ပြီး စည်းစိမ်ချမ်းသာကြီးကို ရသွားပါ သတဲ့။

ဒါကြောင့် ဖော်ပြပြီးအတိုင်း နည်းလမ်းတကျ အလှူဒါနလုပ်ပြီး အမျှအတန်း ပေးဝေလျှင် ကွယ်လွန်သူ အမှန်ရနိုင်ပါတယ်လို့ ဖြေခဲ့တာ ဖြစ်ပါတယ်။



## မေးခွန်း (၉)

**အမေး(၁)** ထေရဝါဒဗုဒ္ဓဘာသာနဲ့ ယာန ဗုဒ္ဓဘာသာ ကွဲပြားခြားနားပုံကို အသေအချာ သိချင်ပါတယ်။

**အမေး(၂)** မြတ်စွာ ဘုရား ရုပ်ပွားတော်ကို မိန်းမ မကိုင်ရ၊ ပင့်ဆောင်ခြင်း မပြုရ၊ ထိုသို့ ပြုလျှင် အကုသိုလ်ဖြစ်သည် ဆိုသည့် သတ်မှတ်ချက် ရှိပါသလား။

**အမေး (၃)** ကျွန်မတို့ အိမ်မှာ ဆွမ်းခံဝင်တဲ့ ပဉ္စင်းတချို့ ရှိပါတယ်။ တစ်ပါးမှာ

ဆိုလျှင် လက်သန်း လက်သည်းကို ဖြတ်လှီးမထားဘဲ ရှည်ရှည် ထားပါတယ်။ (ဘာသဘောနဲ့ ထားသလဲ မသိပါ။) တချို့ကျတော့ မျက်နှာတည်ငြိမ်မှု မရှိဘဲ ဟိုကြည့် သည်ကြည့် သင်္ကန်းစ (လက်နေရာ၊ ကော်လာနေရာ) များကို လှုတွေ လှချင်လို့ သ,သလို သ,နေတတ်ပါသည်။ အဲဒါတွေကို မြင်တော့ ကျွန်မစိတ်ထဲ သဘောမတွေ့ပါ။ ဆွမ်းလောင်းလှူရာမှာ သံဃာ့ဂုဏ်ကို ရည်စူးလို့ လောင်းချင်ပေမယ့် ရပ်က ရည်စူးစရာ မကောင်းတော့ ကျွန်မစိတ်ထဲမှာ သံဃာဆိုတဲ့ စိတ်နဲ့ မလောင်းလှူဖြစ်ပါ။ ဝတ်ကျေ တမ်းကျေ သဘောပဲ လောင်းပါတယ်။ အဲဒီကိစ္စမှာ ကျွန်မအနေနဲ့ ကုသိုလ်ရ-မရ၊ အကုသိုလ် ဖြစ်-မဖြစ် သိချင်ပါတယ်။

နိုင်သဇင်၊ စစ်တွေ။

**အဖြေ(၁)** ဗုဒ္ဓဘာသာလောကမှာ ထေရဗုဒ္ဓဘာသာ၊ ယာနဗုဒ္ဓဘာသာ ဆိုတဲ့ ဝေါဟာရ မရှိပါဘူး။ ထေရဝါဒဗုဒ္ဓဘာသာ၊ မဟာယာန ဗုဒ္ဓဘာသာ၊ ဟီနယာန ဗုဒ္ဓဘာသာဆိုတဲ့ ဝေါဟာရသာ ရှိပါတယ်။

သည်ဘာသာတွေရဲ့ ကွဲပြားခြားနားချက်တွေက အတော်များများပြား ကျယ်ဝန်းတာမို့ သည်နေရာမှာ သိသာရုံ





အနည်းငယ် မျှသာ ဖော်ပြနိုင်မှာ ဖြစ်ပါတယ်။ [ယခု မြန်မာ သီဟိုဠ် (သီရိလင်္ကာ) ထိုင်းနိုင်ငံတို့မှာ ကျင့်သုံးပါတယ်။]

၁။ ရှင်တော်ဘုရား ဟောကြားထားတဲ့ တရားတော်တွေကို တစ်စုံတစ်ရာ ပြုပြင်ပြောင်းလဲ ပယ်နုတ်ဖြည့်စွက်ခြင်း မပြုဘဲ သူ့အရှိအတိုင်း လိုက်နာကျင့်သုံးတဲ့ ဗုဒ္ဓဘာသာကို ထေရဝါဒ ဗုဒ္ဓဘာသာလို့ ခေါ်ပါတယ်။

၂။ ရှင်တော်ဘုရား ဟောကြားထားတဲ့ တရားတော်တွေကို အရှိအတိုင်း မဟုတ်ဘဲ ကာလဒေသ စသည်အလိုက် ကိုက်ညီအောင် ပြုပြင်ပြောင်းလဲ ကျင့်သုံးပြီး သာဝကအဖြစ် ပစ္စေကဗုဒ္ဓါ အဖြစ်နဲ့ နိဗ္ဗာန်မရနိုင်။ သမ္မာသမ္ဗုဒ္ဓ ဘုရားဖြစ်မှ နိဗ္ဗာန်ရနိုင်တယ် ယူဆတဲ့ ဗုဒ္ဓဘာသာကို မဟာယာန ဗုဒ္ဓဘာသာလို့ ခေါ်ပါတယ်။ ယခု တိဗက်၊ တရုတ်၊ ဂျပန်၊ ကိုရီးယား စတဲ့ နိုင်ငံတွေမှာ ကျင့်သုံးပါတယ်။

၃။ ဗုဒ္ဓတရားတော်များကို ထေရဝါဒလို အရှိအတိုင်း လိုက်နာကျင့်သုံးတာလည်း မဟုတ်၊ မဟာယာနလောက် ပြုပြင်ဖြည့်စွက် ပယ်နုတ်ခြင်းလည်း မပြုတဲ့ ဗုဒ္ဓဘာသာကို ဟီနယာန ဗုဒ္ဓဘာသာလို့ ခေါ်ပါတယ်။ သည် ဗုဒ္ဓဘာသာကို မဟာယာနတွေက သူတို့လို မဟာယာန တစ်ခုတည်းကိုသာ လက်မခံဘဲ သာဝကယာန၊ ပစ္စေကဗောဓိယာနဆိုတဲ့ နိမ့်ကျတဲ့ ယာနနှစ်ခုကို လက်ခံတဲ့အတွက် တစ်ကြောင်း၊ သူတို့နဲ့ ...အဆ မတူမျှတာလည်း တစ်ကြောင်းကြောင့် ဟီနယာန

(အနိမ့်စားဂိုဏ်း) လို့ နှိမ်ပြီး ခေါ်တာဖြစ်ပါတယ်။ သည်ဂိုဏ်းကို ရှေးက အိန္ဒိယပြည်၊ ဂန္ဓာရတိုင်း ကသ္မီရတိုင်း (ယခု ကက်ရှမီးယားပြည်နယ်) တို့မှာ ကျင့်သုံးခဲ့ပါတယ်။ ယခုသည် ဟီနယာနဂိုဏ်းဆိုတာ ဗုဒ္ဓဘာသာ လောကက ကွယ်ပျောက်သွားပါပြီ။ တချို့က ထေရဝါဒကို ဟီနယာနလို့ ထင်နေကြ ပြောဆိုနေကြပါတယ်။ ထေရဝါဒနဲ့ ဘာမှ မဆိုင်ပါဘူး၊ တခြားစီ ဖြစ်ပါတယ်။

**အဖြေ(၂)** ဗုဒ္ဓရုပ်ပွားတော်ကို အမျိုးသမီးများ လက်နဲ့ ကိုင်ကောင်းပါတယ်။ မြတ်စွာဘုရား ဖြစ်ပြီးခါစ ကပိလဝတ် နေပြည်တော်ကြွလာစဉ်က ယသော်ဓရာ မိဖုရားဟာ ရှင်တော်ဘုရားရဲ့ ခြေတော်နှစ်ဘက်ကို လက်နဲ့ကိုင် ခြေဖမိုးတော်ထက်မှာ နဖူးတင် ပြီး အားပါးတရ ငိုကြွေးခဲ့ကြောင်း ကျမ်းဂန်များမှာ အဆိုရှိတာဟာ အခိုင်မာဆုံးသော သာဓက ဖြစ်ပါတယ်။ ဒါကြောင့် ရုပ်ပွားတော်မှာ ရှိနေတဲ့ ဖုန်, မှုန်စတဲ့ အညစ်အကြေးများကို အမျိုးသမီးများ လက်နဲ့ ကိုင်ပြီး ပွတ်သပ်ဆေးကြော သုတ်သင်တာဟာ အလွန်ကြီးကျယ်တဲ့ ကုသိုလ်ရကြောင်း အလုပ်ကောင်းဖြစ်တာမို့ ရုပ်ပွားတော်များကို ရိုရိုသေသေ လေးလေးစားစားနဲ့ ရဲရဲဝံ့ဝံ့ ကိုင်တွယ်ပွတ်သပ်၍ ဆေးကြော သုတ်သင်ကြပါဟု တိုက်တွန်းလိုက်ပါတယ်။





**အဖြေ (၃)** သူတို့ရဲ့ ကြည်ညိုဖွယ်ရာ အမူအရာတွေကြောင့် သံဃာ့ဂုဏ်ကို အာရုံပြုလို့ မရတဲ့ ဝတ်ကျေတမ်းကျေ ဆွမ်းလောင်းလှူမှုကြောင့် အကုသိုလ် မဖြစ်ပါဘူး၊ ကုသိုလ်ဖြစ်ပါတယ်၊ ဒါပေမယ့် ဖြူစင်တောက်ပတဲ့ ကုသိုလ်မျိုး မဖြစ်နိုင်တာကြောင့် အကျိုးပေးတဲ့ နေရာမှာ ဖွံ့ဖြိုးမှု အားနည်းစရာ ရှိပါတယ်။ ဒီလို အားနည်းစရာ ရှိတာကြောင့် "လှူတဲ့တန်းတဲ့အခါ အမှတ်တမဲ့ နှမော်နှမဲ့မလှူနဲ့၊ အလှူခံပုဂ္ဂိုလ်ဟာ သီလဝန္တလား၊ ဒုဿီလလား ဆိုတာ စိစစ်ပြီးမှ လှူ။ သီလဝန္တပုဂ္ဂိုလ်အား လှူတဲ့အလှူမှ မြိုင်မြိုင်ဆိုင်ဆိုင် ဖွံ့ဖွံ့ဖြိုးဖြိုး ကြီးမားတဲ့ အကျိုးကို ပေးတယ်" ဆိုတဲ့ ရှင်တော်ဗုဒ္ဓရဲ့ သွန်သင်ညွှန်ပြချက်ကို မျက်ခြည်မပြတ် သတိချပ်ပြီး လှူမိတန်းမိကြဖို့ အထူး လိုအပ်ပါတယ်။

လက်သည်းရှည်ကြီးကို မထားကောင်းပါဘူး။ လက်ထိပ်အသားနဲ့ ညီရုံသာ ထားကောင်းပါတယ်။ ခြေသည်းလည်း ထို့အတူပါပဲ။ အဲဒီ ခြေသည်း လက်သည်း ရှည်ကြီးတွေ ရှိနေသမျှ အမြဲတမ်း အာပတ်သင့်နေပါတယ်။

မေးခွန်းရှင်ရဲ့ စကားအတိုင်း "ရုပ်က ရည်စူးစရာ မကောင်းတော့ သံဃာ့ဂုဏ်ကို အာရုံပြုပြီး သံဃာကို ရည်စူးလို့ မရဘူး" ဆိုတာ မှန်ပါလိမ့်မယ်၊ သံဃာအနေနဲ့ လာတဲ့ ပုဂ္ဂိုလ်ရဲ့ သွားဟန်လာဟန်၊ နေထိုင်စားသောက်ဟန်၊ ပြောဟန် ဆိုဟန်တွေက ဣန္ဒြေသိက္ခာ စောင့်စည်းမှုရှိတဲ့ အမူအရာ

ပေါ်ပြီး သံဃာပုံပေါက်မှသာ ဖူးတွေ့ရသူတွေ အနေနဲ့ ပြော်...ဖူးမြင်ရတာ ကြည်နူးစရာ ကောင်းလိုက်ပါဘိ။ ရှေးက အရှင်သာရိပုတ္တရာ အစရှိတဲ့ သံဃာတော်မြတ်ကြီး တွေဟာ ဒီလိုနေမှာပဲနော်...စသည်ဖြင့် သံဃာစစ် သံဃာမှန် ပရမတ္ထ အရိယာ သံဃာတော်မြတ်ကြီးတွေကို မြင်ယောင်ကာ သံဃာ့ဂုဏ်ကို အာရုံပြု သံဃာကို ရည်စူးရမှာ ဖြစ်ပါတယ်။

ဒါကြောင့် သာသနာ့ဝန်ဆောင် အရှင်မြတ်များ အနေနဲ့ ကိုးကွယ်ဆည်းကပ်သူ၊ ဒကာ ဒကာမများ ကုသိုလ် သဒ္ဓါတရား ဖြစ်ပွားရေး၊ သာသနာတော် စည်ပင်ပြန့်ပွား ထွန်းကားရေး၊ သာသနာ့ဂုဏ်ရောင် ထွန်းပြောင်ထိန်လင်း ဂုဏ်ရောင်ထွက်၍ အရှိန်အဝါ ကြီးမားတက်ရေးအတွက် ဆောင် ရွက်တော်မူကြပါစေကြောင်း ဆုတောင်းရပါတယ်။



## မေးခွန်း(၁၀)

**အမေး(၁)** ဥပုသ်ရဲ့ အနက်အဓိပ္ပာယ်ကို သိလိုပါတယ်။

**အမေး(၂)** ဥပုသ်စောင့်တဲ့အခါ ငါးပါးသီလ၊ ရှစ်ပါး၊ ကိုးပါး၊ ဆယ်ပါး သီလတို့ တွင် ဘယ်သီလမှ အကျိုးရှိတယ်ဆိုတာကို ဖြေကြားပေးစေ [illegible]တယ်။

ဒွေးမောင် (လယ်ကိုင်း၊ [illegible]ဖြူမြို့နယ်)

**အဖြေ(၁)** ဥပုသ်ရဲ့ အနက်အဓိပ္ပာယ်အမေးမှာ ပါသလို "ဦးပုတ်" မဟုတ် "ဥပုသ်" ဖြစ်သည်။ "ဥပုသ်" ဆိုတဲ့ စကားလုံးဟာ "ဥပေါသထ" ပါဠိပျက်စကားလုံး ဖြစ်သည်။ "ဥပေါသထ" ဆိုတဲ့ စကားလုံးဟာလည်း "ဥပ–ဝသထ" ဆိုတဲ့ ပုဒ်နှစ်ပုဒ်ကို သဒ္ဒါနည်းနဲ့ ပြုပြင်စီရင်ပြီး တစ်ပုဒ်တည်း ဖြစ်အောင် လုပ်ထားတဲ့ စကားလုံးပါ။

ဥပ–ညစာမစားခြင်း၊ အသက်မသတ်ခြင်း စတဲ့ အကျင့်ကောင်းနဲ့ ပြည့်စုံ၍၊ ဝသထ–နေခြင်း၊ ဥပဝသထ–ဥပေါသထ–ဥပုသ်–ညစာ မစားခြင်း၊ သူ့အသက် မသတ်ခြင်း စတဲ့ အင်္ဂါရှစ်ပါးနဲ့ ပြည့်စုံတဲ့ သီလကို ခံယူဆောက်တည်ပြီး (ဘုရားဂုဏ်၊ တရားဂုဏ် စတဲ့ အာရုံများကို အာရုံပြု ဘာဝနာပွားကာ) အကုသိုလ်စိတ်များ မဖြစ်စေဘဲ စိတ်စင်ကြယ်အောင် စောင့်စည်းနေထိုင်မှုကို ဥပုသ်စောင့်တယ်လို့ ခေါ်ပါတယ်။

**အဖြေ(၂)** ငါးပါး၊ ရှစ်ပါး၊ ကိုးပါး၊ ဆယ်ပါး သီလတွေ တစ်မျိုးထက်တစ်မျိုး ပိုပြီး စိတ်စင်ကြယ်စေ ကုသိုလ်ဖြစ်စေတဲ့ သီလတွေ ဖြစ်ပါတယ်။ ဒါပေမယ့် သည်ရှစ်ပါးသီလ စသည်ကို ခံယူဆောက်





တည်ရုံမျှနဲ့တော့ အကျိုးကြီးတယ်လို့ မဆိုနိုင်ပါဘူး၊ ဘာကြောင့်လဲ ဆိုတော့...

ဥပုသ်က (၁) အရိယ (မြတ်သော) ဥပုသ်၊ (၂) ဂေါပါလ (နွားကျောင်းသားစောင့်နည်း) ဥပုသ်လို့ အချုပ်အားဖြင့် နှစ်မျိုးရှိပါတယ်။ အဲသည်နှစ်မျိုးမှာ အရိယ ဥပုသ်ဟာ...

(၁) ရှစ်ပါးသီလ ခံယူဆောက်တည်ပြီး ဗြဟ္မမည်တော်မူသော ဘုရားရှင်၏ ဂုဏ်တော်တွေကို အာရုံပြု အောက်မေ့နေတဲ့ ဗြဟ္မဥပုသ်။

(၂) ရှစ်ပါးသီလ ခံသူဆောက်တည်ပြီး သွာက္ခာတတာ စရှိတဲ့ တရားတော်၏ ဂုဏ်တော်တွေကို အာရုံပြု အောက်မေ့နေတဲ့ ဓမ္မဥပုသ်။

(၃) ဥပုသ်သီလ ခံယူပြီး သံဃာတော်မြတ်၏ သုပ္ပဋိပန္နတာ အစရှိတဲ့ ဂုဏ်ကို အာရုံပြု အောက်မေ့နေတဲ့ သံဃာဥပုသ်။

(၄) ဥပုသ်သီလ ခံယူပြီး ယနေ့ နောက်နောက်က စောင့်ထိန်းခဲ့တဲ့ မိမိသီလ၏ စင်ကြယ်ပုံကို အာရုံပြု အောက်မေ့နေတဲ့ သီလဥပုသ်။

(၅) ဥပုသ်သီလခံယူပြီး နတ်များကို ပမာတင်ကာ မိမိ သန္တာန်မှာရှိတဲ့ သဒ္ဓါ သီလ အစရှိသော သူတော်ကောင်း တရားများကို အောက်မေ့ ဆင်ခြင် စိတ်ကြည်လင်ဝမ်းမြောက် နေတဲ့ ဒေဝတာ (နတ်) ဥပုသ်လို့ ငါးမျိုး ရှိပါတယ်။

သီလဆောက်တည်ပြီး တရားထိုင်ခြင်း၊ တရားဆွေးနွေးခြင်း၊ တရားစာပေ ဖတ်ကြားခြင်း၊ တရားနာခြင်းများကိုလည်း အရိယဥပုသ်လို့ ဆိုနိုင်ပါတယ်။

သည်အရိယာဥပုသ်တွေထဲက တစ်မျိုးမျိုးကို စောင့်သုံးမှသာ ဥပုသ်ဟာ အကျိုးကြီးပါတယ်။ ဒါကြောင့် ဥပုသ်စောင့်တဲ့အခါ သီလခံယူပြီးလျှင် ဥပုသ်စောင့်တဲ့ကိစ္စ ပြီးတာပဲလို့ မယူဆဘဲ အရိယဥပုသ်ဖြစ်အောင် စောင့်ဖို့ လိုတယ်ဆိုတာ သတိပြုရပါမယ်။

ဖော်ပြပြီးအတိုင်း အရိယဥပုသ်ဖြစ်အောင် မစောင့်ဘဲ သီလခံယူပြီး အထူးချက်ပြုတ် စီမံလာတဲ့ စားကောင်းသောက်ဖွယ်များကို တပျော်တပါး စားသောက်ကြပြီး...

အင်း...သည်နေ့ဖြင့် စားလို့သောက်လို့ ကောင်းပေါ့။ နက်ဖြန်ကျ သည်လိုမြိန်မြိန်ကလေး စားရအောင် ဘယ်ဟင်းလေး ချက်လိုက်မယ် စသည်ဖြင့် စားရေးသောက်ရေး၊ သားသမီးရေး စတဲ့ လောကီရေးရာတွေကို ပြောဆိုကြံစည်နေတဲ့ ဥပုသ်ဟာ သည်နေ့ ဘယ်နေရာမှာ နွားများ မြက်စားရေသောက်ကြသည်။ နက်ဖြန် ဘယ်နေရာမှာ အစာစားပြီး ရေသောက်ကြလိမ့်မည် ဟု နွားကျောင်းသား၏ ကြံစည်ခြင်းနဲ့တူတဲ့အတွက် ဂေါပါလ (နွားကျောင်းသား) ဥပုသ်ဖြစ်ပါတယ်။





ဒီ ဂေါပါလ ဥပုသ်ကတော့ လုံးလုံး အကျိုးမရဘူးလို့ မဆိုနိုင်ပေမယ့် အင်မတန် အကျိုးအရ နည်းပါတယ်။ ဒါကြောင့် သည်လို ဂေါပါလ ဥပုသ်မျိုးမဖြစ်အောင် ရှောင်ကြဉ်ရပါတယ်။

သိသာရုံ အကျဉ်းမျှ အဖြေပေးလိုက်ပါတယ်။ ဥပုသ်နဲ့ ပတ်သက်ပြီး သိစရာ မှတ်စရာ စိတ်ဝင်စားစရာတွေ အတော်များပါတယ်။ သက်ဆိုင်ရာ စာအုပ်တွေ ရှာဖွေလေ့လာဖို့ တိုက်တွန်းလိုက်ပါတယ်။

# မေးခွန်း(၁၁)

**အမေး(က)** ဗုဒ္ဓဘာသာတွင် တိတ္ထိ၊ မိစ္ဆာ(ဒိဋ္ဌိ) ဆိုသော ပုဂ္ဂိုလ်များသည် မည်ကဲ့သို့သော ပုဂ္ဂိုလ်များကို ခေါ်ကြောင်း ရှင်းပြပေးပါ။

**အမေး(ခ)** အသက် ပေါင်း မြောက်မြားစွာ သတ်ခဲ့သောသူ၊ မကောင်းမှုများစွာ ပြုလုပ်ခဲ့သောသူသည် သေခါနီးတွင် အမြင်မှန်ရ၍ အကျွတ်တရားရလျှင် အပါယ် ငရဲမကျဘဲ ကောင်းရာသုဂတိ ရောက်နိုင်ပါသလား။ မကောင်းမှုပြုပြီး ကောင်းမှုပြုပါက အပါယ်ငရဲမှ လွတ်ပါ သလား။





**အမေး(ဂ)** ဗုဒ္ဓဘာသာဝင် တစ်ဦးက ဗုဒ္ဓဘာသာ တရားတော်သာ သံသရာမှ လွတ်မြောက်ကြောင်းတရား မှန်သည်။ အခြားဘာသာ မမှန်ဟု ဆိုပြီး အခြားဘာသာဝင်တို့ကိုလည်း သူ့ဘာသာမှန်သည်။ အခြားဘာသာ မမှန်ဟု ဆိုကြသည်ကို ဘယ်လိုမှတ်ရပါမည်နည်း။

**အမေး(ဃ)** ကိလေသာ ၁၅၀၀ ရှာပြပေးပါ။

မောင်အောင်ဝင်းဆွေ
အမှတ် ၆–က၊ မြန်အောင်မြို့။

**အဖြေ(က)** သာမညဖလသုတ်မှာလာတဲ့ နတ္ထိက ဒိဋ္ဌိ၊ အဟေတုက ဒိဋ္ဌိ၊ အကြိယ ဒိဋ္ဌိ စတဲ့ အယူမှားများကို တီထွင်သူ ပူရဏကဿပ အစရှိတဲ့ တိတ္ထိဆရာကြီးများနဲ့ သူတို့ရဲ့ တပည့်သာဝက နောက်လိုက် နောက်ပါများကို တိတ္ထိတွေလို့ ခေါ်ပါတယ်။
(အကြိယကို အကိရိယဟု ဖတ်ပါ)

ရုပ် ဝေဒနာ သညာ သင်္ခါရ ဝိညာဉ်ဆိုတဲ့ ခန္ဓာငါးပါး တွင် တစ်ပါးပါး အပေါ်မှာ အတ္တလို့ စွဲလမ်းတဲ့ သက္ကာယဒိဋ္ဌိ၊ [illegible]ဇာလသုတ်မှာလာတဲ့ ၆၂–ပါးသော မိစ္ဆာအယူများ၊ [illegible]ဖလသုတ်မှာလာတဲ့ ပူရဏကဿပဝါဒစတဲ့ မိစ္ဆာ

အယူများ စသည်တို့ဟာ မိစ္ဆာဒိဋ္ဌိ (မှားယွင်းသော အယူ) များ ဖြစ်ပါတယ်။ အဲသည် အယူများကို လက်ခံလိုက်နာကျင့်သုံးတဲ့ ပုဂ္ဂိုလ်များကို မိစ္ဆာဒိဋ္ဌိများလို့ ခေါ်ပါတယ်။

အချုပ်မှာတော့ တိတ္ထိဆရာကြီး ခြောက်ယောက်နဲ့ သူတို့ရဲ့ တပည့် သာဝက နောက်လိုက် နောက်ပါများကို တိတ္ထိလို့ခေါ်ပြီး သူတို့နဲ့တကွ သူတော်သူမြတ်တို့ ဟောဖော်ပညတ်အပ်တဲ့ တရားမှန်ကို မလိုက်နာဘဲ မှားယွင်းဖောက်ပြန် မမှန်မကန် ယူဆကျင့်ကြံသူများ အားလုံးကို မိစ္ဆာဒိဋ္ဌိလို့ ခေါ်ဝေါ် သုံးစွဲတာ ဖြစ်ပါတယ်။

နတ္ထိက–နောက်နောင် ဘဝမှာ အကျိုးမရှိဟု အကျိုးဝိပါက်ကို တားမြစ်တဲ့ အယူကို နတ္ထိကဒိဋ္ဌိလို့ ခေါ်ပါတယ်။ ဒီ နတ္ထိကဒိဋ္ဌိ အယူရှိသူဟာ နောင်ဘဝမရှိ။ သတ္တဝါဟာ သေလျှင်ပြီးတာပဲ။ ပြတ်တာပဲလို့ယူဆတဲ့ ဥစ္ဆေဒဒိဋ္ဌိ အယူရှိသူလည်း ဖြစ်ပါတယ်။ သည်အယူမှာ အကျိုးကို ပယ်လျှင် အကြောင်းကိုလည်း ပယ်ပြီး ဖြစ်တယ်ဆိုတာ မှတ်ရပါမယ်။

အဟေတုက–အကြောင်းလည်း မရှိ။ အကျိုးလည်း မရှိဟု ကြောင်းကျိုးနှစ်မျိုးကို တိုက်ရိုက်ပယ်တဲ့ အယူကို အဟေတုကဒိဋ္ဌိလို့ ခေါ်ပါတယ်။ အကြောင်း မရှိလို့ ဆိုလိုက်သဖြင့် အကြောင်းနဲ့ ဆက်သွယ်ပြီး ဖြစ်ရတဲ့ အကျိုးလည်း မရှိလို့ ဆိုရာရောက်တဲ့အတွက် သည်အဟေတုက ဒိဋ္ဌိဟာလည်း ကြောင်းကျိုးနှစ်မျိုးလုံးကို ပယ်ရာ ရောက်ပါတယ်။





အကြိယ–ကောင်းမှု မကောင်းမှုကို ပြုသော်လည်း ပြုအပ်သည် မမည်။ ပြုရာမရောက်ဟု အကြောင်းကံကို တားမြစ်တဲ့ အယူကို အကြိယဒိဋ္ဌိလို့ ခေါ်ပါတယ်။ သည်အယူမှာ ကံကိုတားမြစ်လျှင် ကံအကျိုးလည်း နောင်ခါမရှိနိုင်ဟု တားမြစ်ရာ ရောက်တဲ့အတွက် ကံ,ကံ၏အကျိုး နှစ်မျိုးလုံးကို တားမြစ်ရာ ရောက်ပါတယ်။

ဖော်ပြပြီး အားလုံးကို ခြုံသုံးသပ်လိုက်လျှင် ဒိဋ္ဌိသုံးမျိုးလုံးဟာ ကံ,ကံ၏ အကျိုး နှစ်မျိုးလုံးကို တားမြစ်ရာ ရောက်တယ်လို့ မှတ်သားဖို့ ဖြစ်ပါတယ်။

**အဖြေ (ခ)** သည်မေးခွန်းကို ပထမပိုင်း ဒုတိယပိုင်းလို့ နှစ်ပိုင်းခွဲဖြေရပါ့မယ်။

ပထမပိုင်းအတွက် ဖြေရလျှင် သုဂတိဘုံဘဝ ရောက်နိုင်ပါတယ်လို့ ဖြေရပါမယ်။ ဒါပေမယ့် ရောက်ဖို့ အခွင့်အလမ်းကတော့ အင်မတန် နည်းပါးပါတယ်။ သုဂတိဘုံဘဝ ရောက်ရတာက နောက်နောက်က မှတ်လောက်သားလောက် ပြောက်လို့ မရနိုင်လောက်တဲ့ ကုသိုလ်ဖြစ်စေ၊ လက်ရှိဘဝမှာ အဆက်မပြတ် လုပ်လာခဲ့တဲ့ (အာစိဏ္ဏကံ) ကုသိုလ်တွေထဲက ကုသိုလ်တစ်ခုခု ဖြစ်စေ၊ သေခါနီးမှာ မိတ်ကောင်းဆွေကောင်း တစ်ဦးဦးရဲ့ အကူအညီနဲ့ လုပ်လိုက်ရတဲ့ (အာသန္နကံ) ကုသိုလ်ဖြစ်စေ၊ အဲဒီ ကုသိုလ်တွေထဲက ကုသိုလ်တစ်ခုခုဟာ

သေခါနီးဆဲဆဲ ပုဂ္ဂိုလ်ရဲ့ စိတ်ထဲမှာ ပေါ်လာပြီး အဲသည် ကုသိုလ်ကို အာရုံပြုတဲ့ စိတ်ကလေးနဲ့ သေသွားရမှသာ သုဂတိဘုံ ဘဝ ရောက်နိုင်တာ ဖြစ်ပါတယ်။

သည်တော့ အသက်ပေါင်းများစွာ သတ်ခဲ့သူ၊ မကောင်း မှုများစွာ ပြုလုပ်ခဲ့သူဟာ သေခါနီးမှာ သူပြုလုပ်ခဲ့တဲ့ အကုသိုလ်မှ တွေသာ စိတ်ထဲပေါ်လာပြီး အဲသည် အကုသိုလ်ကို အာရုံပြုတဲ့ စိတ်နဲ့ပဲ သေရဖို့ အခွင့်အလမ်း များပါတယ်။ ဒါကြောင့် ဘဝတစ်လျှောက် သိတတ်တဲ့ အရွယ်ကစပြီး အကုသိုလ်အဖြစ် နည်းနိုင်သမျှနည်းပြီး ကုသိုလ်အဖြစ် များနိုင် သမျှ များအောင် နေတတ်ဖို့၊ နေနိုင်ဖို့ အရေးကြီးလှပါတယ်။

ဒုတိယပိုင်း အဖြေ– မကောင်းမှုပြုပြီး ကောင်းမှု ပြုပါက အပါယ်ငရဲမှ လွတ်ပါသလား။ အင်္ဂုလိမာလကို သာဓကပြုပြီး ရှင်းလင်းပေးပါဆိုတဲ့ မေးခွန်းအဝ္ဝက် အင်္ဂုလိမာလကို ကြည့်ပြီး ဖြေရလျှင် အပါယ်ငရဲမှ လွတ်တယ် လို့ ဖြေရမှာ ဖြစ်ပါတယ်။ ဒါပေမယ့် အင်္ဂုလိမာလကို သာဓကပြုပြီး ဘယ်သူပဲဖြစ်ဖြစ် လွတ်နိုင်တယ်လို့တော့ မှတ်လို့မရပါဘူး။ ပြုတဲ့ ပုဂ္ဂိုလ်နဲ့ ပြုအပ်တဲ့ မကောင်းမှုတို့ရဲ့ အခြေအနေ စွမ်းရည်သတ္တိတို့ကို စိစစ်ဝေဖန်ပြီးတော့ သူ့ အပိုင်းနဲ့သူ ခွဲခြား မှတ်သားရမှာ ဖြစ်ပါတယ်။

မကောင်းမှုကံက (၁) သေလျှင် အပါယ်ကို မလွတ် တန်းကျမယ့် ပဉ္စာနန္တရိယကံနဲ့ နိယတ မိစ္ဆာဒိဋ္ဌိ ဆိုတဲ့





အလွန်ကြီးလေးတဲ့ မကောင်းမှု၊ (၂) ကျိန်းသေ အပါယ် မကျနိုင်သော်လည်း အပါယ်ကျစေနိုင်တဲ့ သတ္တိရှိတဲ့ မကောင်းမှု ကံလို့ နှစ်မျိုးရှိပါတယ်။

သည်နှစ်မျိုးအနက် (၁) နံပါတ် မကောင်းမှုမျိုးကို လုပ်မိလျှင် ဘယ်လို ကောင်းမှုမျိုးကို လုပ်လို့မှ အပါယ်က မလွတ်နိုင်ပါဘူး။ ဘယ်ကောင်းမှုမျိုးကမှ မကယ်တင်နိုင်ပါဘူး။

(၂) နံပါတ် မကောင်းမှုမျိုးကို အရိယာပုဂ္ဂိုလ်များ လုံးဝ မပြုလုပ်တော့ပါဘူး၊ အင်္ဂုလိမာလတို့လို ပစ္ဆိမဘဝိက ပုဂ္ဂိုလ်မျိုးက အရိယာမဖြစ်ခင် ပုထုဇဉ်ဘဝအနေနဲ့ လုပ်မိလို့ ရှိလျှင်လည်း အရိယာဖြစ်အောင် ပြုလုပ်ပေးတဲ့ မဂ်ကုသိုလ် က အပါယ်ချနိုင်တဲ့ အကုသိုလ်ကို အကြွင်းမဲ့ ဖျက်ဆီးပစ် လိုက်တဲ့အတွက် အဲဒီ အကုသိုလ်တွေက အပါယ်မချနိုင်တော့ ပါဘူး၊ အပါယ်က လွတ်ပါတယ်။

သာမန် ပုထုဇဉ် ပုဂ္ဂိုလ်များ လုပ်မိလျှင်တော့ သည်(၂) နံပါတ် မေးခွန်းရဲ့ ပထမပိုင်းအဖြေမှာ ပါတဲ့အတိုင်း ကုသိုလ် တစ်ခုခုက ကြားဝင် ကယ်မလိုက်လျှင် အပါယ်က လွတ်နိုင်ပါတယ်။ သည်လို လွတ်တာဟာလည်း အရှင်အင်္ဂုလိ မာလ တို့လို ဘယ်တော့မှ အပါယ်မကျတော့တဲ့ လွတ်ပုံမျိုးနဲ့ လွတ်တာ မဟုတ်ပါဘူး၊ ကုသိုလ်က ကြားဝင်ဟန့်တား လိုက်တဲ့အတွက် သူက အပါယ် ချခွင့် မရဘဲ ခေတ္တငုပ်လျှိုး နေရမှု ဖြစ်ပါတယ်။ တစ်နေ့ အခွင့်သာတဲ့ အခါ သူက

အပါယ်ချနိုင်သေးတယ်ဆိုတာ မှတ်သားရပါမယ်။ တတ်နိုင်သမျှ အကျဉ်းချုံးပြီး ဖြေကြားလိုက်ပါတယ်။ ကံနဲ့ပတ်သက်ပြီး မှတ်သားစရာတွေက ကျယ်ဝန်း များပြားလှတဲ့အတွက် စာတစ်စောင် ပေတစ်ဖွဲ့ အနေနဲ့ ရေးသားမှသာ ပြည့်စုံမှာဖြစ်ပါတယ်။

**အဖြေ(ဂ)**

ဗုဒ္ဓဘာသာဝင် တစ်ဦးက ဗုဒ္ဓဘာသာ တရားတော်ဟာ သံသရာမှ လွတ်မြောက်ကြောင်း တရားမှန်သည်။ အခြားဘာသာ မမှန်ဟု ဆိုပြီး အခြားဘာသာဝင်တို့ကလည်း သူ့ဘာသာ မှန်သည်။ အခြားဘာသာ မမှန်ဟု ဆိုကြသည်ကို ဘယ်လို မှတ်ရပါမည်နည်း။

သည်မေးခွန်းမှာ လာတဲ့ မှန်–မမှန်ဆိုတဲ့ အငြင်းပွားမှုဟာ သံသရာမှ လွတ်မြောက်ကြောင်းတရားပေါ်မှာ အခြေခံတဲ့ အငြင်းပွားမှု ဖြစ်ပါတယ်။ တခြား တစ်ပါးသော လူမှုရေး၊ စီးပွားရေး၊ ကျန်းမာရေး စတဲ့ အရေးအရာတွေ အပေါ်မှာ အခြေခံတဲ့ အငြင်းပွားမှု မဟုတ်ပါဘူး။ သည်တော့ သည်မေးခွန်းနဲ့ ပတ်သက်ပြီး ရှင်တော်ဘုရား ကိုယ်တော်တိုင် ပေးထားတဲ့ အဖြေထက် ခိုင်မာတိကျတဲ့ အဖြေမျိုး မရှိတာကြောင့် အဲသည် ရှင်တော်ဘုရား ဖြေကြားထားချက်ကိုပဲ သည်နေရာမှာ ဖော်ပြပြီး အဖြေပေးလိုက်ပါတယ်။





ရှင်တော်ဘုရား ပရိနိဗ္ဗာန် စံခါနီး နာရီပိုင်းလောက်အလိုမှာ သုဘဒ္ဒပရိဗိုဇ်ဟာ ရှင်တော်ဘုရားထံ လာရောက်ပူးမြော်ပြီး ရှင်ဂေါတမ–သုဘဒ္ဒပရိဗိုဇ်ဟာ မိစ္ဆာဒိဋ္ဌိ တစ်ဦးသာဖြစ်သေးတဲ့အတွက် ဘုရားရှင်ကို ဒီလိုပဲ ခပ်ပေါ့ပေါ့ ခေါ်လိုက်ပါတယ်။ ယနေ့ အချိန်အခါမှာ နာမည်ကျော်ကြား တပည့်ပရိသတ် အခြွေအရံ ပေါများထင်ရှားလာတဲ့ ပူရဏကဿပ၊ မက္ခလိ ဂေါသာလ အစရှိတဲ့ ဂိုဏ်းဆရာကြီးတွေဟာ သူတို့ကိုယ်သူတို့ သဗ္ဗညုဘုရားလို့ ဝန်ခံပြီး ဘုရားလုပ်နေကြတယ်။ သူတို့ဟာသူတို့ ဝန်ခံတဲ့အတိုင်း တကယ်ပဲ ဘုရား ဟုတ်သလား၊ မဟုတ်ဘူးလားဆိုတာ သံသယဖြစ်နေပါတယ်။ ဒါကြောင့် သူတို့ ဘုရား ဟုတ်တယ် မဟုတ်ဘူးဆိုတာ ဖြေကြားတော် မူပါလို့ လျှောက်ထားတယ်။

သည်အခါ ရှင်တော်ဘုရားက သုဘဒ္ဒ သူတို့ဘုရား ဟုတ်တယ်၊ မဟုတ်ဘူးဆိုတာ ဖြေကြားနေဖို့ အချိန်မရှိဘူး။ ငါပြောတာကို သေသေချာချာ နာယူမှတ်သားပါ။

သုဘဒ္ဒ–ဘာသာ (သာသနာ) တစ်ခုမှာ အင်္ဂါရှစ်ပါးရှိတဲ့ မဂ်၊ သံသရာမှ လွတ်မြောက်ကြောင်းတရား (မဂ္ဂင်ရှစ်ပါး) မရှိလျှင် အဲသည် ဘာသာ (သာသနာ) မှာ အရိယာပုဂ္ဂိုလ် ဘုရားရဟန္တာဆိုတာ လုံးဝမရှိဘူးဆိုတာ မှတ်ပါ။ သုဘဒ္ဒ ငါ့သာသနာတော်မှာ မဂ္ဂင်ရှစ်ပါး ရှိတယ်၊ တခြား သာသနာမှာ မဂ္ဂင်ရှစ်ပါး လုံးဝမရှိဘူး၊ ဒါကြောင့် ငါ့သာသနာတော်မှာ

သာ အရိယာ ပုဂ္ဂိုလ် (ဘုရားရဟန္တာ) များ ရှိတယ်၊ တခြား သာသနာမှာ အရိယာပုဂ္ဂိုလ် (ဘုရားရဟန္တာ) ဆိုတာ လုံးဝ မရှိဘူးလို့ မှတ်ပါလို့ ဖြေကြားတော်မူပါတယ်။

သည်အဖြေကို ကြားရတဲ့အခါ သုဘဒ္ဒပရိဗိုဇ်ဟာ ဘုရားရှင်အပေါ် ယုံကြည်ပြီး ဘုရားရှင်ထံ ကမ္မဋ္ဌာန်းတောင်းကာ မဂ္ဂင်ရှစ်ပါး ပွားများအားထုတ်လိုက်တာ နာရီပိုင်းအတွင်းမှာပဲ ရဟန္တာပုဂ္ဂိုလ် ဖြစ်သွားပါတယ်။

ဖော်ပြပါ ဖြစ်ရပ် အတ္ထုပ္ပတ်ကိုကြည့်ပြီး အငြင်းပွားနေကြတဲ့ ပုဂ္ဂိုလ်များဟာ မိမိတို့ဆိုင်ရာ ဘာသာကို ပြန်လည်သုံးသပ်ကြည့်ကြမယ်ဆိုလျှင် ဘယ်ဟာ အမှန် ဘယ်ဟာ အမှားဆိုတာ သူများက ဆုံးဖြတ်ပေးဖို့ မလိုတော့ဘဲ ကိုယ်ပိုင်ဉာဏ်နဲ့ ဆုံးဖြတ်ချက် ချနိုင်လောက်ပြီလို့ ယုံကြည်ကြောင်း ဖြေကြားလိုက်ရပါတယ်။

(သုတ်မဟာဝါ၊ မဟာပရိနိဗ္ဗာနသုတ်)

**အဖြေ(ဃ)** ကိလေသာ ၁၅၀၀။

ပင်ရင်း ကိလေသာဟာ လောဘ၊ ဒေါသ၊ မောဟ၊ မာန၊ ဒိဋ္ဌိ၊ ဝိစိကိစ္ဆာ၊ ထိန၊ ဥဒ္ဓစ္စ၊ အဟိရိက၊ အနောတ္တပ္ပလို့ ဆယ်မျိုးရှိပါတယ်။ သည်ဆယ်မျိုးထဲမှာ လောဘဆိုတဲ့ ကိလေသာဟာ စိတ် ၁၊ စေတသိက် ၅၂ ဆိုတဲ့ နာမ်တေပညာသ (၅၃)၊ နိပ္ဖန္နရုပ် ၁၈၊ လက္ခဏာ





ရုပ် ၄၊ ပေါင်း (၇၅) ပါးကို အာရုံပြုတယ်။ ဒါကြောင့် အာရုံ ၇၅ မျိုးကို စွဲပြီး လောဘကိလေသာ ၇၅ မျိုး ဖြစ်တယ်။

သည်အာရုံ ၇၅ ပါးဟာ မိမိသန္တာန်မှာရော သူတစ်ပါးသန္တာန်မှာ ပါရှိတဲ့အတွက် သန္တာန်နှစ်ပါးနဲ့ မြှောက်လျှင် လောဘကိလေသာ ၁၅၀ ဖြစ်တယ်။ ဒီလိုပဲ ဒေါသ စတဲ့ ကိလေသာတွေဟာလည်း ၁၅၀ စီ ရှိတဲ့အတွက် ၁၅၀ ကိလေသာ ဆယ်ပါးနဲ့ မြှောက်ရင် ၁၅၀၀ ကိလေသာ ဖြစ်ပါတယ်။

ပေါ်လွင်တဲ့ ဆောင်ပုဒ်က–

၁။ နာမ်တေပညာ၊ ရုပ်နိပ္ဖန်၊ လက္ခဏာရုပ်လေး။

၂။ သန္တာန်နှစ်ဝ၊ မြှောက်ဆင့်က၊ တစ်ရာ့ငါးဆယ်ရေး။

၃။ ဆယ်ကိလေသာ၊ မြှောက်ဆင့်ကာ၊ ငါးရာတစ်ထောင်တွေး။

## မေးခွန်း (၁၂)

**အမေး(၁)** ဖေဖော်ဝါရီလ ထုတ် ရတနာမွန် မဂ္ဂဇင်းတွင် ပါရှိသော နွားမသား ဇုက် ဂါထာကို အနက်ပြန်ပေးစေလိုပါသည်။

**အမေး(၂)** ယခု ဘဝတွင် အပြစ် ကြီးသော အကုသိုလ်ကို ပြုလုပ်မိပါက ထို အကုသိုလ်ကို ယခုဘဝတွင်ပင် ပယ်ပျောက်အောင် ကောင်းမှု ကုသိုလ်ဖြင့် ပြုလုပ်၍ ရပါသလား။ မည်ကဲ့သို့ ပြုလုပ်ရပါသလဲ ခင်ဗျာ။

**နန်းထိုက်အောင်၊ ဆင်ဖြူကျွန်းမြို့[illegible]**
**မကွေးတိုင်း။**





**အဖြေ(၁)** ဖေဖော်ဝါရီလထုတ် ရတနာမွန် မဂ္ဂဇင်းမှာ ပါတဲ့ နွားမသားဇုက် ဂါထာကို အနက်ပြန်ပေးဖို့ တောင်းဆိုထားတာ တွေ့ရပါတယ်။ သည်ဂါထာကို ထေရဝါဒ ပိဋကမှာ တွေ့ဖူးတယ်လို့ အမှတ်မရပါဘူး။ မာဂဓဘာသာ ပီပီသသလည်း ဟုတ်ပုံမရပါဘူး။ တချို့နေရာမှာ (အဓွေး) စသည်ဖြင့် ဝိသဇ္ဇနီခေါ်တဲ့ ဝစ္စပေါက်တွေ ပါနေတာ တွေ့ရပါတယ်။ မာဂဓဘာသာမှာ ဝစ္စပေါက် မရှိပါဘူး။ သဒ္ဒါ၊ ပုဒ်၊ ပါဠိ အနေအထားတွေကလည်း သန့်ရှင်းမှု မရှိတဲ့အပြင် ဖော်ထုတ်လို့ရတဲ့ အနက် အဓိပ္ပာယ်တွေကလည်း အဆက်အစပ် မမိပါဘူး၊ မိမိဉာဏ်မမီလို့ ဖြစ်ကောင်း ဖြစ်မယ်လို့ ယူဆရပါတယ်။

ပိဋကတော်မှာလာတဲ့ ဘုရားဟော ဒေသနာတော်နဲ့ လျော်ကန် လိုက်ဖက်တဲ့ အဓိပ္ပာယ်မျိုး ပါဝင်ပြီး ပုဒ်နေပုဒ်ထား သဒ္ဒါသွား မှန်ကန်တဲ့ ဂါထာ ပါဠိမျိုးဆိုလျှင်ဖြစ်စေ၊ သဒ္ဒါအနေအထား အနည်းအပါး ချွတ်ယွင်းစေကာမူ ဒေသနာတော်နဲ့ လျော်ကန်တဲ့ အဓိပ္ပာယ်မျိုး ပါဝင်လျှင်ဖြစ်စေ၊ သဒ္ဒါ အနေအထား မှန်ကန်အောင် ပြုပြင်ပြီး အနက်ပြန်ပေးလို့ ရနိုင်ကောင်းစရာ ရှိပါတယ်။

လောကီ ဂါထာမန္တန်တွေဟာ အများအားဖြင့် [illegible]တွေ ဖြစ်နေတော့ မူလ ရေးစီရင်တဲ့ ပုဂ္ဂိုလ်ရဲ့ အာ[illegible]အောင် အခြား ပုဂ္ဂိုလ် တစ်ယောက်က အနက်

အဓိပ္ပာယ် ပြန်ဖို့ အတော်ခဲယဉ်းပါတယ်။ ဒါနဲ့ ပတ်သက်လို့ ကြားဖူးတာလေးတစ်ခုကို ပြောပြရဦးမယ်။

ရှေးက ရွာတစ်ရွာရဲ့ အပြင်ဘက် လမ်းဘေးတစ်နေရာရှိ သာလာယံ ဇရပ်ရဲ့ ခါးပန်းမှာ မီးသွေးခဲနဲ့ "တော်ကျွတ် မုံ ဆန်း" လို့ ရေးထားတာကို လမ်းသွားလမ်းလာများက တွေ့ကြပါသတဲ့။ သည်အခါ လူတွေက ကိုယ့်အယူအဆနဲ့ ကိုယ် အဓိပ္ပာယ်ကောက်ယူဖော်ထုတ်ပြီး သူမှန်ငါမှန် ငြင်းနေကြပါတယ်။

တချို့က "တော် ကျွတ်" ဆိုတာ သူတော်ကောင်းတွေ အကျွတ်တရားရ ချမ်းသာကြလိမ့်မယ်။ မသူတော်တွေကတော့ ဒုက္ခမျိုးစုံတဲ့ ကံကြမ္မာဆိုး မှန်တိုင်းနဲ့ တိုးပြီး မှုန့်ဆန်းလို ပြားကပ်ကုန်ကြလိမ့်မယ်လို့ ပြောပြီး တချို့ကတော့ တော်လောက်ပြီဟေ့၊ ဒီလောက် ပညာပေးရရင် အကျွတ်တရား ရလောက်ပြီ၊ မုန်ယိုနေတဲ့ ဆင်ရိုင်းကြီး နင်းထားတဲ့အတိုင်း မှုန့်ဆန်းလို ပြားချပ်နေပြီလို့ ဆိုလိုတာ စသည် စသည် ထင်ရာမြင်ရာ ပြောဆိုငြင်းခုန်နေကြသတဲ့။

သည်အချိန်မှာ စိတ်မမှန်ဘူးလို့ အများက အသိအမှတ်ပြုထားတဲ့ လူတစ်ယောက်က ရောက်လာပြီး...

"ဟေ့... ဘာတွေငြင်းနေကြတာလဲ၊ ဆူလို့ ညံလို့ပါလား၊ အလကား တောင်စဉ်ရေမရတွေ လျှောက်ပြောမနေကြနဲ့၊ သည်စာ ငါရေးထားတာကွ" လို့ ပြောပါသတဲ့။

ဒုတိယအကြိမ်



သည်အခါ လူတွေက သည်လိုဆို ခင်ဗျားရေးထားတဲ့ စာအဓိပ္ပာယ်ကို ခင်ဗျားပဲ ဖော်ထုတ်ပြောပြပါဦးဆိုတော့ သူက...

"တော်ဆိုတာ တော်သလင်းလပေါ့ကွ၊ တော်သလင်းလကုန်ရင် သီတင်းကျွတ်လ ရောက်တာပဲ၊ သီတင်းကျွတ်ကုန်ရင် တန်ဆောင်မုန်း လဆန်းရော မဟုတ်လား၊ တန်ဆောင်မုန်းလလည်း ဆန်းရော ကထိန်အလှူတွေဘာတွေ လုပ်ကြတာပဲ၊ အဲသည်အခါမှာ ထမင်းတွေ၊ ဝက်သား၊ ကြက်သားဟင်းတွေ၊ မုန့်ဟင်းခါး ခေါက်ဆွဲတွေ၊ မုန့်တွေ ... မှုပေါ၊ အဲသည်အချိန်မှာ ကြိုက်သလောက်စား ဗိုက်ကားအောင် တုတ်ရတော့မှာကွ၊ အဲဒါ ငါမှတ်ထားတာ" လို့ ပြောလိုက်ပါ ရော လူတွေဟာ တဝါးဝါးတဟားဟား ပွဲကျသွားပြီး

တခမ်းတနား အဓိပ္ပာယ် ဖော်နေကြတဲ့ ပညာရှိမင်းအပေါင်းတို့ကတော့ ပြုံးခက် မဲ့ခက် ခပ်ရှက်ရှက် မျက်နှာထားမျိုးနဲ့ ကြောင်စီစီ ဖြစ်ကုန်ကြပြီး အလျှိုအလျှိုနဲ့ လူစုခွဲသွားကြပါသတဲ့။

အနက်ပြန်တဲ့ ပုဂ္ဂိုလ်တွေ အဲသည်လို ကြောင်စီစီ မဖြစ်ကြရအောင် ပိဋကတ်တော်နဲ့ မလျော်ကန် မဟာယာနတန္တရ မန္တ ရဆန်တဲ့ ဂါထာပါဠိတော် အဆောင်အယောင်တွေကို ... ကနေပြီး အနက်ပြန်ဆိုဖို့ မတော်င်းဆိုရန် အကြံပြုပါတယ်။

သည်နေရာမှာ နည်းနည်း ဆက်ပြောချင်တာက

ဒုတိယအကြိမ်

ဒီလို အဆောင်ဂါထာတွေရဲ့ အစွမ်းထက် မထက်မှုဟာ အယုံ အကြည် ရှိမှု မရှိမှုပေါ်မှာ အများကြီးတည်ပါတယ်။ ယုံကြည်မှု မရှိလျှင်၊ မယုံ့တယုံ ဖြစ်နေလျှင်၊ ယုံကြည်မှု အားနည်းနေ လျှင် အားနည်းသလောက် အကျိုးသက်ရောက်မှု နည်းပါးပါတယ်။ သည်လို ယုံကြည်မှု မရှိလျှင် အလွန်အစွမ်း သတ္တိထက်တဲ့ ရတနသုတ်၊ မေတ္တာသုတ်၊ ဝဋ္ဋသုတ်၊ အင်္ဂုလိမာလ သုတ်၊ ဇောဇျှင်သုတ်စတဲ့ ဗုဒ္ဓမန္တန်တော်များ တောင် တန်ခိုး အစွမ်း ပြသင့်သလောက်မပြပါဘူး။ အလေးအနက် ယုံကြည်မှု ရှိလျှင်တော့ အံ့သြလောက်အောင် တန်ခိုး အစွမ်း ပြပါတယ်။

အလေးအနက် ယုံကြည်တဲ့အတွက် ဖရုသဝါစာ စကားလေး တစ်လုံးတောင် အံ့သြလောက်အောင် တန်ခိုး အစွမ်းပြတဲ့အကြောင်း ငယ်စဉ်ကတည်းက ကြားဖူးထားတဲ့ ပုံပြင်ကလေးတစ်ခုဟာ ဉာဏ်ထဲမှာ ပေါ်လာတဲ့အတွက် ပြောပြရမယ် ဆိုလျှင်…

## ပိုက်ဆံတစ်ပဲနဲ့ အိမ်ရှေ့မင်းဖြစ်သူ

ရှေးတုန်းက လူတစ်ယောက်ဟာ တက္ကသိုလ်ပြည်မှာ ပညာသွားသင်ပါသတဲ့။ သူဟာ အတော် ဉာဏ်ထိုင်းတဲ့ အတွက် ခုနစ်နှစ် ခုနစ်မိုး ပညာသင်သော်လည်း ဘာပညာမှ ပေါက်ရောက်အောင် မတတ်မြောက်ပါဘူးတဲ့။ ဒါနဲ့ သူလည်း စိတ်လျှော့ပြီး ရပ်ရွာပြန်တော့မယ်လို့ ဆုံးဖြတ်ကာ သူ့မှာရှိတဲ့





ပိုက်ဆံကလေး တစ်ပဲကိုယူ၊ ဆရာကြီးဆီသွား ရပ်ရွာပြန်မယ့် အကြောင်း ပြောကြားပြီး ပိုက်ဆံကလေး တစ်ပဲနဲ့ ဆရာကြီး ကို ကန်တော့ပါသတဲ့။ သည်တော့ ဆရာကြီးက စိတ်ချဉ်ချဉ် ရှိတာနဲ့ ပိုက်ဆံကလေးကို ကောက်ယူပြီး…

"ပိုက်ဆံတစ်ပဲ ဖြမ်မယူဘူး" ဆိုပြီး လွှင့်ပစ်လိုက်ပါ သတဲ့၊ သည်အခါ အဲသည်လူက အင်း ဒါဟာ ဆရာကြီးက ငါ့ကို ပြန်ခါနီးမို့ နောက်ဆုံး ပညာပေးလိုက်တာပဲလို့ တကယ့်ကို ယုံယုံကြည်ကြည်နဲ့ "နင့်ပိုက်ဆံတစ်ပဲ ဖြမ်မယူ ဘူး" ဆိုတဲ့ ဆရာကြီးရဲ့ နှုတ်ထွက်စကားလေးကို လေး လေးစားစား မှတ်သားပြီး ဆရာကြီးကို ရှိခိုးကန်တော့ကာ သူ့ရပ်ရွာကို ပြန်ခဲ့ပါသတဲ့။

ဒီလိုပြန်လာလို့ လမ်းခုလတ် တိုင်းပြည်တစ်ခု အရောက် "သမီးတော်မှာ ဖြစ်နေတဲ့ ရောဂါကို ပျောက်အောင် ကုသပေးနိုင်လျှင် ယောကျ်ားဖြစ်က အိမ်ရှေ့အရာ အပ်နှင်း မယ်၊ မိန်းမဖြစ်က မိဖုရားမြှောက်မယ်" လို့ မြို့ထဲမှာ လိုက် ကြေညာနေတာ ကြားတာနဲ့ အဲသည်လူဟာ သူ့ပညာအားကိုး ပြီး သူကုနိုင်တယ် ပြောတဲ့အတွက် ဘုရင့်လူတွေက သူ့ကို နန်းတော် ခေါ်သွားပါသတဲ့။ နန်းတော်ရောက်လို့ သမီးတော် ရောဂါပျောက်အောင် သူ ကုနိုင်ကြောင်း ဘုရင်ကြီးကို လျှောက်တဲ့အခါ ဘုရင်ကြီးက ကုစေလို့ အမိန့်ချလိုက်တာနဲ့ သမီးတော်ကို ကန့်လန့်ကာ ကာစေပြီး ဆုံဆို့နာ ဖြစ်နေတဲ့

သမီးတော်ကို ပက်လက်အိပ်စေကာ သူက ခေါင်းရင်းဘက်က ထိုင်ပြီး သူ့ဆရာကြီး နောက်ဆုံးပေးလိုက်တဲ့ ဂါထာကို ဉုံခံပြီး "ဉုံ နင့်ပိုက်ဆံတစ်ပဲ ဖြမ့်မ မယူဘူး" လို့ အကြိမ်ကြိမ် ရွတ်ဆို မန်းမှုတ်ပါသတဲ့။ ဒီအခါ သမီးတော်ဟာ ငိုအားထက် ရယ်အားသန် ဆိုသလို အနာ နာတာကိုတောင် သတိမရနိုင်တော့ဘဲ တအစ်အစ်နဲ့ ရယ်ပါလေရော၊ ဆုံဆို့နာဆိုတာ လည်ချောင်းအတွင်းဘက်မှာ ပေါက်တဲ့ အနာဖြစ်တော့ ရယ်တဲ့အခါ လည်ပင်းကို အစ်လိုက်တာမို့ အနာကို ညှစ်လိုက်သလို ဖြစ်သွားတဲ့အတွက် ပြည်မှည့်နေပြီး ပေါက်ခါနီးဖြစ်နေတဲ့ အနာဟာ ပြည်ပေါက်ပြီး ပျောက်သွားပါရောတဲ့။ ဒါနဲ့ ဘုရင်ကြီးလည်း သူ့စကားအတိုင်း အဲသည်လူကို အိမ်ရှေ့အရာ အပ်နှင်းပြီး သမီးတော်နဲ့ ထိမ်းမြားလက်ထပ် ပေးလိုက်ပါသတဲ့။ ပုံပြင်လေးက ဒါပါပဲ။

**အဖြေ(၂)** ယခု ဘဝ ပြုလုပ်မိသော အပြစ်ကြီးသော အကုသိုလ်ဟာ...

၁။ သည်ဘဝမှာ ဘယ်လိုကုသိုလ်မျိုးနဲ့မှ တားဆီး ပိတ်ဆို့လို့ မရ၊ ပပျောက်သွားအောင် လုပ်လို့ မရတဲ့ အကုသိုလ်။

၂။ ပပျောက်သွားအောင် လုပ်လို့ရတဲ့ အကုသိုလ် လို့ နှစ်မျိုး ရှိပါတယ်။





သည်နှစ်မျိုး အနက်(၁)အမျိုးအစား အကုသိုလ်တွေက

(က) မာတုဃာတက–အမိကိုသတ်တဲ့ အကုသိုလ်၊ (ခ) ပိတုဃာတက–အဖကိုသတ်တဲ့ အကုသိုလ်၊ (ဂ) အရဟန္တဃာတက–ရဟန္တာကိုသတ်တဲ့ အကုသိုလ်၊ (ဃ) လောဟိတုပ္ပါဒက–ဘုရားရှင်၏ ကိုယ်တော်၌ သွေးစိမ်းတည် (သွေးခြည်ဥ) အောင် လုပ်တဲ့ အကုသိုလ်၊ (င) သံဃဘေဒက–သံဃာချင်း ကွဲပြားအောင် လုပ်တဲ့ အကုသိုလ်လို့ ငါးမျိုး ဖြစ်ပါတယ်။

အဲသည် ငါးမျိုးထဲက တစ်ခုခုကို လုပ်မိလျှင် ဘယ်လို ကုသိုလ်မျိုးနဲ့မှ ပပျောက်အောင် လုပ်လို့ မရတော့ပါဘူး။ သေလျှင် အဝီစိငရဲကို တိုက်ရိုက် ကျရောက်ရပါတယ်။ အဇာတသတ် မင်းဟာ ခမည်းတော် ဗိမ္ဗိသာရမင်းကြီးကို သတ်မိတဲ့ ပိတုဃာတက ကံကြောင့် အဝီစိငရဲကို ကျရောက်ရပါတယ်။ ဒါပေမယ့် ဘုရားကို ကြည်ညိုတဲ့ နေရာမှာ အရိယာ ပုဂ္ဂိုလ်တွေကလွဲလျှင် သူဟာ အကြည်ညိုဆုံး ဖြစ်တာကြောင့် အဝီစိငရဲကြီးထဲကို ကျမသွားဘဲ အဝီစိငရဲထဲမှာ အပါအဝင်ဖြစ်တဲ့ အခြံအရံ ဥဿဒ ငရဲငယ်ကို ကျသွားပါတယ်။

သည်ကံနဲ့ ပတ်သက်တဲ့ မှတ်သားစရာ အကြောင်းအရာ တစ်ခုက...

သီဟိုဠ်ကျွန်း ယခု သီရိလင်္ကာနိုင်ငံ "ပထမ [illegible]သီဟ

မင်း” ဟာ ခမည်းတော် မင်းကို သတ်ပြီး သာသနာတော် (၂၀၈၅) ခုနှစ်မှာ မင်း ဖြစ်လာပါတယ်။ အဇာတသတ် မင်း လိုပေါ့။ နောက်တော့ သူဟာ သာသနာတော်စောင့် မဟာထေရ် မြတ်ကြီးများထံ ချဉ်းကပ်ပြီး “အဘယ်ကုသိုလ်ကောင်းမှု ဖြင့် ပိတုဃာတက–အဖသတ်ကံကို ပယ်ဖျောက်ရပါအံ့နည်း” ဟု လျှောက်တဲ့အခါ မဟာထေရ်မြတ်ကြီးများက ပိတုဃာတက ကံ ဆိုတာ အခြားမဲ့ ဘဝမှာ အကျိုးပေးတတ်တဲ့ အနန္တရိယ ကံဖြစ်တယ်လို့ ဟုတ်တိုင်းမှန်ရာ မိန့်တော်မူလိုက်ပါတယ်။ သေလျှင် မုချ အဝီစိကို ကျစေတဲ့ ကံပဲလို့ ဆိုလိုက်တာ ဖြစ်ပါတယ်။

သည်အခါ ရှင်ဘုရင်ဟာ သည်သာသနာတော်ဟာ “ငါပြုမိတဲ့ အဖသတ်ကံကို ပပျောက်စေနိုင်တဲ့ သာသနာ မဟုတ်ဘူး၊ သည်သာသနာတော်ကို ချီးမြှောက်ထောက်ပင့် နေလို့ ဘာအကျိုး ရှိမှာလဲ” လို့ မိစ္ဆာအယူကို ယူပြီး ...

၁။ သာသနာတော်စောင့် ရဟန်းသံဃာတော် များကို သတ်ဖြတ်ညှဉ်းဆဲခြင်း၊

၂။ အတင်းအကျပ် လူဝတ်လဲစေပြီး သာသနာ တော်မှ ထွက်စေခြင်း၊

၃။ စေတီပုထိုးများကို ဖျက်ဆီးခြင်း၊

၄။ ပိဋကတော်များကို မီတိုက်ခြင်း စသည်ဖြင့်





အလွန် ဝန်လေးလှစွာသော သာသနာဖျက်လုပ်ငန်းများကို လုပ်ပါသတဲ့။ ဒါကြောင့် အဲသည်အချိန်ကစပြီး သီဟိုဠ် သာသနာဟာ အားနည်းသွားတယ်ဆိုတာ မှတ်သားစရာ ဖြစ်ပါတယ်။

(၂) အမျိုးအစား အကုသိုလ်တွေက ရတနာမြတ် သုံးပါး မိဘဆရာသမား ကျေးဇူးရှင်များနဲ့ အခြား သီလနဲ့ ပြည့်စုံတဲ့ ပုဂ္ဂိုလ်များ ကိုယ်စိတ် ဆင်းရဲအောင် ပြောဆိုပြုလုပ် ခြင်း၊ ပြစ်မှားခြင်း၊ မိစ္ဆာဒိဋ္ဌိအယူကို ယူခြင်း၊ အရိယာပုဂ္ဂိုလ် တို့အား ပြစ်မှားစွပ်စွဲခြင်း စသည်ဖြင့် အတော်များ ပါတယ်။

သည်ဖော်ပြပါ အကုသိုလ်မျိုးတွေ ပပျောက်အောင် မိစ္ဆာအယူရှိသူက မိစ္ဆာအယူကို စွန့်လွှတ်ခြင်း၊ ကျေးဇူးရှင် စသူတို့ကို ပြစ်မှားမိသူက မိမိအပြစ်ကို ဝန်ချတောင်းပန် ကန်တော့ခြင်း စသည်ဖြင့် ပြေပျောက်အောင် လုပ်ရပါမယ်။ အကယ်၍ တောင်းပန် ကန်တော့မယ့် ပုဂ္ဂိုလ်များ ကွယ်လွန် ကုန်လျှင် သင်္ချိုင်းဖြစ်ရာ သုသာန်သွားပြီး ဝန်ချတောင်းပန်ရပါ မယ်။ သည်လိုမှ သွားလို့ မဖြစ်ဘူးဆိုလျှင်တော့ သီလ၊ သမာဓိ၊ ပညာနဲ့ ပြည့်စုံပြီး လေးစားလောက်တဲ့ ရဟန်းပုဂ္ဂိုလ် လူ ပုဂ္ဂိုလ်များကို သက်သေထားကာ ဘုရားရှင် ရှေ့တော်မှာ ဝန်ချတောင်းပန် ကန်တော့ရပါမယ်။ အဲသည်လို ပြုလုပ်လျှင် ပြေပျောက်သွားနိုင်ပါတယ်။

ဖော်ပြပြီး မိဘစသူတို့မှတစ်ပါး အခြား [illegible]ဝါများ

ကို သတ်တဲ့ ပါဏာတိပါတအမှု စသည်တို့ကို ပြုမိလျှင် "ငါတော့ ပါဏာတိပါတ အမှုကို ပြုမိပြီ။ သည်အမှုဟာ အတော့်ကို မကောင်းဆိုးရွားတဲ့ အမှုပဲ၊ သည်လိုပြုမိတဲ့အတွက် နောင်တရနေ (နောက်တစ်ဖန် ပူပန်နေ) ကုက္ကုစ္စ ဖြစ်နေလျှင် အကုသိုလ်တွေသာ ထပ်ပြီး တိုးပွားတော့မယ်၊ ဒီလို ပူပန်နေတဲ့ အတွက် ပြုပြီးသားဟာ ပျောက်သွားမှာ မဟုတ်ဘူး၊ မပြုရာ ရောက်အောင် မတတ်နိုင်ဘူး" အဲဒီလို ဆင်ခြင်ပြီးတော့ ပြုမိပြီးတဲ့ ပါဏာတိပါတ အမှုကို လုံးဝ ဂရုမပြုဘဲ ပယ်စွန့်လိုက် (မေ့ပစ်လိုက်) မယ်။ နောင် ထိုပါဏာတိပါတ အမှုကို မဖြစ်အောင်လည်း ရှောင်ကြဉ်မယ်ဆိုလျှင် ပြုမိတဲ့ ပါဏာတိပါတ အမှုကို ပပျောက်စေနိုင်တယ်လို့ ဂါမဏိသံယုတ် ပါဠိတော်မှာ ဆိုပါတယ်။ ဒါဟာ မှတ်သားလိုက်နာ ကျင့်သုံးစရာ အလွန်ကောင်းတဲ့ နည်းလမ်းတစ်ခုပါပဲ။

သည်လို ပယ်စွန့်မှု (ပယ်ဖျောက်မှု) ကြောင့် ဘယ်တော့မှ အကျိုးမပေးတော့ဘူးလို့ မဆိုနိုင်သော်လည်း သည်ဒီ ပါဏာတိပါတ အမှုဟာ တော်တော်နဲ့ အကျိုးပေးခွင့် ရမှာ မဟုတ်ဘဲ ကုသိုလ်ကံတရားကို ဆက်လက် အားထုတ် ကျင့်သုံးသွားလျှင် အဟောသိကံ-(အကျိုးမပေးတဲ့ကံ) တောင် ဖြစ်သွားစရာ ရှိတယ်လို့ ဆရာများ မိန့်တော်မူကြပါတယ်။

အခြားတစ်နည်း။ ယခုဘဝ ပြုမိတဲ့ အကုသိုလ်မှုကြီးများကို "ယသ္မ ပါပံ ကတံ ကမ္မံ၊ ကုသလေန ပိဓီယ





တေ"- အကြင်သူ၏ ပြုအပ်မိသော အကုသိုလ်ကို ကုသိုလ်မှုဖြင့် ပိတ်ဆို့တားဆီးရမယ်၊ ရိုက်ချိုးဖျက်ဆီးပစ်၊ ချေမှုန်းပစ်ရမယ်ဆိုတဲ့ ဓမ္မပဒ ပါဠိတော် အင်္ဂုလိမာလသုတ် ဒေသနာတော်အတိုင်း တရားအားထုတ်ခြင်း ဘာဝနာကုသိုလ်မှုဖြင့်လည်း ပယ်ဖျောက်နိုင်ပါတယ်။

အင်္ဂုလိမာလ မထေရ်ဟာ သည်နေရာမှာ ခိုင်မာတဲ့ သာဓကပါပဲ။ မထေရ်ဟာ ယခုဘဝ ရဟန်းမပြုမီ လူ့အဖြစ်ဘုန်းက ရာဂဏန်းလွန်မြောက် ထောင်ဂဏန်းပေါက်အောင် များပြောင်လှတဲ့ လူတွေကို သတ်တဲ့ အကုသိုလ် ပြစ်မှုကြီးများကို ကျူးလွန်ခဲ့ပါတယ်။ နောက်ဘုရားရှင်နဲ့တွေ့၊ ရဟန်းပြုပြီး တရားကျင့်လိုက်တာ မဂ်လေးပါးကိုရပါတယ်။ မထေရ်ရတဲ့ အဲသည် မဂ်လေးပါးဆိုတဲ့ ကုသိုလ်တွေက စောစောကပြုခဲ့တဲ့ လူသတ်မှု အကုသိုလ်ကြီးများနဲ့တကွ အကုသိုလ်မှန်သမျှ အားလုံးကို အစတုံး၊ ချေမှုန်းပယ်သတ် လိုက်ပါတယ်။

အဲသည်လို ချေမှုန်း ဖျက်ဆီးပစ်လိုက်တဲ့ အတွက် မထေရ်ဟာ တိမ်တိုက်မှ လွတ်ကင်းထွန်းလင်းတောက်ပတဲ့ လပြည့်ဝန်းကြီးပမာ အကုသိုလ် အညစ်အကြေးတို့မှ ကင်းဝေးစင်ကြယ်တဲ့ ရဟန္တာကြီးတစ်ပါး အဖြစ်နဲ့ လောကကို တင့်တယ်စေခဲ့ပါတယ်။

ဒါလောက်ဆိုလျှင် အမှတ်(၂) မေးခွန်းရဲ့ အဖြေဟာ ပြည့်စုံလုံလောက်ပြီလို့ ထင်ပါတယ်။

## မေးခွန်း (၁၃)

**အမေး**

မိဘရိုးရာ ပသမြဲ နတ်တို့ဆိုတာ ဘယ်နတ်မျိုးများ ဖြစ်ပါသလဲ။

မိဘရိုးရာ ပူဇော်နေကြတဲ့ အတွင်းအပြင် ၃၇–မင်း နတ်များ ဖြစ်ပါသလား။

ကံ,ကံ၏ အကျိုးကို ခံစားရမည်ဆိုတာ မြတ်စွာဘုရား၏ တရားတော်နှင့် နတ်များ (၃၇) မင်း မ,စမပေးမှုရမည်။ ချမ်းသာမည်ဆိုသော အချက်ကို လူတိုင်းနားလည်အောင် ရှင်းပြပေးပါ။ တောင်ပြိုး နတ်ပွဲများ နတ်ကနားပွဲများသည် ဗုဒ္ဓဘာသာ ကွယ်ပျောက်စေနိုင်သည်ဟု ထင်မြင်မိသော ကျွန်တော်၏ ထင်မြင်ယူဆချက်ကို ရှင်းလင်းဖြေကြားပေးပါ။

မောင်ကျော်ဝင်း၊
မြန်မာ့စီးပွားရေးဘဏ်၊ မအူပင်မြို့။





**အဖြေ**

မိဘရိုးရာ ပူဇော်ပသမြဲ နတ်တွေဆိုတာ ဘယ်နတ်မျိုးများ ဖြစ်တယ်လို့ ပြောဖို့ ခက်ပါတယ်။ ကာလဒေသကို ထောက်ဆကြည့်လျှင် ယနေ့ မြန်မာတိုင်းရင်းသားတွေ ပူဇော်ပသနေကြတဲ့ အတွင်းအပြင် (၃၇) မင်း နတ်တွေလည်း မဟုတ်နိုင်ပါဘူး။ ဘာကြောင့်လဲဆိုတော့ ဘုရားရှင် ဟောတာက လွန်ခဲ့တဲ့ နှစ်ပေါင်း ၂၆၀၀ လောက်က အိန္ဒိယနိုင်ငံမှာ ဟောတာပါ။ သည် (၃၇) မင်း တွေက မကြာလှသေးတဲ့ ပုဂံခေတ်မှာမှ မြန်မာနိုင်ငံမှာ ပေါ်ပေါက်လာတာကြောင့်ပဲ ဖြစ်ပါတယ်။

ဘုရားရှင် ဟောလိုတာက ဘယ်ခေတ်ကာလ ဘယ်ဒေသမှာမဆို မိမိတို့ လူမျိုးရိုးရာ ဘာသာအလိုက် ပူဇော်ပသလာတဲ့ နတ်များ ရှိလျှင် သူတို့နဲ့ ဆန့်ကျင်ဘက် မလုပ်ဘဲ ဆက်လက်ပူဇော်ကြဖို့ ဟောတော်မူတာ ဖြစ်ပါတယ်။ ပူဇော်တယ် ဆိုပေမယ့် ယနေ့ နတ်ကနားပွဲတွေမှာလို အပြစ်မကင်းတဲ့ အရာဝတ္ထုတွေနဲ့ ပူဇော်ဖို့ မဟုတ်ပါဘူး။ (သူများအသက်ကို သတ်ပြီး နတ်ပူဇော်တာဟာ မကောင်းမှုကို အရင်းခံတာဖြစ်လို့ ပညာရှိတို့ လုပ်ရိုးမဟုတ်။ လူမိုက်တို့ အလုပ်မျိုးသာဖြစ်ကြောင်း "အာယာစိတဘတ္တဇာတ်" မှာ ဘုရားရှင် ဟောထားပါတယ်။ ရိုးရာနတ်တွေနဲ့ သင့်လျော် အပြစ်ကင်းတဲ့ စားသောက်ဖွယ်များကို ပေးကမ်းခြင်း၊ မေတ္တာပို့ခြင်း၊ အမျှအတန်း ဝေခြင်း တို့ဖြင့် ပူဇော်မှုကိုသာ ဟောတော်မူတာပါ။

သည့်လိုဟောရတာကလည်း လောကမှာ လုပ်နေကျ ရိုးရာ အစဉ်အလာ လုပ်ငန်းခွင်တစ်ခုကို ဆက်မလုပ်ဘဲ ရပ်စဲပစ်လိုက်လျှင် ဘယ်လုပ်ငန်း ဘယ်ကိစ္စမျိုးမှာမဆို အနှောင့်အယှက် လေးဟွေနဲ့ နည်းများမဆို တွေ့ရတတ်တာ ဟာ လောကနိယာမ အစဉ်အလာတစ်ရပ်လို့ ဆိုရမှာပဲ။

**ဥပမာ**– သစ်ပင်ကလေးများ စိုက်တဲ့အခါ မိုးအပြတ်မှာ ရေဆက်လက် လောင်းပေးနေကျ သစ်ပင်ဟာ ရေမလောင်းဘဲ ရပ်စဲလိုက်လျှင် မကြာခင်ခြောက်သွေ့သေဆုံးသွားတတ်ပါတယ်။ ရေဆက်မလောင်းဘဲ ထားတဲ့ အပင်ကျတော့ သူရှင်သန်ကြီးထွားရေးအတွက် တတ်နိုင်သမျှ သူ့အင်သူ့အားနဲ့ လှုပ်ရှားဖန်တီး ရှင်သန်ကြီးထွားအောင် လုပ်သွားတတ်ပါတယ်။ ဒါဟာ သက်မဲ့ အရာများမှာပင် ပေးနေ ကျွေးနေကျဆိုလျှင် ပေးမှ ကျွေးမှ ကျေနပ်တဲ့ သဘောကို ပြတာပါပဲ။

သက်ရှိ အရာများမှာတော့ ပေးနေ ကျွေးနေကျ မပေးမကျွေးလျှင် နတ်၊ တစ္ဆေ၊ သရဲ၊ ပြိတ္တာတို့လို သတ္တဝါများဟာ အိပ်မက်ပေးခြင်း၊ ကိုယ်ထင်ပြခြင်း၊ တစ်စုံတစ်ရာ ထူးခြားတဲ့ အသံပြုခြင်း စသည်ဖြင့် သတိပေး တောင်းဆိုတတ်ပါတယ်။ လူများမှာလည်း ဆက်နေကျ အခွန်ဘဏ္ဍာ မဆက်လျှင် မင်းပြစ်မင်းဒဏ် ခံရပါတယ်။

တချို့ သတ္တဝါမျိုးကျတော့ အန္တရာယ်ပြုတတ်ပါတယ်။ ဘုရားရှင်လက်ထက်က ရဟန်းတစ်ပါးဟာ မြွေဟောက်





ကလေး တစ်ကောင်ကို ဝါးလုံးခေါင်းထဲ ထည့်ပြီး သားအမှတ်နဲ့ မွေးထားပါတယ်။ နေ့စဉ် မှန်မှန်အစာကျွေးပါတယ်။ ဝါးလုံးခေါင်းထဲမှာ ထားလို့ သူ့ကို 'ဝေဠုက' လို့ အမည်ပေးထားပါတယ်။ တစ်နေ့မှာ ရဟန်းဟာ ဆွမ်းခံအပြန် နောက်ကျနေတော့ မြွေဟာ စားချိန်မှာ အစာမစားရလို့ ဒေါသထွက်နေတယ်။ ဒါကို ရဟန်းက မသိဘဲ 'ချစ်သား ဝေဠုက လာခဲ့၊ သည်မှာ သင့်အစာ လာစားပါလေ' ဆိုပြီး ဝါးလုံးခေါင်းထဲက အထွက်မှာ အစာမစားရလို့ ဒေါသထွက်နေတဲ့ မြွေက ကိုက်လိုက်တာ ရဟန်းဟာ ပျံလွန်သွားရပါသတဲ့။ ဒီလို သဘောတရားမျိုးတွေ ရှိတဲ့အတွက် ရှင်တော်ဘုရားက ရိုးရာမပျက် ဆက်လက် ပူဇော်ကြဖို့ ဟောတော်မူတာပါ။

နတ်တွေဟာ သူတို့ကို မေတ္တာပို့၊ အမျှဝေခြင်း စသည်ဖြင့် ပူဇော်တာကို ခံရလျှင် သူတို့မှာ စည်းစိမ်ချမ်းသာ တန်ခိုး အရှိန်အဝါတွေပါ တိုးတက်လာပြီး ကိုယ်ရောစိတ်ပါ အလွန် ချမ်းသာကြတဲ့အတွက် သူတို့ကို ပူဇော်တဲ့ သူတွေအပေါ် မေတ္တာသက်ဝင် ကျေးဇူးတင်ကြတာကြောင့် သူတို့ကလည်း တတ်နိုင်သလောက် အခါအခွင့်ရသလို မ,စ စောင့်ရှောက်တတ်ကြပါတယ်။ ဒါဟာလည်း လောကနိယာမ အစဉ်အလာ တစ်ရပ်ပါပဲ။

မဟာ ပရိတ္တ ဒေသနာ (ပရိတ်ကြီး)မှာ ရှင်တော်ဘုရားက ရေမြေသစ်ပင် တောတောင်မှစပြီး စာတွေဟာ

ရာဇ် တာဝတိံသာထိ ရှိကြတဲ့ ဘုမ္မဒေဝနတ်၊ ယာမာစတဲ့ ကောင်းကင်မှာ နေကြတဲ့ အာကာသဋ္ဌနတ်တို့ နေ့ရောညပါ အခါမလပ် သူတို့တတွေကို ဆိုင်ရာပူဇော်ဖွယ်တို့ဖြင့် လူတွေဟာ အခါမလပ် ပူဇော်နေတယ်။ အဲဒီ လူသားတွေကို သင်တို့တတွေ မမေ့မလျော့ စောင့်ရှောက်ကြရမယ်လို့ နှိုးဆော်တိုက်တွန်းထားတာကို ပရိတ်ကြီး လေ့လာသူတိုင်း သိကြမှာပါ။

နတ်က မ,စတယ်၊ စောင့်ရှောက်တယ် ဆိုတာလည်း ရော့ ဒီမှာ ရွှေအိုး ငွေအိုးကြီးတွေ၊ ရွှေကဘယ်နှစ်ပိဿာ၊ ငွေက သိန်းပေါင်း ဘယ်လောက်၊ ဘယ်နှစ်ကုဋေ စသည်ဖြင့် ပစ္စည်းဥစ္စာ ရတနာတွေ ပုံပေးတာ မဟုတ်ပါဘူး၊ ပေးလည်း မပေးနိုင်ပါဘူး။ ရာထူးဂုဏ်သိန် စည်းစိမ်ဥစ္စာ ရရာရကြောင်း နည်းလမ်းကောင်းများကို ညွှန်ကြားပြသပေးခြင်း၊ တစ်စုံတစ်ရာ အန္တရာယ်နဲ့ တွေ့ကြုံမယ်ဆိုလျှင် ကြိုတင်သတိပေးခြင်း၊ အကာအကွယ် ပေးခြင်း၊ လွတ်မြောက်အောင် ကူညီခြင်းများသာ ဖြစ်ပါတယ်။ ပစ္စည်းဥစ္စာရအောင်၊ အန္တရာယ်ကင်းအောင်က ကိုယ်သာပဓာန၊ ကိုယ့်ဟာကိုယ် လုပ်ရမှာ ဖြစ်ပါတယ်။ ဒါကြောင့် ပညာရှိကြီးက "ကံမွဲဉာဏ်နဲ့" မလုံ့မလ နတ် မ,မဘူး။

"လုံ့လမထူ နတ်မကူဘူး၊ လူလည်းလုံ့လ နတ်လည်း မ၏လို့ မီးရှူးတန်ဆောင် ထွန်းပြောင် ညွှန်ပြခဲ့ကြပါတယ်။

ယနေ့ လူတွေကတော့ နတ်ကိုးကွယ်ထားလျှင်





နတ်က ဘာမဆို ကိုယ်လိုရာ ပေးတော့မယ့်အတိုင်း ပန်း၊ ဆီမီး၊ ဖယောင်းတိုင် ကန်တော့ပွဲကြီးတွေ မြိုင်မြိုင်ဆိုင်ဆိုင်နဲ့ ဘုရားခန်း ဘုရားစင်ထက်သာအောင် နတ်အတွက် ပြင်ဆင် တင်မြှောက် ကိုးကွယ်နေပုံကတော့ မိမိတို့ရဲ့ ဗုဒ္ဓဘာသာ မပီသပုံကို ဖော်ပြရာ ရောက်နေတဲ့အတွက် ရှက်တတ်လျှင် ရှက်စရာပါပဲ။

၃၇ မင်း နတ်ကနားပွဲ ပေးနေကြတာကလည်း ငှက်ပျောပွဲ၊ အုန်းပွဲ၊ ပန်း၊ ဆီမီး၊ မုန့်ပဲသွားရည်စာ အပြင် ကောင်းပေ့ဆိုတဲ့ နိုင်ငံခြားအရက် (သူတို့ အခေါ် အဖျော်ယမကာ) တွေနဲ့ နတ်ကို ဆက်တယ်ဆိုပြီး နတ်ဝင်သည်ကိုလည်း တိုက်၊ ပွဲပေးသူ မိမိကိုယ်တိုင်လည်း သောက်၊ အသားကင်၊ အသားကြော်တွေနဲ့ မြည်းကြ ကိလေသာပွား၊ စိတ်လှုပ်ရှားစရာ သီချင်းတီးလုံး တီးကွက်တွေ သီဆိုတီးမှုတ် ကခုန်ပြီး ရူးကြမြူးကြ ပျော်ပွဲကြီး ကျင်းပနေကြပုံတွေဟာ [...]သူမရှက် မြင်သူရှက် ဆိုသလို အတော့်ကို စိတ်ပျက်စရာ [...]ကောင်းလှပါတယ်။ တောင်ပြုံးပွဲတော်လို နတ်ပွဲများမှာဆိုလျှင် [...]ကင်နဲ့နှမ သားနဲ့အမိ အတူမသွားဝံ့လောက်အောင်ဘဲ လူ့[...]ကျေးမှုနဲ့ ကင်းလှတယ်လို့ ကြားဖူးပါတယ်။

သည်နည်းမျိုးနဲ့ ပူဇော်ပသတဲ့အတွက် သူတို့ မျှော်[...]တဲ့ ကောင်းကျိုးချမ်းသာ မင်္ဂလာတွေ ရပါ့မလားဆိုတော့ [...] ကျိုးချမ်းသာ မင်္ဂလာဆိုတာ ကုသိုလ်တရားကသာ

ပေးတာ (ဖြစ်ပေါ်စေတာ) ဖြစ်တဲ့ အတွက် ဒါလောက် သောင်းကျန်းတဲ့ ကာယကံ–ဝစီကံ–မနောကံ အကုသိုလ်တွေ လုပ်ပြီး ကောင်း ကျိုးချမ်းသာ မင်္ဂလာကို မျှော်လင့်တောင့်တ တယ် ဆိုလျှင်တော့ တမာပင်စိုက်ပြီး သရက်သီး သီးလာ မလားလို့ မျှော်လင့်သူထက်ပဲ မိုက်မဲရာ ကျနေပြီလို့သာ ဆိုလိုက်ချင်ပါတော့ တယ်။

နို့ပြီးတော့ နတ်တွေကို ရတနာသုံးပါးကို ကိုးကွယ် ဆည်းကပ်သလို ဦးတချချနဲ့ ဖူးမဝသလို ရှိခိုးဦးတင် လုပ်နေ ရမှာ မဟုတ်ပါဘူး၊ နတ်ကသာ လူကို ရှိခိုးရမှာပါ။ ဒီလို ပြောလိုက်တော့ 'အလိုတော် ကျားသားမိုးကြိုး နတ်က လူကိုရှိခိုးရမတဲ့၊ ကြား ကြားဖူးပေါင်တော်' ဆိုပြီး မျက်ကလူး ဆန်ပြာ ဖြစ်သွားသလား၊ မဖြစ်နဲ့ ပြောပြမယ်၊ ဒီလိုနေရာမှာ အမျိုးသမီးတွေဟာ ပိုကဲတတ်တယ်။

သိကြားမင်းက လူကိုရှိခိုးခြင်း၊ တာဝတိံသာနတ်ရွာ သနင်း သိကြားမင်းကြီးဟာ တစ်နေ့မှာ မြင်းမိုရ်တောင်ထိပ်ရှိ မိမိ၏ ဝေဇယန္တာ နန်းပြာသာဒ်ကြီးရဲ့ လေကားမုခ်ဦးမှာ မတ်တပ်ရပ်ပြီး အောက်ရပ်ပြည်သာ လူတို့ရွာဆီကို မျက်နှာမူ လက်အုပ်ချီကာ အကြိမ်ကြိမ် ဦးနိုပ်ချနေတာကို မာတလိ နတ်သားက တွေ့တဲ့အခါ 'အရှင်မင်းကြီး၊ အရှင်မင်းကြီးဟာ စာတုမဟာနဲ့ တာဝတိံသာ နတ်ရွာ နှစ်ခုစလုံးကို သိမ်းကျုံး ပိုင်သ အစိုးရတဲ့ နတ်တို့သနင်း သိကြားမင်း ဖြစ်ပါလျက်





အဘယ့်ကြောင့် အောက်ရပ်လူ့ရွာ မျက်နှာမူပြီး ဘယ်သူ့ကို များ အကြိမ်ကြိမ် ဦးနိမ့်ချနေတာပါလဲ' လို့ မေးပါသတဲ့။ သည်အခါ သိကြားမင်းက ...

"အမောင် မာတလိ၊ အောက်ရပ်ပြည်သာ လူတို့ရွာမှာ ဒါန သီလ ဘာဝနာစ မြတ်ကောင်းမှုကို မပြတ်ပြုလုပ် နေကြကုန်သော သီလ (ကိုယ်ကျင့်တရား) နှင့် ပြည့်စုံကုန် သော ရတနာ သုံးရပ်ကို ကြည်ညိုလေးမြတ် မိုဝဲဆည်းကပ် နေကြကုန်သော၊ ကောင်းရာကောင်းကြောင်း သက်မွေးဝမ်း ကျောင်းဖြင့် သားမယားကို လုပ်ကျွေးနေကြကုန်သော လူသူ တော်ကောင်းတွေ ရှိနေကြတယ်။ အဲသည် လူသူတော်ကောင်း တွေကို ငါ အားပါးတရ ရှိခိုးနေတာပါလို့ ပြန်ပြီး ဖြေကြား လိုက်ပါသတဲ့။

အဲဒါ ကြည့်ပေါ့။ သီလ, သမာဓိ, ပညာနဲ့ ပြည့်စုံ တဲ့ လူ သူတော်ကောင်းကို သိကြားမင်းကတောင် ရှိခိုးရပါ တယ်။ ကျန်တဲ့ ၃၇ မင်း စတဲ့နတ်တွေက ရှိခိုးရမယ်ဆိုတာ ဘာပြောစရာ ရှိတော့မလဲ။ ဒီလိုဖြစ်လျက်သားနဲ့ နတ်လား၊ တစ္ဆေသရဲလား၊ ပြိတ္တာလားဘာလား သေသေချာချာ မသိရတဲ့ သည် ၃၇ မင်း ဆိုတာတွေကို ဦးတချချနဲ့ ပူဇော်ပသနေတဲ့ လူတွေကိုကြည့်ရတာ အတော်ရယ်စရာကောင်းတယ်လို့ ဆိုရ မှာပဲ။ ကိုယ့်ဂုဏ်သိက္ခာ အဆင့်အတန်းကို ဖော်ပြရာ ရောင်း နေတဲ့အတွက် သူတို့အဖို့ ရှက်လည်းရှက်စရာ ကောင်းပါတယ်။

နတ်က စောင့်ရှောက်စေတယ်ဆိုရာမှာလည်း နောက်က ပြောခဲ့တဲ့အတိုင်း သာမန်ကူညီမှုမျိုးမျှသာ ဖြစ်ပါတယ်။ ကိုယ့်ကံဉာဏ်နဲ့ ဝီရိယ စွမ်းအားသာ ပဓာနပါ။

သီဟိုဠ်ကျွန်း (ယခု သီရိလင်္ကာ) မှာ ဗြာဟ္မဏတိဿ ခိုးသူကြီး ထကြွသောင်းကျန်းစဉ် အခါက လူတွေ လယ်ယာ မလုပ်နိုင်ကြတဲ့အတွက် အငတ်ဘေးကြီး ဆိုက်ပါတယ်။ လူတွေ ငတ်တော့ ရဟန်းတွေ စားစရာ မရှိပါဘူး။ ဒီအခါ ရဟန္တာကြီးတွေက သိကြားမင်းထံ အကူညီတောင်းခံပါတယ်။ ဒီတော့ သိကြားမင်းက အရှင်ဘုရားတို့ သည်ခိုးသူဘေးကြီး ငြိမ်းအေးအောင် တပည့်တော် မစွမ်းဆောင်နိုင်ပါ။ အရှင်ဘုရားများ အသက် ဆက်လက်ရှင်သန်ရေးအတွက် တပည့်တော် အကြံပေးချင်တာက ရဟန်းတော်တွေ ဇမ္ဗူဒိပ် (အိန္ဒိယ) ဘက်ကူးပြီး သည်ဘေးကြီး ငြိမ်းအေးတဲ့အထိ ခေတ္တ သီတင်းသုံး နေတော်မူကြဖို့ ဖြစ်ပါတယ်။ ဟိုဘက်ကမ်း ကူးဖို့ ဖောင်ကိုတော့ တပည့်တော် စီမံပေးပါ့မယ်။ အကယ်၍ ဖောင်မဆုံခဲ့သော် ရရာတုံးတို သစ်စတွေ တွယ်ဖက်ပြီး သွားကြဖို့ ဖြစ်ပါတယ်။ တစ်ခုတော့ ရှိတယ်၊ ဘယ်လိုပဲ ကူးကူး ပင်လယ်ထဲမှာ မသေရအောင်တော့ တပည့်တော် တာဝန်ယူပါတယ်တဲ့။

ဒါ သိကြားမင်းကြီးနော်၊ သိကြားနတ်မင်းကြီး။ သာမန် အညတရ နတ်တစ်ဦး မဟုတ်ဘူး။ သည် သိကြားမင်း





ကြီးဟာ ဟိုဘက်ကမ်း ကူးလိုတဲ့ သံဃာတော်တွေ ဟိုဘက်ကမ်း ရောက်စေဆိုပြီး စေတလုံး အသုံးချ ပို့လို့ မရ၊ မပို့နိုင် ရှာပါဘူး။ ဖောင်ကိုတောင် ကြီးကြီးကျယ်ကျယ် ထည်ထည် ခုံခုံ လောက်လောက်ငငေ ဖန်တီးမပေးနိုင်ရှာပါဘူး။

သည်တော့ သည် ၃၇ မင်းဆိုတာတွေ ဘာများ လုပ်ပေးနိုင်ကြမှာတဲ့တုန်း။ ဒီဟာတွေ ကိုယ်းကွယ် ဆည်း ကပ်တာနဲ့ ပတ်သက်ပြီး အင်းဝခေတ် စာဆိုတော် အကျော် အမော်ကြီးများ ဖြစ်ကြတဲ့ ရှင်မဟာသီလဝံသ (သည်ဆရာ တော်ကြီးဟာ နတ်ထိန်းကြီး မျိုးနွယ်ဝင် ဖြစ်တယ်လို့ ဆိုပါ တယ်၊) ရှင်မဟာ ရဋ္ဌသာရ ဆရာတော်ကြီး နှစ်ပါးစလုံးတို့ဟာ ရယ်စရာကောင်းတဲ့ အလုပ် ရှက်စရာကောင်းတဲ့ အလုပ်များ အဖြစ် ဘွင်းဘွင်းရှင်း ရှင်းကြီးပဲ ရှုတ်ချသွားတော်မူခဲ့ကြတာကို ဆရာတော်ကြီးများရဲ့ စာပေတွေထဲမှာ အများအပြား တွေ့ရပါ တယ်။ အဲဒါတွေ ဖော်ပြနေလျှင် ဆုံးနိုင်မှာ မဟုတ်တဲ့အတွက် ထားလိုက်ကြပါစို့။

နောက်ဆုံး ဝင်လာတဲ့ သတင်း။ အခု သည်အကြောင်း အရာနဲ့ ပတ်သက်တဲ့ နောက်ဆုံးဝင်လာတဲ့ သတင်းလေး တစ်ပုဒ်ကို ဖော်ပြပြီး သည်အကြောင်း အဆုံးသတ်ကြစို့သား။ သည်စာကို ရေးနေစဉ် တစ်နေ့မှာ ဧည့်သည်တစ်ယောက် ရောက်လာပြီး စကားစမြည် ပြောကြရာက နတ်ကနားပွဲ အကြောင်း ရောက်အသွား သူပြောပြပုံက ...

တစ်နေ့က နတ်ထိန်း အမျိုးသမီးကြီးအိမ် ရောက်အသွားမှာ အမျိုးသမီးကြဟာ နတ်ရုပ်တွေ အိမ်ပြင်ထုတ်၊ ဟိုပြောင်းသည်ရွှေ့ လုပ်နေတာ တွေ့ရလို့၊ အမေ ဒါဘာလုပ်နေတာလဲ၊ ဒါတွေ ဘယ်ပို့မလို့လဲ၊ သူများ ပေးပစ်တော့ မလို့လား မေးတဲ့အခါ အမျိုးသမီးကြီးက အေး...ဟုတ်တယ်သားရေ၊ ယူမယ့်သူရှိလည်း ပေးမယ်၊ ယူမယ့်သူမရှိလည်း တော်တဲ့ နေရာ တစ်နေရာရာ ပို့ထားလိုက်တော့မလို့ပဲ။ အခု အမေ့အသက်က ခြောက်ဆယ်ရှိပြီ၊ အမေ့အသက် (၂၀) အရွယ်လောက်ကတည်းက သည်နတ်ထိန်း အလုပ်ကို လုပ်စားလာခဲ့တယ်လေ၊ အသင့်အတင့်လည်း စားနိုင်သောက်နိုင် ရှိပြီ၊ အသက်က စကားပြောလာတော့ သတိသံဝေဂလေးလည်း ရလာလို့ အမေ ရှေ့ဆက် မညာချင်တော့ဘူးသားရေတဲ့။

သတင်းကတော့ ဒါပါပဲ ကိုကျော်ဝင်းရေ။

နတ်ကိုးကွယ်မှုနဲ့ ပတ်သက်လို့ ရှင်းပြသင့်သလောက်လည်း ရှင်းပြပြီးပါပြီ။ အထူးသဖြင့်ကတော့ သည်နောက်ဆုံးဝင်လာတဲ့ သတင်းတိုလေး တစ်ပုဒ်ထဲက လိုရင်းပဓာနအနှစ်ချုပ်ကို ထုတ်ယူတတ်လျှင်ဖြင့် ကိုကျော်ဝင်းတို့ ခေါင်းထဲမှာ အသိဉာဏ် ဝင်လက်ပြီး ရှင်းချက်ရပြီးသား ဖြစ်သွားလိမ့်မယ်လို့ မျှော်လင့်ကြောင်း ပြန်ကြားလိုက်ပါတယ်။



## မေးခွန်း (၁၄)

**အမေး** ဝိကာလဘောဇန သိက္ခာပုဒ်ကို ညနေစာ စားပြီး၍ ညရှစ်နာရီ ဘုရားရှိခိုးပြီး ရှစ်ပါးသီလ ဆောက်တည်သောအခါ ဝိကာလဘောဇန သိက္ခာပုဒ် ထည့်ဆိုလျှင် ကုသိုလ်ရပါသလား၊ ငရဲကြီးတတ်ပါသလား၊ ထည့်မဆိုလျှင် ရှစ်ပါးသီလ စောင့်၍ ရပါ,မလား သိလိုပါသည် အရှင်ဘုရား။

ဦးဘဝင်း၊ ရွှေဥမင်မြို့။

**အဖြေ** ညနေစာ စားပြီး ည ရှစ်နာရီထိုးမှ ဝိကာလဘောဇန သိက္ခာပုဒ်ထည့်ပြီး ရှစ်ပါးသီလ ဆောက်တည်လျှင် ငရဲကြီး-မကြီးဆိုတဲ့

အမေးကို ဖြေရလျှင် သည်အလုပ်ဟာ စေတနာပေါ် မူတည်တယ် လို့ ဆိုရပါလိမ့်မယ်။ ညနေစာ စားပြီးခါမှ အိမ်နီးနားချင်းရှိသေအောင်၊ သူများအထင်ကြီးအောင် မှုမမှန်တဲ့ စေတနာနဲ့ ကျယ်ကျယ်လောင်လောင် ရှစ်ပါးသီလ ဆောက်တည်တာမျိုးဆိုလျှင်တော့ "ခေါင်ဆိုသည့် ဆုတောင်းကို ကောင်းကောင်းကြီး ကျက်ထား၍ ဘုရားရှေ့တော်ဝယ် တအော်အော်ရွတ်ကြသည်။ ဝေပါ၏ အမျှတဖွဖွ ဆိုသော်လည်း ထိုသူ၏ စာတ်နရတ်ကို တပ် အကြပ် သိပြီးမို့ နားငြီးရုံရှိချေသည်" ဆိုတဲ့ လယ်တီဆရာတော်ဘုရားကြီးရဲ့ စကားအတိုင်း အပြစ်မကင်းဘူး၊ ငရဲကြီးတယ်လို့ ဆိုရမှာပဲ၊ ဒီလို မရိုးမသားဆောက်တည်မှုဟာ "ရဟန်းတော်များ ယုတ်မာတဲ့ အလိုဆိုးနဲ့ ဈာန်မဂ်ဖိုလ် မရဘဲ ရတယ်လို့ လိမ်ညာပြောတဲ့ သဘောမျိုးသက်ရောက်နေတဲ့အတွက်" ဘုရားရှင် အလွန်စက်ဆုပ်တဲ့ အလုပ်မျိုး ဖြစ်ပါတယ်။ သည်လိုပြောဆိုတဲ့ ရဟန်းဟာ ပါရာဇိ က ကျတယ်၊ ရဟန်းမဟုတ်တော့ဘူး။ ဘုရားရှင်က အဲသည်လို ပုဂ္ဂိုလ်မျိုးကို လောကမှာ အကြီးဆုံး ခိုးသူကြီးငါးယောက် ရှိတဲ့အထဲ သူလည်း တစ်ယောက် အပါအဝင်ပဲလို့ သတ်မှတ်ပါတယ်။

တရားအားထုတ်သူ ပေါများလှတဲ့ ယနေ့ခေတ် အချိန်မှာ အပြိုင်အဆိုင် အတုအယောင်တွေ မနည်းလှတာကြောင့် သည်လို မရိုးသားမှုတွေကို ကိုယ်တိုင် မလုပ်မိဖို့နဲ့





သူတစ်ပါးတို့ရဲ့ မရိုးသားတဲ့ အပြောအဆို အပြုအမူတွေကို အယုံမလွယ်မိစေရန် သတိပေးစကား ပြောကြားလိုက်တာဖြစ်ပါတယ်။

တကယ် ရိုးသားတဲ့ စေတနာနဲ့ စောင့်ထိန်းလိုတဲ့ အတွက် ဝိကာလဘောဇနေ သိက္ခာပုဒ်ပါ ထည့်ပြီး ဆောက်တည်လျှင်တော့ ငရဲမကြီးပါဘူး၊ ကုသိုလ်ရပါတယ်။ ဒါပေမယ့် သည်နေ့ တစ်နေ့လုံးအတွက်တော့ ရှစ်ပါးသီလ အပြည့်အဝမရနိုင်တော့ပါဘူး။ ဆောက်တည်တဲ့ နေ့ရဲ့ ဆောက်တည်ချိန်ကို လိုက်ပြီး နေ့ဝက်လောက် ဖြစ်စေ၊ နေ့၏ သုံးပုံတစ်ပုံလောက် ဖြစ်စေ ဥပုသ်ရနိုင်ပါတယ်။

သည်နေရာမှာ ရှင်ပြု ရဟန်းခံ ကိစ္စဟာ လုံလောက်တဲ့ သာဓကတစ်ခုပါပဲ။ ရှင်ပြုတဲ့အခါ တချို့ နံနက်ဘက် ကိုရင်ဝတ်ပါတယ်၊ တချို့ကျတော့ ညနေစာ စားပြီး ညပိုင်းကျမှ ကိုရင် ဝတ်ပါတယ်။ သည်ဝတ်တဲ့နေရာမှာ နံနက်ပိုင်းဝတ်တဲ့အတွက် တစ်စုံတစ်ရာ ပြောစရာ မရှိသော်လည်း ညပိုင်းဝတ်တဲ့အခါ ညနေစာ စားပြီးနေပြီ။ ဒါပေမယ့် သီလဆောက်တည်တဲ့အခါ ဝိကာလဘောဇနေ သိက္ခာပုဒ်ကို ထည့်ပြီး ဆောက်တည်တာပဲ။ အဲသည်လို ဆောက်တည်လျှင် ဆောက်တည်တဲ့အချိန်က စပြီး ဆယ်ပါးသီလနဲ့ ပြည့်စုံသွားတော့တာပဲ။ ဒါကို ထောက်ဆ ပြီး ရှစ်ပါးသီလ ဆောက်တည် ဥပုသ်စောင့်တဲ့ကိစ္စကို သဘောပေါက်နိုင် ကောင်းပါတယ်။

သည်နေရာမှာ နေ့ထက်ဝက် ဥပုသ်စောင့်တာနဲ့ ပတ်သက်ပြီး မှတ်သားစရာ ဖြစ်ရပ်ကလေးတစ်ခုကို ပြောပြရလျှင် ဘုရားရှင် လက်ထက်တော်အခါက ရာဇဂြိုဟ်ပြည်ရှင် ဗိမ္ဗိသာရမင်းကြီးဟာ တစ်လခြောက်သီတင်း ဥပုသ်စောင့်သုံးပါတယ်။ မိမိထံ လာရောက်ခစားသူများကိုလည်း ဥပုသ်ရရဲ့လားလို့ မေးလေ့ရှိပါတယ်။ သည်တော့ မင်းလိုလိုက်ပြီး ဥပုသ်စောင့်ကြ သူတွေ အလွန်များပါတယ်တဲ့။ တစ်နေ့ လာဘ်စားပြီး တရားစီရင်တတ်တဲ့ တရားသူကြီး အမတ်တစ်ယောက် လာရောက်ခစားတဲ့အခါ ထုံးစံအတိုင်း ရှင်ဘုရင်ကြီးက သည်နေ့ ဥပုသ်ရရဲ့လားလို့ မေးတော့ မရပါလို့ လျှောက်ထားရမှာ ကြောက်တာနဲ့ ဥပုသ်ရပါကြောင်း လိမ်လည်လျှောက်ထားပြီး မင်းထံက ထအသွားမှာ မိတ်ဆွေတစ်ယောက်က အဆွေ ဥပုသ်မရဘဲ ရတယ်လို့ လိမ်ပြောတာ မကောင်းပါဘူး၊ နေ့ဝက် ဥပုသ်လောက် ဖြစ်ဖြစ် ရအောင် ဥပုသ်အင်္ဂါတို့ကို ဆောက်တည်လိုက်ပါဦးလို့ တိုက်တွန်းတာနဲ့ ကောင်းပြီလို့ ဝန်ခံပြီး အိမ်ပြန် ညစာမစားတော့ဘဲ ခံတွင်းကို ဆေးကြောသုတ်သင်ကာ ဥပုသ်ဆောက်တည်ပြီး အိပ်လိုက်ပါတယ်။ အဲဒီလို အိပ်လို့ ညဥ့်နက်သန်းခေါင်လောက်မှာ အစာမရှိတော့ လေတက်ကျင်ထိုး၍ လေထိုးလေအောင့်ပြီး သေဆုံးကာ တစ်ညဥ့်မျှ ဥပုသ်စောင့်ရတဲ့ ကောင်းမှုကံကြောင့် တောင်ဝှမ်းတစ်ခုမှာ နတ်သမီးတစ်သောင်း အခြံအရံရှိတဲ့





ဝေမာနိက ပြိတ္တာ သွားဖြစ်တယ်။ ဒါပေမယ့် လာဘ်စားပြီး တရားစီရင်မှု၊ အမှုအခင်းဖြစ်ပွားအောင် ကုန်းတိုက်စကား ပြောကြားမှု အကုသိုလ်ကံတို့ကြောင့် ကိုယ့်ကျောကုန်း ကိုယ်ခြစ်ခြစ် စားရတဲ့ ဒုက္ခဆိုးကြီးကိုလည်း ခံစားရပါသတဲ့။ သည်အဖြစ်အပျက်ကို ကြည့်လျှင် ကုသိုလ်ဆိုတာ အားကိုးမြတ်နိုးပြီး အရေးတကြီး ပြုလုပ်စရာ ကောင်းတယ်။ အကုသိုလ်ကိုတော့ စက်ဆုပ်ရွံရှာ ရှောင်ကြဉ်စရာ ကောင်းတယ်ဆိုတာ နားလည်သဘောပေါက် စရာပဲ။

## မေးခွန်း (၁၅)

**အမေး(၁)** ဘုရားဟော ဒေသနာတော်လာ အတိုင်း မဟုတ်ဘဲ ချန်လှပ်၍လည်းကောင်း၊ အပိုများ ထည့်သွင်း၍လည်းကောင်း၊ အမှန်အတိုင်း မဟုတ်ဘဲ အမှားကို ဟောမိသော ဓမ္မကထိက ရဟန်းအားလည်းကောင်း။

**အမေး(၂)** ဘာသာရေး စာစောင်များ၌ဆောင်းပါးများ ရေးရာတွင် တကယ်ဖြစ်ပျက်တာထက် ပိုပြီး ရေးသော စာရေးဆရာအားလည်းကောင်း သံသရာအပြစ် ရှိ-မရှိ သိလိုပါ သည်။ ဖြေကြားပေးပါ။

**အရှင်ဇာနေယျ၊ မင်္ဂလာစမ်းကျောင်း၊**
**နတ်စင်ကုန်းတောင်ပိုင်း၊ ကော့မှူးမြို့နယ်။**





**အဖြေ(၁)** မေးခွန်းအတွက်ဖြေရလျှင်ရဟန်းတို့၊ ငါဘုရား ဟောမထားတဲ့ တရားတစ်ခုခုကို ငါဘုရား အဟောလုပ်တဲ့ ရဟန်း၊ ငါ ဟောထားတဲ့ တရားတစ်ခုခုကို ငါ ဟောထားတာ မဟုတ်ဘူးလို့ ဆိုတဲ့ ရဟန်း၊ ငါ ပညတ် ထားတဲ့ သိက္ခာပုဒ်ကို ငါ ပညတ်ထားတာ မဟုတ်၊ ငါ ပညတ်မထားတဲ့ သိက္ခာပုဒ်ကို ငါ ပညတ်ထားတာလို့ ဆိုတဲ့ ရဟန်းဟာ လူနတ်များစွာတို့ အစီးအပွား မဲ့အောင်၊ ဆင်းရဲ ဒုက္ခရောက်အောင် ကျင့်သူ၊ သူ့ကိုယ်တိုင်အတွက်လည်း မကောင်းမှု များစွာတို့ကို ပွားများသူ၊ သာသနာတော်ကို ကွယ်ပျောက်စေသူ ဖြစ်တယ်လို့ အင်္ဂုတ္တိုရ် ပမာဒါဒိဝဂ်မှာ ရှင်တော်ဘုရား တိုက်ရိုက်တဲ့ တိုးကြီး ဟောတော်မူထားတာကို ကြည့်လျှင် သူ့အတွက် အဘယ်မျှ ကြီးလေးတဲ့ သံသရာအပြစ်ရှိကြောင်း အထူးပြောစရာ မရှိတော့ပါဘူးလို့ဘဲ ဖြေလိုက်ပါရစေ။

**အဖြေ(၂)** တကယ် ဖြစ်ပျက်တာထက် ပိုပြီး ရေးတာဟာ (၁) တကယ် ယုံကြည်ချက်နဲ့ ရိုးရိုးသားသား ရေးတာလား။ သည်လို ရေးလိုက်လို့ အဲသည်ပုဂ္ဂိုလ် တန်ခိုးအရှိန်အဝါ ကြီးမား၊ လာဘ်လာဘ [illegible] များလာလျှင် ငါ့အတွက်လည်း တစ်ဘက်တစ်လမ်းက [illegible]ပွင့် အခွင့်အရေးသာမှာပဲဆိုတဲ့ ပါပိစ္ဆာ (ယုတ်မာတဲ့

အလိုဆိုး) သဘောမျိုးနဲ့ ရေးတာလားဆိုတာ ခွဲခြား ကြည့်ရပါမယ်။

သည်လိုကြည့်တဲ့အခါ (၁)အမှတ်ပြ သဘောမျိုးနဲ့ ရေးတယ်ဆိုလျှင်တော့ ဘာအပြစ်မှ မရှိပါဘူး။ ဖွံ့နပဲ သန့်သန့်နဲ့ အမှန်တရားသိအောင် အားထုတ်နေတဲ့ ရဟန်းဟာ သူ့ကိုယ်သူ တကယ် ရဟန္တာဖြစ်တယ်ထင်ပြီး ရဟန္တာလို့ ဝန်ခံမိလျှင် ဘာအာပတ်မှ မသင့်သလိုပါပဲ။

(၂) အမှတ်ပြ သဘောမျိုးနဲ့ ဆိုလျှင်တော့ သူ့အဖို့ မသက်သာပါဘူး။ သည်လို ပုဂ္ဂိုလ်မျိုးဟာ ဒေဝဒတ်ကို ကိုးကွယ် ချီးမြှောက်မှားမိတဲ့ အဇာတသတ်လို အမြတ်မထွက်ဘဲ အရှုံး သက်သက်နဲ့သာ ရင်ဆိုင်ရမှာ ဖြစ်ပါတယ်။ တစ်ခဏ တစ်ဘဝ တစ်သက်တာ ကောင်းစားချင် ကောင်းစားမယ်။ သံသရာ တစ်လျှောက်တော့ ဒုက္ခ အရောက်ကြီး ရောက်မှာ သေချာပါတယ်။

အဇာတသတ်မင်းသား ဒေဝဒတ်ကို ဆရာတင် ချီးမြှောက်မိတာဟာ ကျားသေကို အသက်သွင်းတတ်တဲ့ သဉ္ဇီဝကလုလင်ဟာ သူ အသက်သွင်းပေးလိုက်လို့ ပြန်ရှင်လာတဲ့ ကျားရဲ့ ကိုက်သတ်ခြင်းကို ခံရပြီး ကိုယ်ကျိုးနည်းရသလို အဇာတသတ်လည်း ကိုယ်ကျိုးနည်း အဝီစိငရဲမှာ အဆင်းရဲကြီး ဆင်းရဲနေတယ်ဆိုတာ အားလုံးလိုလို အသိပဲ ဖြစ်ပါတယ်။



## မေးခွန်း (၁၆)

**အမေး(၁)** ဘိက္ခုသာသနာနှင့် ဘိက္ခုနီ သာသနာဟု ဘုရားလက်ထက်တော်၌ ထင်ရှားရှိခဲ့ပါသည်။ နောက်ပိုင်းတွင် ဘိက္ခုနီသာသနာကို ဖူးမြော်ခွင့် မရခဲ့ပါ။ အဘယ်ကြောင့် ဘိက္ခုနီသာသနာက ကွယ်ပျောက်ခဲ့ရပါသနည်း။ ဖြေကြားပေးပါ။

**အမေး(၂)** ဂေါတမ ဗုဒ္ဓ ပွင့်ထွန်း ပေါ်ပေါက်ရာ ဌာနဖြစ်သော အိန္ဒိယနိုင်ငံ၌ အဘယ်ကြောင့် ဗုဒ္ဓသာသနာ ကွယ်ပခဲ့ရပါသနည်း။ ဖြေကြားပေးပါ။

**အမေး(၃)**

အလှူဒါန ပြုလုပ်ရာတွင် တိဟိတ် ဥက္ကဋ္ဌ ကုသိုလ်မျိုးဖြစ်မှ ကောင်းသည် ပြောဆိုကြရာမှာလည်းကောင်း၊ တိဟိတ် ဥက္ကဋ္ဌ ကုသိုလ်မျိုးဖြစ်အောင် လှူဒါန်းနည်းကို လည်းကောင်း အများသဘောပေါက်အောင် ရှင်းလင်းဖြေကြားပေးပါ။

ဦးမြင့်သောင်း
ဖက်သောင်ရွာသစ်ကုန်း၊ ဇလွန်မြို့နယ်။

**အဖြေ(၁)**

သာသနာ ၂၃၃–ခုနှစ်မှာ သောဏထေရ်၊ ဥတ္တရထေရ်တို့ သုဝဏ္ဏဘူမိယခု သထုံသို့ကြွ၍ သာသနာ အပြုတွင် သထုံသူ သထုံသားအများအပြား အရိယာ ပုဂ္ဂိုလ်များ ဖြစ်ကြသည်။ အမျိုးသား ၃၅၀၀ တို့ ရဟန်းပြုကြပြီး အမျိုးသမီး ၁၅၀၀ တို့ ရဟန်းမိန်းမ ပြုကြသည်။ ထိုအချိန်ကစပြီး မြန်မာနိုင်ငံ၌ ဘိက္ခုနီသာသနာ စတင်ပေါ်ပေါက်လာသည်။ သီရိခေတ္တရာပြည်၊ ပုဂံပြည်၊ သမုဒ္ဒရာဇ်မင်း၊ ပြုစောထီးတို့ လက်ထက်တိုင်အောင် ရဟန်းမ အဆက်အသွယ် ရှိသည်ဟု မှတ်ယူသင့်ကြောင်း ဘုရားဖြူ ဆရာတော်၏ သာသန ဗဟုသုတပကာသနီကျမ်းမှာ ဆိုထားပါတယ်။

ဒါပေမယ့် မြန်မာ့သမိုင်း ကျောက်စာ ရာဇဝင်သာသနာ့ဝင် မှတ်တမ်းများမှာ ဘိက္ခုနီ အခန်းကဏ္ဍကို





မြို့ရွာ နေရာဌာန ကျောင်းတိုက် ဘွဲ့မည်နာမများနဲ့ ပီပီပြင်ပြင်ထင်ထင်ရှားရှား မတွေ့ရတဲ့အတွက် မြန်မာနိုင်ငံမှာ ဘိက္ခုနီသာသနာ ရှိမှ ရှိဖူး၊ ပေါ်မှ ပေါ်ဖူးပါရဲ့လားလို့တောင် သံသယဖြစ်စရာပါပဲ။ နို့ပြီးတော့ ဘယ်ခေတ်ကာလ၊ ဘယ်ခုနှစ်လောက်က ဘိက္ခုနီမ အဆက်ပြတ်သွားတယ်လို့လည်း မသိရ။ မြန်မာနိုင်ငံ အသာထား၊ ဘုရားပွင့်ရာ ဘိက္ခုနီတို့၏ မူလ ဘူတဖြစ်တဲ့ အိန္ဒိယနိုင်ငံမှာပင် သာသနာသက္ကရာဇ် ဘယ်နှစ်ခုနှစ်လောကစပြီး ဘိက္ခုနီ အဆက်ပြတ်သွားတယ်ဆိုတာ ဘယ်သူမှ တပ်အပ်သေချာ မပြောနိုင်ပါဘူး။ ဒီလို ဘိက္ခုနီ အဆက်ပြတ်သွားတာဟာ ဘိက္ခုနီ သာသနာကွယ်သွားခြင်းရဲ့ အကြောင်းရင်းပါပဲ။

ဘာဖြစ်လို့ ဘိက္ခုနီ အဆက် ပြတ်သွားသလဲဆိုတော့ သာသနာတော်မှာ ဘိက္ခုနီမများ ရှိနေတာကို ဘုရားရှင်လိုလားတော်မူဟန် မတူပါဘူး၊ မိထွေးတော် ဂေါတမီကြီးကိုယ်တိုင် ရှင်အာနန္ဒာရဲ့ အကူအညီနဲ့ အကြိမ်ကြိမ် လျှောက်ထား တောင်းပန်မှ မလွှဲသာမရှောင်သာ တကယ့်ပါရမီရှင်အမျိုးသမီးများ ဘိက္ခုနီမပြုဖို့ ခွင့်ပြုတော်မူခဲ့တာပါ။ သည်လိုခွင့်ပြုတော့လည်း သိက္ခာပုဒ်တွေ အများအပြားနဲ့ အလွန်တင်းကျပ်တဲ့ စည်းကမ်းတွေ ထားပြီး သာသနာတော်မှာနေခွင့် ပြုခဲ့ပါတယ်။ သိက္ခာပုဒ်များဆိုလျှင် ဘိက္ခုအတွက်ပါရာဇိကလေးပါး၊ သံဃာဒိသေသ် ၁၃ ပါး၊ သုဒ္ဓပါစိတ် ၉၂

ပါး၊ ပါဠိဒေသနီ လေးပါး ပညတ်ထားသော်လည်း ဘိက္ခုနီမများ အတွက်ကျတော့ ပါရာဇိက ရှစ်ပါး၊ သံဃာဒိသေသ် ၁၇ ပါး၊ သုဒ္ဓပါစိတ် ၁၆၆ ပါး၊ ပါဋိဒေသနီ ရှစ်ပါး ပညတ်ထားတဲ့အပြင် အခြား အများအပြားသော ဝတ္တရားများလည်း ရှိပါသေးတယ်။ အချို့ ပြစ်မှုများအတွက် ဘိက္ခုများမှာ သံဃာဒိသေသ် အာပတ်သာ သင့်သော်လည်း ဘိက္ခုနီများမှာ ပါရာဇိက အာပတ်သင့်ပါတယ်။ ဒါဟာ တော်ရုံတန်ရုံ သဒ္ဓါတရား၊ သာမန် သီလ သမာဓိ ပညာ၊ သာမန် ကိုယ်နှုတ် စောင့်စည်းမှုများနဲ့ အမျိုးသမီးများ သာသနာတော်တွင်း ဝင်မလာအောင် ရှင်တော်ဘုရား စီမံတော်မူထားတာပါ။

မာတုဂါမော နာမ ဗြဟ္မစရိယဿ အန္တရာယော- မာတုဂါမဟာ ပင်ကိုယ်ကပင် မြတ်သော အကျင့်ရဲ့ အန္တရာယ်ပဲလို့ ဆိုပါတယ်။ ဒီတော့ အမျိုးသမီးများ သာသနာတော်တွင်း ဝင်လာပြီး ရဟန်းများနဲ့ ပိုမိုနီးစပ်လာလျှင် သာသနာတော်မှာ အန္တရာယ် ပိုမိုကြီးမားလာမှာစိုးတဲ့အတွက် ကြိုတင်ကာကွယ်တဲ့ သဘောပါပဲ။

ဘုရားရှင် ပရိနိဗ္ဗာန်စံပြီး သာသနာတော် နောက်ပိုင်းကျလာတော့ ပညတ်တော်မူထားတဲ့ သိက္ခာပုဒ်တော်များကို စောင့်ထိန်းနိုင်လောက်တဲ့ သဒ္ဓါ၊ ဝီရိယ၊ သီလ၊ သမာဓိ၊ သတိ၊ ပညာတို့ အားနည်းလာတဲ့ အတွက် ဘိက္ခုနီ ပြုလုပ်



လိုသူများ နည်းပါးလာပြီး တဖြည်းဖြည်း ဘိက္ခုနီ အဆက်ပြတ်ပြီး ဘိက္ခုနီ သာသနာ ကွယ်သွားတယ်လို့ ဆိုရမှာပါပဲ။

ဘိက္ခုနီသာသနာ ပြန်ပေါ်လာအောင် ရဟန်းတွေက အမျိုးသမီးတွေကို ဘိက္ခုနီမ ပြုပေးဖို့ မရဘူးလားဆိုတော့ ဘိက္ခုနီဖြစ်အောင် ရဟန်းများချည်းသက်သက် ပြုပေးလို့ မရပါဘူး၊ ဘိက္ခုနီမ ပြုချင်ရင် ပထမအနည်းဆုံး ရဟန်းမ (ဘိက္ခုနီ) ငါးပါးက ဉတ္တိစတုတ္ထ ကမ္မဝါစာ ဖတ်ပေးရပါတယ်။ နောက် အနည်းဆုံး ရဟန်းငါးပါးက ဉတ္တိစတုတ္ထ ကမ္မဝါစာ ဖတ်ပေးမှ ဘိက္ခုနီမ ဖြစ်နိုင်ပါတယ်။ ယနေ့ခေတ်မှာ သည်လို ကမ္မဝါ ဖတ်ပေးမယ့် ဘိက္ခုနီမ တစ်ပါးမှ မရှိတော့တဲ့ အတွက် ဘိက္ခုနီမများ ပေါ်မလာနိုင်တော့ပါဘူး။

မပြောကောင်း မဆိုကောင်း ရဟန်းစစ် ငါးပါးတို့ဟာ ကစ္စည်းမထေရ်ကို ပြစ်မှားမိတဲ့ သောရေယျ သူဌေးသားလို လိင်ပြန် (ယောကျ်ား ဘဝက မိန်းမဘဝပြောင်း) သွားလျှင် သာသနာတော်မှာ ဘိက္ခုနီမ ငါးပါး ရှိလာမှာ ဖြစ်ပါတယ်။ သည်လိုရှိလာလျှင်တော့ သူတို့က ကမ္မဝါစာ ဖတ်ပေးလို့ ရတဲ့အတွက် ဘိက္ခုနီသာသနာ ပြန်ပေါ်လာနိုင်ပါလိမ့်မယ်။

သိပ္ပံပညာ ထွန်းကားတဲ့ ယနေ့ခေတ် အခါမှာ -လတ်စတစ် ဆာဂျရီနည်းနဲ့ ကျားကို မ၊ မကို ကျားလုပ်

လို့ ရတယ်လို့ ကြားဖူးပါတယ်။ တကယ်လုပ်လို့ ရလျှင်တော့ လုပ်လို့ (စိတ်ပါဝင်စားတဲ့) ရဟန်းငါးပါးကို အဲသည်လို လုပ်လိုက်လျှင်လည်း ဘိက္ခုနီ သာသနာ ပေါ်လာစရာ ရှိပါတယ်။ သည်လိုလုပ်ကောင်း မလုပ်ကောင်းကတော့ သိပ္ပံပညာရှင်ကြီးများနှင့် သာသနိက ပညာရှင်ကြီးများရဲ့ အခန်းကဏ္ဍပဲ ဖြစ်ပါတယ်။

**အဖြေ(၂)** သာသနာဟာ ပရိယတ္တိ၊ ပဋိပတ္တိ၊ ပဋိဝေဓ ရယ်လို့ သုံးမျိုးရှိပါတယ်။

သည်သုံးမျိုးအနက် ရှင်တော်ဘုရား ဟောကြားထားတဲ့ ယနေ့ မြန်မာနိုင်ငံမှာ အသုံးပြုနေတဲ့ ဝိနည်းပိဋက၊ သုတ္တန် ပိဋက၊ အဘိဓမ္မာပိဋက ဆိုတဲ့ ပိဋကသုံးပုံနဲ့ အဲသည် ပိဋကသုံးပုံကို နာယူမှတ်သား သင်ကြားလေ့ကျက် ဆောင်ရွက်မှုကို ပရိယတ္တိ သာသနာလို့ ဆိုတယ်။

အဲသည် ပိဋကသုံးပုံထဲမှာ လာတဲ့ ရှင်တော် ဘုရား ဟောကြားညွှန်ပြထားတဲ့ ကျင့်နည်း ကြံနည်း နေထိုင်နည်း အတိုင်း လိုက်နာ ကျင့်ကြံ နေထိုင်အားထုတ်မှုကို ပဋိပတ္တိ သာသနာလို့ ဆိုတယ်။

အဲသည်လို အားထုတ်မှုကြောင့် မိမိတို့ သန္တာန်မှာ ဖြစ်ပေါ်လာတဲ့ အဆင့်ဆင့် အမျိုးမျိုးသော အသိဉာဏ်များကို ပဋိဝေဓ သာသနာလို့ ဆိုတယ်။ တိုတိုကျဉ်းကျဉ်း လိုရင်းပဲ





ပြောလိုက်ပါတယ်။ များသောအားဖြင့် သိထားပြီးလည်း ဖြစ်မှာပါပဲ။

သည် သာသနာတော် သုံးရပ် ဘာကြောင့် အိန္ဒိယမှာ ကွယ်ပျောက်သွားရသလဲဆိုတဲ့ အမေးကို တိုတိုကျဉ်းကျဉ်းနဲ့ လိုရင်း ဖြေရလျှင် ပရိယတ္တိကို သင်ကြားမှု၊ ပဋိပတ္တိဆိုတဲ့ ကျင့်ကြံအားထုတ်မှု မရှိလို့ပဲလို့ ဖြေရမှာ ဖြစ်ပါတယ်။

သည်အဖြေကို ရွှေကျင်သာသနာပိုင် မဟာဝိသုဒ္ဓါရုံ ဆရာတော်ဘုရားကြီးက ဆိဒ္ဓပိဓာနနီကျမ်းမှာ အောက်ဖော်ပြလတ္တံ့ပါအတိုင်း လင်္ကာရေးသာ ညွှန်ပြထားပါတယ်။

(၁) အင်္ဂုတ္တိုရ်လာ သာသနာကွယ်ကြောင်း တရား ဒေါင်းကား ရဟန်းများတို့၊ တရားမနာ၊ စာပေမသင်၊ နှုတ်ဘွင် မဆောင်၊ သိအောင်မပြု၊ ဓမ္မာနုဓမ္မတ်–ပဋိပတ်ကွာ၊ ဤငါးဖြာတည်း။

(၂) တစ်ဝါတစ်ပြင်၊ စာသင်ပယ်လျှော၊ ကျယ်မဟောကြ၊ ကျယ်မချနှင့်။ ကျယ်စွာ့မအံ၊ မကြံမစည်၊ ဤငါးမည်တည်း။

(၃) ဝါ တစ်နည်းမှာ၊ အက္ခရာပုဒ်ပျက်၊ လေ့ကျက်သင်ကြ၊ ဒုဗ္ဗစမှု၊ စာချသူရှား၊ လာဘ်များအောင်ဖန်၊ ခိုက်ရန်ကွဲပြား၊ ဤငါးပါးသည်၊ ဘုရား သာသနာ ကွယ်ကြောင်းတည်း။

သည်လကာ် သုံးပုဒ်ရဲ့ အဓိပ္ပာယ်ချုပ်ကို ကောက်ချက်ထုတ်လိုက်လျှင် ရဟန်းတော်များ စာပေ မသင်ကြားခြင်း၊ သင်ကြားစေကာမူ သဒ္ဓါ၊ ဝီရိယ၊ သတိ၊ သမာဓိ၊ ပညာတို့အားနည်းလာမှုကြောင့် အကျယ်တဝင့် အဓိပ္ပာယ် ပေါ်လွင်အောင် မဖွင့်မဆိုဘဲ ဝတ်ကျေတမ်းကျေမျှသာ သင်ကြားပို့ချခြင်း၊ ပုဒ်ပျက် ပါဠိပျက် အက္ခရာပျက်များကို သင်ကြားပို့ချခြင်း၊ တပည့်တပန်း ရဟန်းငယ်များသည် ဆရာသမားများ၏ အဆုံးအမကို မနာယူဘဲ အပြောခက် အဆိုခက် ဆန့်ကျင်ဘက်ပြုခြင်း၊ တရားတော်များကို နာယူသင်ကြားကာ တရားတော်လာ ကျင့်ဝတ် ပဋိပတ် ဈာန် မဂ်ဖိုလ်ရကြောင်းအလုပ်တရားအားထုတ်မှုကို မပြုလုပ်ကြခြင်း၊ စာပေကိုတော့ မပို့ချမသင်ကြားဘဲ ဘုရားမကြိုက်သည့် ဆေးဝါးကုသ၊ ဗေဒင်ဟော၊ ဓာတ်ရိုက်၊ ဓာတ်ဆင်၊ အခါပေး အလုပ်များကို လုပ်ခြင်း၊ လောဘဖုံးလွှမ်းနေတဲ့အတွက် ဆင်ခြင်တုံတရား ကင်းမဲ့ပြီး ဖြတ်လမ်းက ကြီးပွားလိုသူများကို အကြားအမြင်ပေါက်တယ်ဆိုပြီး ဂန္ဓာရီအတတ်ပညာ အမျိုးမျိုးနဲ့ လှည့်စားကာ တန်ခိုးအရှိန်အဝါ ကြီးမား လာဘ်သပ်ပကာ အခြွေအရံပရိသတ် ပေါများအောင် အကြံအဖန် ပြုလုပ်ခြင်း၊ သံဃာတော်များ အချင်းချင်း ညီညွတ်မှု ကင်းကွာ ရန်ခိုက်ဒေါသအဖြာဖြာဖြင့် အကွဲကွဲ အပြားပြား ဖြစ်ခြင်းများဟာ ဘုရားရှင်





သာသနာ ကွယ်ကြောင်းများ ဖြစ်ပါတယ်။ သည်အကြောင်းများကြောင့် အိန္ဒိယနိုင်ငံမှာ သာသနာ ကွယ်ပျောက်သွားတာဖြစ်ပါတယ်။

ဖော်ပြပါ အကြောင်းများ အနက် လာဘ်များအောင်ဖန်ဆိုတဲ့ အကြောင်းဟာ သာသနာတော်အတွက် အလေးအနက်ထား စဉ်းစားရမယ့် အချက်လို့ ဆိုချင်ပါတယ်။ အကြောင်းကတော့ သာသနာကို ကြည်ညိုလေးစား သာသနာ့အကျိုး စီးပွားကို လိုလားပြီး သဒ္ဓါတရားနဲ့ ရိုးရိုးသားသားဝါကြွားမှု မရှိဘဲ စာပေပို့ချ သင်ကြားနေတဲ့ ရဟန်းတော်များဟာ နာမည်မထွက် လူသိမများ လာဘ်လာဘ ရှားပါးကြပါတယ်။ သည်အခါမှာ စိတ်မခိုင်တဲ့ စာချပုဂ္ဂိုလ်များနဲ့ အချို့ရဟန်းတော်များဟာ စိတ်ဓာတ်ကျပြီး နာမည်ကြီးလာဘ်များ၊ တန်ခိုးထွားကြတဲ့ ဂန္ဓာရီ အလင်္ကာများကို အားကျပြီးလိုင်း ပြောင်းကာ သူတို့ လမ်းစဉ်ကို လိုက်သွားနိုင်ပါတယ်။ မြတ်စွာဘုရားက မာတုဂါမက မဖျက်ဆီးနိုင်တဲ့ သူကိုတောင် လာဘ်က ဖျက်ဆီးနိုင်တယ်၊ လာဘ်ဟာ သာသနာတော်အတွက် မိုးကြိုးနဲ့ တူတယ်လို့ ဟောတော်မူပါတယ်။ ဆိုးပါတယ်၊ ကြောက်စရာ ကောင်းပါတယ်။

သည်လို လိုက်သွားလျှင် သာသနာတော်အတွက်အားပျက်စရာ ကောင်းလောက်အောင် ဆုံးရှုံးနစ်နာနိုင်ပါတယ်။

လာဘ်လာဘနဲ့ ချီးမြှောက်နိုင်သူများဟာ သည်အချက်ကို အလေးအနက်ထား စဉ်းစားသင့်ပါတယ်။

တစ်ခါက ဘုန်းကြီးတစ်ပါး ရောက်လာ၊ စပ်မိစပ်ရာ ပြောရာက ဂိုဏ်းဆရာ ခေါ်ရမလား၊ နတ်ဝင်သူ ခေါ်ရမလား၊ အရုပ်မျိုးစုံ ခာတ်ခန်းကြီးနဲ့ တခမ်းတနား နေတဲ့ ဂန္ဓာရီ ဘုန်းကြီးတစ်ပါးအကြောင်း ရောက်သွားရာ အသိဘုန်းကြီး က အဲသည် ဂန္ဓာရီဘုန်းကြီးဟာ သည်နှစ်ဝါဆိုဦးမှာ ရလိုက် တာ ဝါဆိုသင်္ကန်းတွေ အစုံတစ်ရာနီးပါး၊ ဝတ္ထုငွေတွေရော တခြား လှူဖွယ်ဝတ္ထုတွေပါ နည်းတာ မဟုတ်ပါဘူး စသည်ဖြင့် မြိန်ရေရှက်ရေ အားပါးတရ အားကျတဲ့ အနေနဲ့ ပြောပြ တာကို ကြားရတော့ သြော် ... သည်ဘုန်းကြီးဟာ မိဋ္ဌသုခ မိဒ္ဓသုခ–ချေးချမ်းသာ၊ သေးချမ်းသာလို့ ဘုရားဟောထားတဲ့ အားမကျသင့်တဲ့ အလွဲအမှား ချမ်းသာကို အားကျနေမှုကို လမ်းလွဲများ လိုက်မှဖြင့် ဒုက္ခ၊ သနားစရာ ကောင်းပါဘိလို့ သတိ သံဝေဂ ဖြစ်ကာ။

ဘုရားရှင် စက်ဆုပ်တော်မူတဲ့ သည်လို ချမ်းသာမှုမျိုး ကို အားမကျဘဲ ဘုရားရှင်က ဒကာ ဒကာမ သီတင်းသုံးဖော် များ ကြည်ညိုလေးစားမှုကို ခံယူလိုလျှင် အခြေအရံ ပရိသတ် ပစ္စည်းလေးပါး ပေါများလိုလျှင် သီလနဲ့ ပြည့်စုံအောင် နေဖို့ ညွှန်ကြားထားတာ ရှိပါတယ်။ အဲဒီ ညွှန်ကြား ချက်နဲ့အညီ





ကျင့်သုံးလို့ ရလာတဲ့ လာဘ်လာဘနဲ့ တင်းတိမ် ရောင့်ရဲမှုဟာ ယခုရော နောင်သံသရာရေးအတွက်ပါ စိတ် အေး ချမ်းသာ စရာ ဖြစ်ကြောင်း ပြောပြနှစ်သိမ့်စေလိုက်ရပါတယ်။

သည်လို ဂန္ဓာရီ အလဇ္ဇီ ပုဂ္ဂိုလ်မျိုး သာသနာတော်မှာ ရှိနေတာဟာ သာသနာတော်အတွက် အလွန် အန္တရာယ် ကြီးပါတယ်။ ဧကော အလဇ္ဇီ အလဇ္ဇီ သတမ္ပိ အလဇ္ဇီ သဟဿမ္ပိ ဇနေတိ။ အလဇ္ဇီပုဂ္ဂိုလ် တစ်ယောက်ဟာ အလဇ္ဇီ ရာထောင်မက ဖြစ်ပေါ်တိုးပွားစေနိုင်တယ်ဆိုတဲ့ အထဲမှာ သည်လို ဂန္ဓာရီ အလဇ္ဇီမျိုးလည်း ပါတယ်လို့ ဆိုရမှာပဲ။ ဒီလို ဂန္ဓာရီ အလဇ္ဇီမျိုးဟာ ကိုးကွယ်ဆည်းကပ်သင့် ချီးမြှောက် သင့်တဲ့ ပုဂ္ဂိုလ်မျိုး မဟုတ်ပါဘူး။ ချီးမြှောက်မိလျှင် ကျား သေကို အသက်သွင်းမိတဲ့ သဉ္ဇီဝက လုလင်ဟာ ကျားကိုက် ခံရပြီး သေရသလို ဒေဝဒတ်ကို ဆည်းကပ်ကိုးကွယ် ချီးမြှောက် မိတဲ့ အဇာတသတ်ဟာ အဝီစိငရဲ ကျရသလို အဲသည် ချီး မြှောက်မိတဲ့ ပုဂ္ဂိုလ်ဟာလည်း အပါယ်လေးပါးကျမှာ ကျိန်းသေ ပါတယ်။

ဒါကြောင့် သာသနာကွယ်ကြောင်းများ အနက် "သည်လာဘ်များအောင်ဖန်" ဆိုတဲ့ အချက်ဟာ အရေးအကြီး ဆုံးအချက် ဖြစ်တာမို့ မိမိ၏ ရေရှည် အကျိုးစီးပွားနှင့် သာသနာတော် သန့်ရှင်းတည်တံ့ ပြန့်ပွားရေးကို တကယ်

လိုလားလျှင် သည် ဂန္ဓာရီ အလင်္ကာမျိုးကို ဝေးဝေးက ရှောင်ကြဉ်ပါလို့ တိုက်တွန်းလိုက်ပါတယ်။

**အဖြေ(၃)** တိဟိတ် ဥက္ကဋ္ဌ ဒါနကုသိုလ်ဖြစ်အောင် ဘယ်လိုလုပ်ရမလဲဆိုလျှင် ဥပမာ–ဆွမ်းကျွေးအလှူတစ်ခု ပြုလုပ်တယ် ဆိုပါစို့၊ သည်အခါ ဆွမ်းမလှူခင် ရှေ့အဖို့ လှူမယ်လို့ စတင် ကြံစည်ချိန်က စပြီး ငါတို့ ဆွမ်းလှူရတော့မယ်ဆိုတဲ့ စိတ် ထက်သန်ဝမ်းမြောက် နေရမယ်၊လှူဒါန်းနေတုန်းမှာလည်း ကြည်လင်ရွှင်လန်းနေရမယ်။ လှူပြီးနောက် အလှူကြီး ထမြောက်သွားပြီးတော့လည်း ငါတို့ဖြင့် ဘယ်လို အလှူကြီးကို ပြုလုပ်လိုက်ရပေပြီဟု့ ထက်သန်အားရ ဝမ်းမြောက်လှတဲ့ ကုသိုလ်စိတ်တွေ ဖြစ်နေမယ်ဆိုလျှင် အဲသည်အလှူဟာ လှူနေတဲ့ ကာလရဲ့ ရှေ့နောက် နှစ်ရပ်လုံးမှာ ကုသိုလ်တွေ ခြံရံထားတဲ့ ကုသိုလ်ဖြစ်တာကြောင့် အဲသည် အလှူ ကုသိုလ်ကို မြင့်မြတ်တဲ့ (ဥက္ကဋ္ဌ) ကုသိုလ် အလှူလို့ ဆိုရပါတယ်။

ပြီးတော့ အဲသည် အလှူကို လှူတဲ့အခိုက်မှာ ကုသိုလ်ကံ ရှိတယ်။ ကုသိုလ်ကံရဲ့ ကောင်းကျိုးရှိတယ်လို့ ယုံကြည်တဲ့ ကမ္မဿကတာ သမ္မာဒိဋ္ဌိဉာဏ် ဖြစ်စေ၊ ရုပ်တရား နာမ်တရားအပေါ် အနိစ္စ ဒုက္ခ အနတ္တလို့ ရှုမြင်သုံးသပ်တဲ့ ဝိပဿနာဉာဏ် ဖြစ်စေ ရှိနေလျှင် အဲသည် အလှူကုသိုလ်ကို





အလောဘ အဒေါသ အမောဟဆိုတဲ့ ဟိတ်သုံးပါး ရှိနေတဲ့အတွက် တိဟိတ်ကုသိုလ်လို့ ဆိုရတယ်၊ သည်နှစ်ရပ်ပေါင်းလိုက်လျှင် သည်ဒါန ကုသိုလ်ဟာ တိဟိတ် ဥက္ကဋ္ဌ ကုသိုလ် ဖြစ်သွားပါတယ်။

ဒါကို အတိုချုပ် ပြောရလျှင် လှူဆဲအခါမှာ ကံ,ကံ၏ အကျိုးကို ယုံကြည်တဲ့ ကမ္မဿကတာ သမ္မာဒိဋ္ဌိဉာဏ် ဖြစ်စေ၊ ဝိပဿနာ ဉာဏ်ဖြစ်စေ တစ်ခုခုရှိပြီး မလှူခင် ရှေ့အဖို့နဲ့ လှူပြီး နောက်အဖို့တို့မှာ ထက်သန်ဝမ်းမြောက်တဲ့ ကုသိုလ်တွေ ခြံရံနေလျှင် အဲသည်ဒါနဟာ တိဟိတ်ဥက္ကဋ္ဌ ဒါန ကုသိုလ် ဖြစ်ပါတော့တယ်လို့ မှတ်သားရန် ဖြစ်ပါတယ်။

## မေးခွန်း (၁၇)

**အမေး** ဆွမ်းတော်တင် စားလျှင် ဉာဏ်ထိုင်းတယ် ဆိုတာ ဟုတ်ပါသလား။

မစိန်မြင့်သန်း
သာယာကုန်းရပ်၊ ဆင်ဖြူကျွန်း၊ မကွေးတိုင်း။

**အဖြေ** လူအတော်များများက အဲဒီလို ပြောနေကြတာပါပဲ။ ဆွမ်းတော်တင် စားလျှင် ဉာဏ်တိုင်းတယ်၊ ဘုန်းနိမ့်တတ်တယ် စသည်ဖြင့်ပေါ့လေ၊ ဒါပေမယ့် ထေရဝါဒ ဗုဒ္ဓစာပေများမှာ ဒီအဆိုကို ထောက်ခံတဲ့ စကားရပ် တစ်စုံတစ်ရာ မတွေ့ရပါဘူး။





တစ်ခု တွေ့ရတာက သထုံ မနူဟာမင်းပါပဲ။ ပုဂံ အနော်ရထာမင်းဟာ မနူဟာမင်းကို ပိဋကတော်များနှင့်တကွ ပုဂံသို့ ဆောင်ယူလာပြီး မြင်းကပါအရပ်မှာ အလုပ်အကျွေးများနှင့်တကွ ကောင်းမွန်စွာ ထားပါတယ်။ မနူဟာမင်း စကားပြောတဲ့အခါ အာခံတွင်းက ဝင်းဝင်းတောက်ပါတယ်။ မနူဟာမင်း အနော်ရထာမင်းထံ အခစားဝင်တဲ့ အခါ အနော်ရထာမင်းဟာ ကြက်သီးမွေးညင်း ထပြီး စိတ်နှလုံး တုန်လှုပ်ချောက်ချားတယ်လို့ ဆိုပါတယ်။

အဲသည် အခြေအနေတွေကြောင့် အနော်ရထာမင်းဟာ လောကီ အစီအရင်တွေကို နားလည်တဲ့ မင်းဆရာများရဲ့ အစီအမံနဲ့ ရွှေစည်းခုံ ဘုရားမှာ ဆွမ်းတော်တင်ကာ ဆွမ်းတော်ကျကို မနောလင်ပန်းနဲ့ ထည့်ပြီး မနူဟာမင်းကို ပွဲတော်တည်(တယ်) စေပါတယ်။

အဲဒါ စားပြီးချိန်က စပြီး မနူဟာမင်းဟာ ဘုန်းတန်ခိုး ညှိုးဖျင်းသွားရုံမက အာခံတွင်းက ဝင်းဝင်းတောက်တာလည်း မရှိတော့ဘူးလို့ ရာဇဝင်မှာ ဆိုတယ်။

သည်လို ညှိုးဖျင်းရတာဟာ ဆွမ်းတော်ကျကြောင့် မဟုတ်ပါဘူး။ အစားအစာမှာ တစ်စုံတစ်ရာ မသန့်ရှင်းတာကြောင့် ဖြစ်စေ၊ မနောလင်ပန်းကို တစ်စုံတစ်ရာ လောကီ

အစီအရင်နဲ့ မသန့်ရှင်းအောင် လုပ်ထားလို့ ဖြစ်စေ သည်လို ဖြစ်ရတယ်လို့ တွေးခေါ်ယူဆကြပါတယ်။

အလောင်းစည်သူမင်းကြီး တိုင်းခန်းလှည့်လည်အလာ ပန်ထွာပြည်အရောက် ပန်ထွာမင်းသမီးက အကောက်ကြံပြီး ဆက်သတဲ့ မသန့်တဲ့ မျက်နှာသုတ်ပဝါ၊ မျက်နှာသစ်ရေများကို အသုံးပြုမိတဲ့အတွက် အလောင်းစည်သူမင်းကြီးရဲ့ နဖူးမှာရှိတဲ့ ဘုန်းကျက်သရေကိုဆောင်တဲ့ မဲ့ရှင်တော် ကွယ်ပျောက်ပြီး ဘုန်းကျက်သရေ နိမ့်ကျသွားတယ်ဆိုတဲ့ ရာဇဝင်စကားကို ထောက်ထားရင် သည်အတွေးအခေါ်ဟာ ယုတ္တိတန်တယ်လို့ ဆိုရမှာပါ။

နောက်ပြီး ဘုရားတင်တဲ့အခါမှာ ဘာပစ္စည်းမဆို ထူးခြား မွန်မြတ်တဲ့ ပစ္စည်းများကိုသာ တင်လေ့တင်ထ ရှိပါတယ်။ သည်လို အကောင်းအမွန် စားကောင်းသောက်ဖွယ်တွေ၊ ပစ္စည်းတွေကို ဘုရားတင်လှူဒါန်းတဲ့အခါမှာ မသိနားမလည်တဲ့ သားငယ်၊ သမီးငယ်များ၊ ခြေလက်မငြိမ် ဣန္ဒြေစောင့်စည်းမှု မရှိသူများ ယူငင်စားသောက် သုံးစွဲမိမှာ စိုးတဲ့အတွက် မိဘဘိုးဘွားတွေက...

"ဟဲ့... ဘုရား တင်ထားတဲ့ဟာ မစားကောင်းဘူး၊ ဉာဏ်ထိုင်းတတ်တယ်" စသည်ဖြင့် အခြောက်အလှန့် ကလေးနဲ့ တားမြစ်ရာကဖြစ်စေ၊ မနူဟာမင်းရဲ့ ဖြစ်စဉ်ကို ထောင့်စေ့အောင် မသိဘဲ မနူဟာမင်းဟာ ဆွမ်းတော်တင်စားလို့





ဘုန်းနိမ့်သွားရတယ်ဆိုတဲ့ အဖျားဆွတ် စကားလောက်ကိုသာ ကြားသိရတဲ့အတွက် ဖြစ်စေ၊ ဆွမ်းတော်တင်ကို မစားကောင်းဘူး၊ ဉာဏ်ထိုင်းတတ်တယ် စတဲ့ အယူအဆဟာ ဗုဒ္ဓဘာသာဝင် လောကမှာ အတော်ကျယ်ပြန့် နက်ရှိုင်းစွာ ဝင်ရောက်နေရာယူနေတယ်ဆိုရမှာ ဖြစ်ပါတယ်။

ဆွမ်းတော်တင် မစားကောင်းဘူးလို့ ယူဆသူတွေ ထောက်ပြကြတဲ့ အခြား အချက်တစ်ခုက ရှင်တော်ဘုရား ပရိနိဗ္ဗာန်စံဝင်ဖို့ရာ ဝေသာလီပြည်မှ ကုသိနာရုံသို့ အသွားလမ်းခရီးအကြား ပါဝါမြို့မှာ ပါဝါပြည်သား စုန္ဒသူကြွယ်က နောက်တပည့်သား သံဃာတော်များနှင့်တကွ ရှင်တော်ဘုရား ဝက်ပျို့သားဟင်း အပါအဝင် အခြားဆွမ်းဟင်းမျိုးစုံတွေနဲ့ ဆွမ်းဆက်ကပ်ပါတယ်။

သည်အခါ ရှင်တော်ဘုရားက စုန္ဒသူကြွယ်ကို ခေါ်တော်မူပြီး "စုန္ဒ... သံဃာတော်များကို အခြားဆွမ်းဟင်းများနဲ့သာ ကပ်လှူပါ၊ ဝက်ပျို့သားဟင်းကိုတော့ ငါ ဘုရားတစ်ပါးတည်း ကိုသာ ကပ်လှူပါ" လို့ မိန့်ကြားတော်မူတဲ့အတိုင်း ဝက်ပျို့သား ဟင်းကို ရှင်တော်ဘုရား တစ်ပါးတည်းကို ကပ်လှူပါတယ်။ ဆွမ်းဘုဉ်းပေးပြီးတဲ့နောက် ရှင်တော်ဘုရားက...

"ငါဘုရား ဘုဉ်းပေးပြီးလို့ ကျန်နေတဲ့ ဝက်ပျို့သားဟင်းကို ချောက်တစ်ခုထဲမှာ သွားမြှုပ်ပစ်ပါချေ။ သည်ဝက်ပျို့

သားဟင်းဟာ တစ်လောကလုံးမှာ ငါဘုရားမှတစ်ပါး ရှင်ရော လူပါ ဘယ်နတ် ဗြဟ္မာ ရဟန်း သံဃာစားလို့မှ အစာကြေနိုင်မှာ မဟုတ်ဘူး” လို့ မိန့်တော်မူတဲ့အတိုင်း ဘုရားဆွမ်းတော်ကျ ဝက်ပျို့သားဟင်းများကို ချောက်တစ်ခုထဲမှာ သွားတူးမြှုပ်ပစ် လိုက်ပါတယ်။

သည်ဝက်ပျို့သားဟင်းက အခြားသူတွေကို ဘာ ကြောင့် အစာမကြေစေနိုင်တာလဲဆိုတော့ အဲသည် ဝက်ပျို့ သားဟင်းထဲကို ကျွန်းငယ် (၂၀၀၀) အခြံအရံရှိတဲ့ ကျွန်းကြီး လေးကျွန်းမှာ နေကြတဲ့နတ်တွေဟာ နတ်သြဇာတွေကို ထည့် ထားကြတဲ့အတွက် သည်ဝက်ပျို့သားဟင်းဟာ အင်မတန် ကို အဆီသြဇာနဲ့ ပြည့်စုံတဲ့ ဟင်းဖြစ်လို့ပါပဲ။

အစားအစာဆိုတာ အဆီသြဇာနဲ့ ပြည့်စုံလေလေ ကြေခဲလေလေ ဖြစ်တာဟာ သဘာဝပဲ ဖြစ်တာမို့ သည်လောက် အဆီသြဇာနဲ့ ပြည့်စုံတဲ့ ဟင်းကို ရှင်တော်ဘုရားရဲ့ ပါစက တေဇောဆိုတဲ့ ဝမ်းမီးမှတစ်ပါး တခြား ဘယ်သူရဲ့ ဝမ်းမီးမှ ကြေညက်အောင် ချက်နိုင်မှာ မဟုတ်ဘူးလို့ ရှင်တော်ဘုရား မိန့်ကြားတော်မူတာ ဖြစ်ပါတယ်။

သည် ဖြစ်ရပ်မှာ ရှင်တော်ဘုရားက မိမိ ဘုဉ်းပေးပြီးလို့ ကျန်နေတဲ့ ဝက်ပျို့သားဟင်းတွေကို ရဟန်းတော်များကို မဘုဉ်းပေးစေဘဲ ချောက်ထဲမှာ သွားပြီး တူးမြှုပ်စေတယ်ဆိုတာ



လောက်ကိုသာ ကြည့်ပြီး ဆွမ်းတော်တင်ပြီးနောက် စွန့်လိုက်တဲ့ ဆွမ်းတော်ကျကို မစားကောင်းဘူးလို့ ပြောကြတာလည်း ဖြစ်နိုင်ပါတယ်။

သည်နေရာမှာလည်း ဆွမ်းတော်တင် ပစ္စည်းမို့ မစား ကောင်းတာ မဟုတ်ဘူး။ အစာမကြေစေနိုင်မှာမို့လို့သာ မစားကောင်းတာ ဖြစ်တယ်ဆိုတာ သဘောပေါက်ရပါမယ်။

ရှေးက အမြဲတမ်း ဆွမ်းခံပြီး ဘုဉ်းပေးတော်မူလေ့ ရှိကြတဲ့ တချို့ ဆရာတော် ဘုရားကြီးများဟာ ဆွမ်းခံရာက ပြန်လာလျှင် ဘာမှ အပြုအပြင် မရှိဘဲ မသန့်မရှင်းဖြစ်လာတာ လေးလောက်ကိုသာ သန့်ရှင်းအောင် ပြုလုပ်ပြီး သပိတ်အရှိ အတိုင်း ဘုရားရှင်ကို ဆက်လက်ဆွမ်းတော်တင်ပြီးနောက်မှ ဆွမ်းတော်စွန့်ပြီး ဘုဉ်းပေးလေ့ ရှိတယ်လို့ ကြားဖူးပါတယ်။

မိမိ ငယ်ငယ် စာသင်စဉ်က ကိုရင် တစ်ပါးဟာ သဥ္ဇနက်အောင် စာပြန်စာကြည့်ပြီး အတော်ကြီး နောက်ကျမှ အိပ်လေ့ရှိပါတယ်။ သူဟာ ဆွမ်းစားချိန် အိပ်ရာက မနိုးလို့ ဆွမ်းဝေတဲ့ အခါမှာ ဘုရားကျောင်း သွားပြီး ဆွမ်းတော်တင် များကို စွန့်ချပြီး စားလေ့ရှိပါတယ်။ စာမေးပွဲ ဖြေတဲ့အခါ သူဟာ အများအားဖြင့် အဆင့်မြင့်မြင့်နဲ့သာ အောင်တာများ ပါတယ်။

သူဟာ ဆွမ်းတော် ပန်းကန်များကို ဆေးကြော

တံမြက်လှည်း စတဲ့ ဗုဒ္ဓဝေယျာဝစ္စကို ပြုလုပ်သူ ဖြစ်တာကြောင့် ဆွမ်းတော်တင်ကို စားကောင်းတယ်၊ စားနိုင်တယ်လို့ ဆိုရမှာ ဖြစ်ပါတယ်။

သည်အကြောင်းကို ပြောရတာက သည် ကိုရင့်ရဲ့ လုပ်ရပ်ကို ချီးကျူးအားပေးလိုလို့ မဟုတ်ပါဘူး။

"ဆွမ်းတော်တင် စားရင် ဉာဏ်ထိုင်းတတ်တယ်" ဆိုတဲ့ အဆို အယူအဆ မမှန်ကန်ကြောင်း သာဓက ပြလိုလို့သာ ဖြစ်ပါတယ်။

ဒါလောက်ဆိုလျှင် ဆွမ်းတော်တင် စားလျှင် ဉာဏ်ထိုင်းတတ်တယ်ဆိုတာ ဟုတ်ပါသလားဆိုတဲ့ မေးခွန်းကို ဖြေဆိုပြီးသွား ဖြစ်ပြီလို့ ဆိုရမှာပါ။

သည် ဆွမ်းတော်ကျ စားတာနဲ့ ပတ်သက်ပြီး ရှင်းသည်ထက် ရှင်းသွားအောင် မဇ္ဈိမနိကာယ်၊ ဥပရိပဏ္ဏာသ အဋ္ဌကထာ ဒက္ခိဏာဝိဘင်္ဂသုတ် အဖွင့် (၂၂၅ မှာ အဋ္ဌကထာဆရာကြီး ကိုယ်တိုင်) အမေး အဖြေလုပ်ပြီး ရှင်းပြထားတာကို ဖော်ပြလိုက် ပါတယ်။

**မေး**။ ။ သက်တော်ထင်ရှား ရှင်တော်မြတ်ဘုရား မရှိတော့တဲ့ ယခုအချိန်မှာ ရှင်တော်ဘုရား အမှူးရှိတဲ့ (ဘိက္ခု သံဃာ, ဘိက္ခုနီသံဃာ ဆိုတဲ့) ဥဘတောသံဃာကို ဆွမ်း အစရှိတဲ့ ဒါနဝတ္ထုတွေနဲ့ လှူဒါန်း





ပူဇော်ကြတဲ့အခါ သံဃာတော်များက ဘုဉ်းပေးသုံးဆောင်တော် မူကြတဲ့အတွက် ဒါနဝတ္ထု လှူဖွယ်ပစ္စည်းတွေ လျော့ပါး ကုန်ခန်းသွားပါတယ်။

ရှင်တော်ဘုရားက ဘုဉ်းပေး သုံးဆောင်တော်မူတာ မဟုတ်တော့ ဆွမ်း အစရှိတဲ့ ပစ္စည်းဝတ္ထုတွေဟာ ကုန်ခန်း လျော့ပါးမသွားဘဲ နဂိုအတိုင်း တည်ရှိနေမှာ ဖြစ်ပါတယ်။

သည်တော့ အဲသည်ပစ္စည်းတွေကို သူသူငါငါ စားသောက် သုံးစွဲပစ်ရမလား။

မစားကောင်းဘူးဆိုပြီး စွန့်ပစ်ရမလား၊ ဘယ်လို လုပ်ရမလဲ။

**အဖြေ**။ ။ အဲသည်လို မလုပ်ပါနဲ့။

သည်ပစ္စည်းတွေဟာ အတုမရှိ စင်ကြယ်မြင့်မြတ်တော်မူတဲ့ ရှင်တော်ဘုရားရဲ့ ပစ္စည်းတွေ ဖြစ်တာကြောင့် ဂုဏ်အားဖြင့် အင်မတန် စင်ကြယ်မွန်မြတ်တဲ့ ပစ္စည်းတွေ ဖြစ်နေပါတယ်။

သည်လို စင်ကြယ်မွန်မြတ်တဲ့ ပစ္စည်းတွေဟာ သူသူငါငါ သာမန်ပုဂ္ဂိုလ်များနဲ့ မထိုက်တန်တဲ့အတွက် ရှင်တော်ဘုရား သိတင်းသုံးရာ နေရာ, ဘုရားခန်း, ဂန္ဓကုဋိတိုက် စသည်များကို ရှင်းလင်းသုတ်သင် သန့်ရှင်းရေး လုပ်ခြင်း၊ ဆီမီးတော် ရပ်ပွားတော်များကို ရောင်တော်ဖွင့်ခြင်း အစရှိတဲ့ ဗုဒ္ဓဝေယျာဝစ္စကို ပြုလုပ်တဲ့ ကျင့်ဝတ်ပဋိပတ်နဲ့ ပြည့်စုံတဲ့

ရဟန်းကို ပေးလှူပါ။ အဲဒီ ရဟန်း စားသောက်သုံးဆောင်ကောင်းပါတယ်။ အဖရဲ့ ပစ္စည်းကို သား အသုံးပြုကောင်းသလိုပါပဲ။ အခြား သီလစင်ကြယ်တဲ့ ရဟန်း သံဃာကိုလည်း ပေးလှူကောင်းပါတယ်။ ရဟန်းသံဃာများလည်း ဘုဉ်းပေးသုံးဆောင်ကောင်းပါတယ်တဲ့။

ဆိုတို့ ထောပတ်တို့ကို ဘုရားလှူထားရင်တော့ အချိန်တန် စွန့်ပြီး ဆီမီးခွက်လုပ် ဆီမီးညှိထွန်း ပူဇော်လိုက်ပါတဲ့။

အဝတ်အထည်များ လှူဒါန်းထားလျှင်တော့ စွန့်ချပြီး အလံတံခွန် လုပ်လှူပါတဲ့။

အဲသည်လို အဋ္ဌကထာ ဆရာတော်ကြီးက ဝေဖန်ရှင်းပြ ထားပါတယ်။

သည်ဝေဖန် ရှင်းပြချက်ကို ထောက်ထားလျှင် ဘုရားဆွမ်းတော်တင်တဲ့ ပုဂ္ဂိုလ်များဟာ ဆွမ်းတော်တင်စရာ ပစ္စည်းများ၊ သန့်သန့်ရှင်းရှင်း စင်စင်ကြယ်ကြယ် သပ်သပ် ရပ်ရပ် ပြုပြင်ပြီး ဘုရားရှင်ရှေ့တော်မှာချ၊ ဘုရားဂုဏ်တော်များကို အလေးအနက် အာရုံပြု ဆက်ကပ်လှူဒါန်းပြီး ဘုရား ရှင်နှင့်ဆိုင်ရာ ဝေယျာဝစ္စများကို ပြုလုပ်ကာ စွန့်ချိန်ကျလျှင် ဆွမ်းတော်တင် ပစ္စည်းများကို စွန့်ချစားသုံးနိုင်ပါတယ်။ စားကောင်းတယ်လို့ အလေးအနက် မှတ်သားရန် ဖြစ်ပါတယ်။

ယနေ့ တွေ့နေရတာကတော့ ဆွမ်းတော်ကျ ပစ္စည်းတွေဟာ ရွံစရာ စက်ဆုပ်စရာ မသတီစရာ ယုတ်ညံ့တဲ့





အရာတွေပဲလို့ သဘောထားကြီးကြလို့ပဲလား မသိ။ ပစ္စလက်ခတ် စွန့်ပစ်နေကြတာဟာ လူမြင်မကောင်း၊ သူမြင်မကောင်း နှမြောစရာလည်းကောင်း၊ ဖြုန်းတီးပစ်ရာလဲကျ၊ ဗုဒ္ဓအလိုတော်ကျ ဘာသာရေးကို နားမလည်ရာလည်း ရောက်နေတာမို့ သည်လိုလွဲမှားတဲ့ အယူအဆ၊ အသိအမြင်မျိုးနဲ့ ပြုလုပ်နေကြတဲ့ လွဲမှားတဲ့ အပြုအမူမျိုးတွေကို အမြင်မှန်ရ ပြုပြင်ဖို့ အချိန်ကျပြီလို့ ထပ်လောင်း ပြောပါရစေ။

## မေးခွန်း (၁၈)

**အမေး(၁)** ပဏ္ဏတ္တိဒါနနဲ့ ဝိဝဋ္ဋနိဿိတ ဒါန တို့သည် တူကြပါသလား ခင်ဗျား။

**အမေး(၂)** ဒါနနဲ့ သီလ ဘယ်ဟာက မြတ်ပါသလဲ။

**အမေး(၃)** အရူပဘုံမှာ လူတို့ မမြင်ရတဲ့ ရုပ် ရှိတယ်ဆိုတာ ဟုတ်ပါသလား။

ကိုကျော်လှိုင်၊ ဘော်တွင်းသိရီ။





**အဖြေ(၁)** ပဏ္ဏတ္တိဒါနနဲ့ ဝိဝဋ္ဋနိဿိတ ဒါန တို့ဟာ တချို့နေရာမှာ တူပြီး တချို့ နေရာမှာ မတူကြပါဘူး။ အမေးစကားအရ ဒါလောက် ဖြေလိုက်လျှင် ပြီးပါတယ်။ ဒါပေမယ့် သည်အဖြေဟာ မေးခွန်းရှင် အတွက်ရော အခြားသူများအတွက်ပါ ပြည့်စုံလုံ လောက်တဲ့ အဖြေ မဟုတ်သေးဘူးလို့ ယူဆတဲ့အတွက် အနည်းငယ် ခွဲခြမ်းစိတ်ဖြာပြီး ဖြေရလျှင် ...

ဒါနဟာ ဟီနဒါန (အယုတ်အညံ့စားဒါန)၊ မဇ္ဈိမ ဒါန (အလယ်အလတ်စား ဒါန)၊ ပဏ္ဏတ္တိဒါန (အထက် တန်းစား အမြတ်စားဒါန)လို့ သုံးမျိုးရှိပါတယ်။ သည်သုံးမျိုး အနက် ...

(က) လှူဒါန်းတဲ့ ဆန္ဒ၊ လှူဒါန်းလိုစိတ်၊ အလှူနဲ့ ပတ်သက်ပြီး အားထုတ်မှု ဝီရိယ၊ အလှူဒါနနဲ့ ပတ်သက်တဲ့ အသိဉာဏ်တို့ ခပ်နုံ့နုံ့ ခပ်ညံ့ညံ့နဲ့ ပြုတဲ့ ဒါနဟာ ဟီနဒါန။

ဆန္ဒ၊ စိတ်၊ ဝီရိယ၊ ပညာတို့ အလယ်အလတ်စား ဖြင့် ပြုတဲ့ ဒါနဟာ မဇ္ဈိမဒါန။

ဆန္ဒ၊ စိတ်၊ ဝီရိယ၊ ပညာတို့ တက်တက်ကြွကြွ ထက်ထက်သန်သန်နဲ့ ပြုတဲ့ ဒါနဟာ ပဏ္ဏတ္တိဒါန။

**တစ်နည်း (ခ)**။ အခြံအရံ အကျော်အစောကို လိုလားတဲ့အတွက် (ကျောင်းဒကာကြီး၊ ဘုရားဒကာကြီး သည်ဖြင့် နာမည်ကြီးလိုတဲ့ အတွက်ဖြစ်စေ၊ ငါ့အလှူမှာ

လာလိုက်တဲ့ ကားတွေ နည်းရောလား၊ S.E တွေချည်း အစီး သုံးလေးဆယ်၊ တခြားကားတွေဆိုတာ ပြောမနေနဲ့တော့၊ ငါနဲ့ စကားပြောနေတာ ဘယ်ပုဂ္ဂိုလ်ကြီးပေါ့ကွ စသည်ဖြင့် ကြွားလိုတဲ့အတွက် ဖြစ်စေ) ပြုအပ်တဲ့ ဒါနဟာ ဟီနဒါန။

ကောင်းမှုအကျိုးကို ရလိုတဲ့အတွက် ပြုအပ်တဲ့ ဒါနဟာ မဇ္ဈိမဒါန။

တစ်စုံတစ်ရာ အကျိုးကို မမျှော်ကိုးဘဲ "ဒါနဆိုတာ သူတော်ကောင်း မှန်ရင် ကေန်ပြုရမယ့် အလုပ်ပဲ" လို့ သဘောပေါက်ပြီး လုပ်တဲ့ ဒါနဟာ ပဏီတဒါန။

**တစ်နည်း(ဂ)**။ ကိုယ်တတ်နိုင်သလို ကိုယ့်ဟာကိုယ် ရိုးရိုးသားသား မလုပ်ဘဲ ငါတို့က ဝက်သားဆို ဝက်သားချည်း သက်သက်ကွ၊ သူများတွေလို အာလူးတွေ နိုင်းချင်းရောပြီး ကျွေးတာ မဟုတ်ဘူး စသည်ဖြင့် ကိုယ့်ကိုယ်ကို မြှောက်စား၊ တစ်ပါးသူကို နှိမ်ချပြီး ပြုလုပ်တဲ့ ဒါနဟာ ဟီနဒါန။

သည်လို သဘောမျိုးမရှိဘဲ လောကီချမ်းသာကို တောင့်တပြီး ပြုလုပ်တဲ့ ဒါနဟာ မဇ္ဈိမဒါန။

မဂ်ချမ်းသာ ဖိုလ်ချမ်းသာကို တောင့်တပြီး ပြုလုပ်တဲ့ ဒါနဟာ ပဏီတဒါန။

**တစ်နည်း(ဃ)**။ လူ့ချမ်းသာ နတ်ချမ်းသာကို တောင့်တပြီး ပြုလုပ်တဲ့ဒါနဟာ ဟီနဒါန၊ မိမိတစ်ကိုယ်တည်း သံသရာမှ လွတ်မြောက်ရေးအတွက် ပြုလုပ်တဲ့ ဒါနဟာ မဇ္ဈိမ ဒါန၊ အများသတ္တဝါ သံသရာမှ လွတ်မြောက်ရေးအတွက် ပြုလုပ်တဲ့ ဒါနဟာ ပဏီတဒါန၊ ဒီနောက်ဆုံး ပဏီတဒါနဟာ အလောင်းတော်ကြီးများရဲ့ ပါရမီဒါန ဖြစ်တဲ့အတွက် အမြတ်ဆုံး ပဏီတ ဒါနပါပဲ။

ဝိဝဋ္ဋသိတ ဒါနဆိုတာ မဂ်ဖိုနိဗ္ဗာန်ကို ရည်သန် တောင့်တပြီး ပြုတဲ့ဒါနကို ခေါ်တာပါ။

သည်တော့ အထက်ဖော်ပြပါ ပဏီတဒါန အမျိုးမျိုးတွေနဲ့ ဝိဝဋ္ဋနိဿိတဒါန ယှဉ်ဟပ်တွဲစပ်ကြည့်လိုက်လျှင် (က) (ခ) တို့မှာပါတဲ့ ပဏီတဒါနနဲ့ ဝိဝဋ္ဋနိဿိတဒါန တို့ဟာ သဘောမတူတာကို တွေ့ရပါ့မယ်။

(ဂ) (ဃ) တို့မှာပါတဲ့ ပဏီတဒါနနဲ့ ဝိဝဋ္ဋနိဿိတ ဒါနတို့ဟာ သဘောတူတာကို တွေ့ရပါ့မယ်၊ ယှဉ်ဟပ် တွဲစပ်ကြည့်ပါ။

ဒါကြောင့် ပဏီတဒါနနဲ့ ဝိဝဋ္ဋနိဿိတဒါနတို့ဟာ တချို့နေရာမှာ သဘောတူပြီး တချို့နေရာမှာ သဘောမတူဘူးလို့ ဖြေခဲ့တာကို ဘဝင်ကျ သဘောပေါက်လိမ့်မယ်လို့ ယုံကြည်ပါတယ်။

**အဖြေ(၂)** ဘယ်ဟာက မြတ်ပါသလဲဆိုတဲ့ မေးခွန်းရှင်ရဲ့ စကားအဋ္ဌိုင်း ဖြေ

  

ရလျှင် နှစ်မျိုးစလုံး မြတ်တာချည်းပါပဲလို့ ဖြေဆိုလိုက်ရုံ ဖြစ်ပါတယ်။ ဒါပေမယ့် အမေးမှာ (ပို) ဆိုတာ ကျနေတာ ဖြစ်တယ်။ ပိုမြတ်ပါသလဲလို့ မေးလိုတာ ဖြစ်တယ်လို့ ယူဆပြီး အဲသည် အယူအဆအတိုင်းပဲ ဖြေလိုက်ပါတယ်။

ဒါနဟာ စေတနာ ဒါန၊ ဝတ္ထုဒါနလို့ နှစ်မျိုးရှိပါတယ်။ အလှူဒါကာ လှူဖြစ်အောင် နှိုးဆော်တိုက်တွန်းပေးတဲ့ သဘော (စေတနာ စေတသိက်) ကို စေတနာ ဒါနလို့ ခေါ်ပါတယ်။

ဆွမ်း၊ သင်္ကန်း၊ ကျောင်း၊ ဆေး စတဲ့ လှူဖွယ် ဝတ္ထုအမျိုးမျိုးတွေကို ဝတ္ထုဒါနလို့ ခေါ်ပါတယ်။

စေတနာ ဒါနက နာမ်တရား၊ ဝတ္ထုဒါနက ရုပ်တရား ဖြစ်ပါတယ်။

နှိုင်းယှဉ်တယ်ဆိုတာ ရုပ်–ရုပ်ချင်း၊ နာမ်–နာမ်ချင်း နှိုင်းယှဉ်မှသာ သဘာဝ ကျပါမယ်။ သင်္ကန်းဆိုတဲ့ ဝတ္ထုဒါနနဲ့ သီလနဲ့ ဘယ်ဟာက ပိုမြတ်ပါသလဲလို့ နှိုင်းယှဉ်ပြီး မေးခွန်းထုတ်လျှင်တော့ ဆင်တစ်ဘက် မြင်းတစ်ဘက် ဆိုတာလိုဖြစ်ပြီး ဘယ်လိုမှ ဖြေဆိုလို့မရ ချောင်ထိုးထားရမယ့် မေးခွန်း (ဌာနိယပဉှာ) မျိုး ဖြစ်မှာမို့ စေတနာ ဒါနကိုသာ ဒါအဖြစ် ယူပြီး ဖြေဆိုရလျှင် ...

ဒါနထက် သီလက ပိုမြတ်ပါတယ်။

အကြောင်းက ဒါနဟာ အမှတ်(၁) အဖြေမှာ ပါတဲ့ အတိုင်း ဟီနဒါန၊ မဇ္ဈိမဒါနတို့ဆိုလျှင် လောဘ၊ မာန အစရှိတဲ့ အညစ်အကြေးတွေနဲ့ ရောထွေးယှက်စပ်နေတဲ့ အတွက် မစင်မကြယ် မနှစ်သက်ဖွယ်သဘော ရှိပါတယ်။

သီလက လောဘ၊ ဒေါသ၊ မောဟ အစရှိတဲ့ အညစ်အကြေး စင်ကြယ်သန့်ရှင်း အပြစ်ကင်းပြီး အေးမြ ကြည်လင် စိတ်ရွှင်ချမ်းမြေ့တဲ့ သဘော ရှိပါတယ်။

သည်လို နှိုင်းယှဉ်ချက်တွေ ထုတ်ပြရလျှင်တော့ (ဝါ) သီလရဲ့ ထူးခြားချက်တွေ ပြောရလျှင်တော့ ကုန်နိုင်မယ် မဟုတ်ပါဘူး။

အထူးခြား အထင်ရှားဆုံး အမွန်မြတ်ဆုံး အချက်ကတော့ မဂ်ဖိုလ်နိဗ္ဗာန်ရဖို့ အရေးမှာ သီလဟာ အခြေခံအရင်း မူလပဓာနဖြစ်တဲ့အပြင် လောကမှာ ဘယ်လောက် အစွမ်းသတ္တိ ထက်မြက်ကြီးမား ဖျက်အားကောင်းတဲ့ ဒုံးပျံ အမြောက်ဗုံး လက်နက်ကြီးများနဲ့မှ ထွင်းဖောက် ဖြိုခွဲဖျက်ဆီးလို့ မရနိုင်တဲ့ အနုသယ ကိလေသာ အထုအထည်ကြီးကို မိုးကြိုးလောင်မီး ဟာ တစ်ချက်တည်းဖြင့် သုထိမှန်တဲ့အရာမှန်သမျှကို ကြေမွ ပျက်စီးစေသလို အရဟတ္တမဂ် ဉာဏ်လက်နက်ဟာ တစ်ချက်တည်း တစ်ကြိမ်တည်းဖြင့် အမြစ်ပြတ် ရှင်းလင်းအောက်ခွဲ ဖျက်ဆီးပစ်တဲ့အခါ သီလဟာ အဖော်သဟဲ အဖြစ် [illegible]သာတာကို တွေ့ရပါတယ်။ မဂ္ဂင်ရှစ်ပါးထဲမှာ သီလ

ပါလာတာကို တွေ့ရပါတယ်။ ဒါနကတော့ ပါမလာနိုင်ပါဘူး။

ဒါကြောင့် ဘယ်ရှုထောင့်ကနေ ကြည့်ကြည့် သီလဟာ ဒါနထက် မြတ်တယ်လို့ မှတ်ယူရမယ်ဆိုတဲ့ အဖြေပေးလိုက်ပါတယ်။

နည်းနည်း ဆက်ပြောရလျှင် "သီလေ ပတိဋ္ဌိတဿ ဒါနံ မဟပ္ဖလတရံ" သီလနဲ့ပြည့်စုံသူရဲ့ ဒါနဟာ လွန်လွန်ကျူးကျူး ထူးထူးကဲကဲ အကျိုးပေးတယ်လို့ ဆိုပါတယ်။

ဒါနဟာ သီလနဲ့ တွဲဖက်လိုက်လို့ရှိလျှင် သီလရဲ့ အရှိန်အဝါကြောင့် အများကြီးခရီးရောက် နိဗ္ဗာန်ပေါက် အဆင့်အထိ ရောက်သွားနိုင်တယ်လို့ ဆိုလိုပါတယ်။

ဒါကြောင့် ယခုအခါ အကြီးအကျယ် အသေးအငယ် မရွေး အလှူဒါန ပြုကြတဲ့အခါ ဒါနအကျိုးပေး သန့်အောင် အလှူရှင်များကို အနည်းဆုံး ငါးပါးသီလ ခံယူစေကြတာကို တွေ့ရပါမယ်။ ဒါဟာ အလွန်ကောင်းတဲ့ အလေ့အလာ ဖြစ်တာမို့ မပျက်မကွက် ဆက်လက်ထိန်းသိမ်းထားဖို့ သင့်ကြောင်း ပြောလိုပါတယ်။

သည်အဖြေမှာ ဒါနထက် သီလက ပိုမြတ်ကြောင်း နေမိဇာတ်တော်မှာ လာတဲ့အတိုင်း ထပ်လောင်းဖော်ပြရလျှင်

အလောင်းတော် နေမိမင်းကြီးဟာ အလှူဒါနပြုရာမှာ လွန်စွာ အားသန်တော်မူတဲ့အတွက် မြို့တော် အရပ်လေးမျက်နှာ





တံခါးကြီး လေးခုမှာ အလှူမဏ္ဍပ်ကြီး လေးခု၊ မြို့တော်အလယ်ဗဟိုမှာ အလှူမဏ္ဍပ်ကြီးတစ်ခု၊ ပေါင်းငါးခု ဆောက်လုပ်စေပြီး အလှူမဏ္ဍပ်ကြီးတစ်ခုမှာ တစ်နေ့ ငွေတစ်သိန်းကုန်၊ ပေါင်း တစ်နေ့ ငွေငါးသိန်းကုန် အလှူကြီး ကို အမြဲပေးလှူပါတယ်။

ငါးပါးသီလကို အမြဲစောင့်ထိန်းပြီး ဥပုသ်နေ့တွေမှာ ဥပုသ်သီလလည်း ဆောက်တည်ပါတယ်။

မင်းကြီးဟာ တစ်ခုသောလပြည့် နေ့ည အိပ်စက်ရာမှာ မရှိမယာမ်လို့ ခေါ်တဲ့ ညဉ့် နှစ်ချက်တီး အချိန်လောက် အိပ်ရာမှ နိုးလာပြီး တင်ပျဉ်ခွေထိုင်ကာ...

ငါဟာ ရေတွက်လို့ မရနိုင်လောက်အောင် များမြောင်လှတဲ့ အလှူဒါနတွေ ပြုလုပ်တယ်၊ သီလလည်း ဆောက်တည်သည်ဒါနနဲ့ သီလနှစ်မျိုးမှာ ဘယ်ဟာက ပိုမြတ်သလဲလို့ စဉ်းစားနိုင်းယှဉ်ကြည့်တဲ့အခါ ဆုံးဖြတ်လို့မရဘဲ ဖြစ်နေပါသတဲ့။

ဒါကို သိကြားမင်းက သိတာနှင့် လူ့ပြည်ဆင်းလာ၊ နေမိမင်းကြီး အိပ်စက်ရာ ကျက်သရေတိုက်ခန်းထဲက ကောင်းကင်ယံမှာ ရပ်ပြီး ...

သင်မင်းကြီး မေးလိုတဲ့ မေးခွန်းကို ဖြေဆိုဖို့ လာတဲ့ သိကြားမင်း ဖြစ်ပါတယ်။ မေးလိုရာ မေးပါဆိုတာနဲ့ နေမိမင်းကြီးက ဒါနနဲ့ သီလ သည်နှစ်မျိုးမှာ ဘယ်ဟာက ပိုမြတ်ပါသလဲလို့ မေးတဲ့အခါ...

သိကြားမင်းက၊ သီလနဲ့ ပြည့်စုံသူဟာ မင်းမျိုးမှာ ဖြစ်ရတတ်တယ်။

သီလနဲ့ ပြည့်စုံပြီး ဈာန်ရလောက်အောင် နီးနီး စိတ်တည်ငြိမ်အောင် (ဥပစာရသမာဓိ ရအောင်) ဘာဝနာ ပွားလျှင် နတ်ပြည်ရောက်နိုင်တယ်။

သီလနဲ့ ပြည့်စုံပြီး ဈာန်ရအောင် ဘာဝနာ ပွားလျှင် ဗြဟ္မပြည် ရောက်နိုင်တယ်လို့ ဖြေပါတယ်။

ဒါကတော့ သိကြားမင်းက ဟိန္ဒူဗြာဟ္မဏဝါဒအလို အရ ဖြေဆိုတာ ဖြစ်ပါတယ်။

ဗုဒ္ဓသာသနာတော် အလိုအရကတော့ သီလစင်ကြယ် ရုံမျှ ဖြစ်ပြီး ဘာဝနာမပွားတဲ့ ရဟန်းဟာ လိုချင်တဲ့ နတ်ပြည်ရောက်နိုင်တယ်။ (အညံ့စားသီလ)

သီလစင်ကြယ်ပြီး သမာပတ် ရှစ်ပါးကို ဖြစ်စေတဲ့ ရဟန်းဟာ ဗြဟ္မာ့ဘုံ ရောက်နိုင်တယ်။ (အလယ်အလတ် တန်းစား သီလ)

သီလစင်ကြယ်ပြီး ဝိပဿနာ ပွားစေတဲ့ ရဟန်းဟာ အရဟတ္တဖိုလ်ကို ရနိုင်တယ်။ (အထက်တန်းစား သီလ)

ဒါနကတော့ ဘယ်လောက်ကြီးကျယ် များပြားတဲ့ ဒါနဖြစ်ဖြစ် ကာမာဝစရ နတ်ပြည်လောက်ပဲ ရောက်စေနိုင်ပါ တယ်။

သည်နည်းအားဖြင့် သီလဟာ ဒါနထက် အဆရာ





ထောင် သောင်း သိန်းမက ကြီးကျယ် မြင့်မြတ်ပါတယ်။ အကျိုးပေး ကြီးမားပါပေတယ်လို့ မှတ်သားရန် ဖြစ်ပါတယ်။

သည်နေရာမှာ ဒါနဟာ နတ်ပြည်လောက်ပဲ ရောက် စေနိုင်တယ်ဆိုတာ ဒါနက မဂ်ဖိုလ်နိဗ္ဗာန်ကို မရောက်စေ နိုင်ဘူးလို့ ဆိုလိုတာ မဟုတ်ဘူးဆိုတာကိုလည်း မှတ်သားရ ပါမယ်။

ဒါနဟာ ဘာဝနာလို နိဗ္ဗာန်ကို တိုက်ရိုက်မရောက် စေနိုင်တာသာ ဖြစ်တယ်။ သွယ်ဝိုက်တဲ့နည်း (ပကတူပ နိဿယသတ္တိနဲ့ ကျေးဇူးပြုတဲ့နည်း) အားဖြင့်တော့ နိဗ္ဗာန်မဂ် ဖိုလ်ကို ရောက်စေနိုင်ပါတယ်လို့ နားလည်ရမှာ ဖြစ်ပါတယ်။

သည်လိုပြောရတာက အထက်ဖော်ပြပါ အဖြေဟာ အချို့ အချို့သော သဒ္ဓါမွဲသူ လူ့ကပ်စေးနှဲများက ဒါနဟာ နိဗ္ဗာန်မရောက်စေနိုင်ဘူး၊ သံသရာ ရှည်စေတယ်။ ဘာဝနာ ကသာ နိဗ္ဗာန်ကို ရောက်စေနိုင်တယ်လို့ "တစ်နည်းတွေနဲ့ လှေ့ လှေ့ လျှမ်းလျှမ်း လျှာသရမ်းကြ" တဲ့ သူများရဲ့ စကား ကို ထောက်ခံအားပေးသလို ဖြစ်သွားမှာစိုးလို့ ပြောရတာ ဖြစ်ပါတယ်။

**အဖြေ(၃)**

အရူပဘုံမှာ လူတို့မြင်ရတဲ့ ရုပ်ရော မမြင်ရတဲ့ ရုပ်ရော ဘာရုပ်မှ မရှိပါ ဘူး။



www.burmeseclassic.com

အဲသည် အရူပဘုံက ဗြဟ္မာကြီးတွေဟာ ဆိုင်ရာ ဆိုင်ရာ ဘုံအလိုက် အာကာသနဉ္စာယတန ဝိပါက်၊ စိတ်၊ စေတသိက်၊ အာကိဉ္စနညာယတနဝိပါက်၊ စိတ်၊ စေတသိက်၊ နေဝသညာ နာသညာယတနဝိပါက်၊ စိတ် စေတသိက်တွေနဲ့ အသီးသီး ပဋိသန္ဓေ စတင်တည်နေကြပြီးတဲ့နောက် အဆက် ဆက်ဖြစ်ပွားတဲ့ နာမ်ခန္ဓာဖြင့် အကနိဋ္ဌခေါ်တဲ့ အထက်ဆုံး သုဒ္ဓါဝါသဘုံအပေါ် အာကာသ ပြင်ကျယ်ကြီးထဲမှာ ဘုံအလိုက် ကမ္ဘာပေါင်း (နှစ်သောင်း၊ လေးသောင်း၊ ခြောက်သောင်း၊ ရှစ်သောင်း လေးထောင်) ကာလပတ်လုံး နေကြပါတယ်။ လောကကြီးဟာ ဆန်းကျယ်လှပါပေစွ။

အဲသည် အရူပဘုံက ဗြဟ္မာကြီးတွေမှာသာ ရုပ်မရှိတာ မဟုတ်ပါဘူး။ အဲဒီ ဗြဟ္မာကြီးတွေ နေစရာ ထိုင်စရာ ဘုံဗိမာန်တွေလည်း မရှိပါဘူး။ တကယ့်ကို ဟင်းလင်းဟာလာ အာကာသပြင်ကျယ်ကြီးမှာသာ ဖြစ်ပါတယ်။

အဲသည် အရူပဘုံမှာ ဗြဟ္မာရော ဘုံဗိမာန်ပါ ဘာ ရုပ်မှ မရှိကြောင်းကို သင်္ဂြိုဟ်ဋီကာဟောင်း ဆရာတော်ကြီးက "အရူပေနတ္ထိ ကိဉ္စိပိတိ–အပိဂ္ဂဟဏေန နိဿယ ဝိမာနာဒိ ဗာဟိယရူပါနိပိ အလဗ္ဘာဘာဝံ သမုစ္စေတိ" လို့ အဓိပ္ပာယ် ဖွင့်ဆိုရှင်းပြတော် မူပါတယ်။



## မေးခွန်း(၁၉)

**အမေး** အိမ်ထောင်မပြုဘဲ လူဝတ်ကြောင် ဘဝနှင့်နေ၍ မိဘများကို လုပ်ကျွေးနေသည်နှင့် သာသနာ့ဘောင်သို့ ဝင်ရောက်ကာ ရဟန်းဝတ်၍ တရားအားထုတ်နေသည်မှာ မည်သည်က ပို၍ မြတ်သနည်း။

မောင်တင်ဝင်း
ဖွင့်လျက်ရွာ၊ မင်းကင်းမြို့၊ စစ်ကိုင်းတိုင်း။

**အဖြေ** အိမ်ထောင်မပြုဘဲ လူဝတ်ကြောင်နဲ့ နေပြီး မိဘများကို လုပ်ကျွေးတာ ထက် သာသနာ့ဘောင်ဝင်ကာ ရဟန်းဝတ်နဲ့ တရားအားထုတ် နေတာက ပိုမြတ်ပါတယ်။

ရှင်တော်ဘုရားက အသက်တစ်ရာတမ်းမှာ နှစ်တစ်ရာ အသက်ရှည်တဲ့ ပုဂ္ဂိုလ်တစ်ဦးဟာ အမိကို လက်ယာဘက် ပခုံးပေါ်တင်၊ ဖခင်ကို လက်ဝဲဘက် ပခုံးပေါ် ထားပြီး စင်ကြယ်သန့်ရှင်း ကိုယ်နံ့ကင်းအောင် အမွှေးနံ့သာ လိမ်းကျံပေး၊ လက်ခြေများ ညောင်းညာ ပင်ပန်းခြင်း မရှိရလေအောင် ဆုပ်နယ်ပေး၊ အကြောအခြင် လျှော့ပေး၊ ဥတုအလိုက် ရေအေးရေနွေးတို့ဖြင့် ရေချိုးပေး၊ ပခုံးပေါ်မှာပဲ ကျင်ကြီး ကျင်ငယ်တို့ကို စွန့်စေပြီး ပြုစုလုပ်ကျွေးစေကာမူ ...

ကုန်ကုန်ပြောရလျှင် မိဘများကို စကြာမင်းကြီး၊ စကြာမင်း မိဖုရားကြီးများ ဖြစ်အောင် လုပ်ပေးစေကာမူ မိဘကျေးဇူးကို ကျေအောင်ဆပ်ရာ ပြုစုလုပ်ကျွေးရာ မရောက်သေးဘူးတဲ့။ ဘယ်လိုမှ ရောက်မလဲဆိုတော့ ...

သဒ္ဓါ၊ သီလ၊ ပညာ မရှိသေးတဲ့ မိဘများ သဒ္ဓါတရားရှိအောင်၊ သီလရှိအောင်၊ ပညာရှိလာအောင် ပြုလုပ်ပေးခြင်းသာ တကယ် မိဘလုပ်ကျွေးရာ၊ မိဘကျေးဇူးဆပ်ရာ ရောက်တယ်လို့ ဟောတော်မူပါတယ်။

(အင်္ဂုတ္တိုရ်သမစိတ္တဝဂ်၊ ပ-၆၂)

အသုတဝါ ပုထုဇ္ဇနော–ရှင်တော် ဗုဒ္ဓရဲ့ အဆုံးအမ သြဝါဒ တရားစကားကို မကြားနာရဖူးတဲ့အတွက် သဒ္ဓါ၊ သီလ၊ ပညာ ကုသိုလ်တရားတို့ရဲ့ တန်ဖိုး တန်ခိုးဂုဏ်သတ္တိကို မသိကြတဲ့ အန္ဓပုထုဇဉ်တွေ အနေနဲ့ လက်ကွေ့ခံစားလို့ ရတဲ့





လူ့လောကမှာ အတုမဲ့ ကြီးကျယ်ခမ်းနားလှတဲ့ စကြာမင်းစည်းစိမ်ထက် လက်တွေ့မျက်မြင် အကောင်အထည် မပေါ်လွင်တဲ့ သဒ္ဓါ၊ သီလ၊ ပညာတို့ကို ရှေ့တန်းတင် တန်ဖိုးထားဟောကြားတော်မူတာကို ကျေနပ်အားရ ရှိချင်မှ ရှိမှာဖြစ်ပါတယ်။

သုတဝါအရိယသာဝကော–ရှင်တော်ဗုဒ္ဓရဲ့ အဆုံးအမ သြဝါဒ တရားစကားကိုကြားနာရဖူးတဲ့ အရိယာ ဖြစ်တဲ့ ရှင်တော် ဗုဒ္ဓရဲ့ တပည့်သား ပုဂ္ဂိုလ်များ အနေနဲ့ကတော့–

စကြာမင်း စည်းစိမ်ဆိုတာ သည်ဘဝ တစ်သက်တာ တစ်ခဏတာမျှသာ ခံစားခွင့်ရှိတဲ့ မခိုင်မြဲတဲ့ စည်းစိမ်၊ ဘကယ်မချမ်းသာတဲ့ ချမ်းသာမျိုးပါ။ စကြာမင်းကြီး ကိုယ်တိုင်ပဲ အခန့်မသင့်ရင် "ဗြဟ္မာဖြစ်လို့ ပြောင်ပြောင်ဝင်း ဝက်စားကျင်းမှာ တရှုပ်ရှုပ်" ဆိုတာလို တစ်နေ့ အပါယ်ဘုံသားဖြစ်ချင် ဖြစ်သွားနိုင်ပါသေးတယ်။

သဒ္ဓါ၊ သီလ၊ ပညာ၊ ကုသိုလ်တရားတွေ ဆိုတာက သည်လို စကြာမင်း မိဖုရားဘဝ စကြာမင်း စည်းစိမ်တွေ အထောင်မက ဖြစ်အောင် ဖန်တီးပေးနိုင်ရုံသာမက အတုမဲ့ချမ်းသာဖြစ်တဲ့ နိဗ္ဗာန်ချမ်းသာကြီးကိုတောင်မှ ရစေနိုင်ပါသေးတယ်လို့ သဘောပေါက်တဲ့ အတွက် ရှင်တော်ဗုဒ္ဓ ဟောကြားတော်မူချက်ကို ကျေနပ်အားရ လက်ခံကြမှာ ဖြစ်ပါတယ်။

ဆိုကြပါစို့....မိမိတို့ သားဟာ သာသနာ့ဝန်ထမ်း ရှင်ရဟန်းအဖြစ်နဲ့ တရားအားထုတ်နေလျှင် မိဘများဟာ သာသနာတော်နဲ့ ပိုမိုနီးစပ်၊ သာသနာတော်ကို ပိုမိုကြည်ညို တတ်လာမှာပါ။ သဒ္ဓါတရားတွေ ပိုမို ထက်သန်တက်ကြွ လာမှာပါ။ တစ်နေ့ ဆွမ်းတစ်ဇွန်း ဟင်းတစ်ခွက်တော့ လောင်းလှူတော့မှာပါ။ တတ်နိုင်လျှင် တတ်နိုင်သလို သင်္ကန်း၊ ကျောင်း၊ ဆေး၊ ပစ္စည်းလေးပါးတို့ဖြင့် ထောက်ပံ့လှူဒါန်းတော့ မှာပါ။

တရားပေစာ နာကြား သမထ ဝိပဿနာ ဘာဝနာ တရားများလည်း ပွားများကြတော့မှာပါ။ ငါတို့ဟာ ရှင် ရဟန်း မယ်တော် ခမည်းတော်တွေပါလား၊ အနေအထိုင် အပြောအဆို ဆင်ခြင်မှ တော်မယ်ဆိုတဲ့ အသိနဲ့ အစစ အရာရာ အကုသိုလ် နည်းအောင် ဆင်ခြင်နေထိုင်တော့မှာပါ။ သည်လိုဆို မိဘတို့မှာ မဖြစ်ဖူးသေးတဲ့ သဒ္ဓါ၊ သီလ၊ ပညာ ကုသိုလ်တရားတွေ ဖြစ်လာပြီ မဟုတ်ပါလား။

သည်သဒ္ဓါ၊ သီလစတဲ့ ကုသိုလ်တရားတွေဟာ သား ရဟန်းကို အမှီပြုပြီး ရတဲ့ ကုသိုလ်တွေဖြစ်ပြီး သည်ကုသိုလ်တွေ က ခုနပြောခဲ့တဲ့ စကြာမင်း စည်းစိမ်လို ကြီးကျယ်ခမ်းနားလှတဲ့ စည်းစိမ်သာမက နိဗ္ဗာန်တိုင်အောင် ပို့ဆောင်ပေးမှာ ဖြစ်တော့ သားရဟန်းက မိဘတို့ကို လုပ်ကျွေးကျေးဇူးဆပ်ရာ ရောက်ပြီ မဟုတ်ပါလား။ ဒါကြောင့် ရှင်တော်ဘုရားက ရဟန်းဘဝနဲ့





တရားအားထုတ် ကျွေးမွေးပြုစုပြီး မိဘများကို လုပ်ကျွေးတာက ပိုမြတ်တယ်လို့ ဟောတော်မူတာ ဖြစ်တယ်ဆိုတာ သဘော ပေါက်လောက်ပြီ ဖြစ်ပါတယ်။

သည်မေးခွန်းနဲ့ ပတ်သက်လို့ ရှင်တော်ဘုရား ကိုယ် တော်တိုင် ပေးထားတဲ့ အဖြေကို ဖော်ပြရလျှင် ပိုရှင်းမှာမို့ သည်နေရာမှာ ဆက်လက် ဖော်ပြလိုက်ပါတယ်။

ရှင်တော်မြတ်ဘုရား သာဝတ္ထိပြည်မွန် ဇေတဝန် ရွှေကျောင်းတော်မှာ သီတင်းသုံးနေတော်မူစဉ် သူကြွယ်သား တစ်ဦးဟာ ရှင်တော်ဘုရားရဲ့ တရားကို နာကြားရတဲ့အတွက် ကာမဂုဏ်တို့မှာ အပြစ်, ရဟန်းအဖြစ်မှာ အကျိုးကို မြင် တာကြောင့် တရားပြီးဆုံးလို့ ပရိသတ်တွေ ပြန်သွားတဲ့အခါ ရှင်တော်ဘုရားထံ ချဉ်းကပ်ပြီး ရဟန်းပြုပေးတော်မူပါရန် တောင်းပန်လျှောက်ထားရာ ရှင်တော်ဘုရားက မိဘများထံ ခွင့်ပန်ချေဦးလို့ မိန့်တော်မူလိုက်တာနဲ့ မိဘများထံ ပြန်ပြီး ရဟန်းပြုခွင့်ပေးဖို့ တောင်းပန်ပါတယ်။

မိဘများက ခွင့်မပြုဘဲနဲ့ ခုနစ်ရက် အစာငတ်ခံ ဆန္ဒပြ တောင်းဆိုတော့မှ ရဟန်းပြုခွင့် ရသွားပါတယ်။

ရဟန်းပြုပြီးနောက် ဇေတဝန် ကျောင်းတော်မှာ [illegible]ဝါတိုင်တိုင် စာပေသင်ကြားပြီးတဲ့ အခါ လာဘ်[illegible] [illegible] မှား ဒကာ ဒကာမတွေ အဝင်အထွက် များလွန်း[illegible]ကြောင့်

တရားအားထုတ်ရာမှာ အနှောင့်အယှက် ဖြစ်တဲ့အတွက် မနေလိုတော့ဘဲ ဆရာ ဥပဇ္ဈာယ်ထံ ခွင့်ပန်လျှောက်ထား အားထုတ်ဖို့ရာ ကမ္မဋ္ဌာန်းတရား တောင်းကာ မြို့စွန်မြို့ဖျားရှိ ရွာကလေးတစ်ရွာမှာ ဆွမ်းခံစားပြီး တောကျောင်းမှာနေ တရားအားထုတ်ကာ (၁၂) နှစ် ကြာသွားပါတယ်။ တရား မရရှာပါဘူးတဲ့။

သည်အချိန် အတွင်းမှာ ရဟန်းတော်ရဲ့ သက်ကြီး ရွယ်အို မယ်တော် ခမည်းတော်ကြီးများဟာ မားမားရပ်ပြီး စီမံခန့်ခွဲသူ သားတွေ မရှိတဲ့အတွက် လယ်ယာ လုပ်သားတွေက လုပ်လို့ ရသမျှ သူတို့ဟာသူတို့ ယူထွက်ပြေးကြ၊ အတွင်း လူ အိမ်ဖော် ယောကျ်ား မိန်းမတွေကလည်း ရွှေငွေ အစရှိ သမျှ အတွင်း ပစ္စည်းတွေကို ယူထွက်ပြေးကြနဲ့ မိအို ဖအို သူဌေးကြီးတွေမှာ ဘာပစ္စည်းမှ မကျန်တော့ဘဲ နောက်ဆုံး အိမ်ကိုပါ ရောင်းလိုက် ရပြီး အိုးခြမ်းပဲ့ကလေးတွေကိုင်၊ အဝတ်နွမ်းကလေးတွေ ဝတ်၊ အိမ်တကာလည် တောင်းစားပြီး သူတစ်ပါး အိမ်နံရံမှာ ခိုကပ်နေရတဲ့အထိ ဆင်းရဲဒုက္ခ ရောက်ကုန်ကြပါသတဲ့။

တစ်နေ့မှာ ဇေတဝန် ကျောင်းတော်က ရဟန်းတော် တစ်ပါးဟာ အဲသည် ရဟန်းတော်ဆီ ရောက်လာတာနဲ့ နေရာထိုင်ခင်းပေးပြီး စကားစမြည် ပြောကြတဲ့အခါ ရဟန်းတော် က သာဝတ္ထိမြို့က သည်လိုနာမည်ခေါ်တဲ့ သူဌေးကြီး





ဓနီးမောင်နှံ တို့ဟာ ဘယ်လို အခြေအနေရှိတာကို အရှင်ဘုရား သိခဲ့ရပါသလဲလို့ မေးတဲ့အခါ ...

အာဂန္တု ရဟန်းတော်က သည်သူဌေးကြီး ဇနီးမောင်နှံ ဘို့ အကြောင်းတော့ မမေးပါနဲ့လို့ ပြောပါသတဲ့။

ဘာဖြစ်လို့ပါသလဲလို့ မေးတော့ ...

သည်လိုပါ။ သူတို့ရဲ့ တစ်ဦးတည်းသော သားဟာ ဗုဒ္ဓ သာသနာတော်မှာ ရဟန်းပြုသွားပါတယ်၊ သူ ရဟန်းပြု သွားတဲ့ အချိန်ကစပြီး သူဌေးကြီးတို့ရဲ့ စည်းစိမ်ဥစ္စာတွေ တစ်စတစ်စ ကုန်ခန်းသွားလိုက်တာ အခုဆို စားစရာ ဝတ် စရာသာမက နေစရာ ထိုင်စရာ အိမ်တောင် မရှိတော့တာ ကြောင့် အိမ်တကာ့အိမ် လှည့်လည် တောင်းရမ်းစားသောက်ရ ပြီး သူများအိမ် နံဘေးမှာ ခိုကပ်နေကြရရှာတယ်။ တကယ့် ကို သနားစရာတွေပါပဲ ငါ့ရှင်လို့ ပြောပါတယ်။

သည်စကားကို ကြားလိုက်တဲ့ သူဌေးသား ရဟန်း တော်ဟာ စိတ်ထိခိုက်လွန်းတာကြောင့် မေ့မြောမတတ် ဖြစ်သွား ပြီး မျက်ရည်လည်ရွဲနဲ့ ရင်တလှိုက်လှိုက် အတွင်းကြိတ် ရှိုက်ငိုမိပါသတဲ့။

အာဂန္တု ရဟန်းတော်က ဘာဖြစ်လို့ ငိုရတာလဲ မေးတဲ့အခါ အဒါ တပည့်တော်ရဲ့ မယ်တော် ခမည်းတော်ကြီး တွေပါပဲ အရှင်ဘုရားလို့ ပြန်ပြောတာနဲ့ အာဂန္တု ရဟန်းတော်

က ဖြစ်ရလေ ငါ့ရှင်၊ သည်လိုဖြစ်ရတာ ငါ့ရှင်ကြောင့်ပဲ၊ ငါ့ရှင် ပြန်ပြီးတော့ ပြုစုလုပ်ကျွေးပါချေလို့ တိုက်တွန်းပါတယ်။

သူဌေးသား ရဟန်းတော်ဟာ ငါ ရဟန်းတရား အားထုတ်လာတာ ၁၂ နှစ်ကြာ ရှိပြီ၊ မဂ်ရောင် ဖိုလ်ရောင် တဆိတ်ကလေးမှ ပြောင်တာ မတွေ့ရသေးဘူး၊ ငါဟာ မကျွတ်ထိုက်တဲ့ အဘဗ္ဗပုဂ္ဂိုလ် ထင်ပါရဲ့။ မိဘတွေ ပြန်လုပ်ကျွေး ပြုစု၊ ဒါနအစရှိတဲ့ ကုသိုလ်ကောင်းမှုတွေ လုပ်ပြီး နတ်ပြည်ရောက်ဖို့ အားထုတ်တာ ကောင်းပါတယ်လို့ စဉ်းစား ဆုံးဖြတ်ပြီး သူ့တောကျောင်းကလေးကို အာဂန္တုရဟန်းအား အပ်ပြီး သာဝတ္ထိပြည် မိဘရပ်ထံ ပြန်လာပါသတဲ့။

ပြန်လာလို့ သာဝတ္ထိပြည်နဲ့ မနီးမဝေး ဇေတဝန် ကျောင်းတိုက်ကြီးရဲ့ အစွန်ဆုံး ကျောင်းနားအရောက် ဇေတဝန် ကျောင်းတော်ကြီးဆီ သွားတဲ့ လမ်းတစ်လမ်း သာဝတ္ထိမြို့ထဲကို သွားတဲ့ လမ်းတစ်လမ်းလို့ လမ်းနှစ်သွယ် တွေ့တဲ့အခါ ရပ်ပြီး သာဝတ္ထိမြို့ထဲဝင် မိဘတွေကို အလျင်သွားတွေ့ရမလား၊ ဇေတဝန် ကျောင်းတော်ထဲဝင် ဘုရားရှင်ကို အလျင်ဖူးမြင်ရကောင်းမလား စဉ်းစားတဲ့အခါ မိဘတွေက အလျင်ကလည်း အကြာကြီး တွေ့ခဲ့ဖူးပါတယ်။ နောက်လည်း တစ်သက်လုံး အတူနေသွားရဦးမှာ၊ ဘုရားကိုကတော့ သည်အချိန်က နောက် ဖူးတွေ့ရဖို့ရာ အတော်ကြီး ခဲယဉ်းသွားပြီမို့ ဘုရားရှင်ကို

အလျင်ဝင်ဖူးပြီး နံနက်စောစောကျတော့မှပဲ မိဘများဆီ သွားတော့မယ်ဆိုတဲ့ မှန်ကန်တဲ့ ဆုံးဖြတ်ချက်ချပြီး ဇေတဝန် ကျောင်းတိုက်ကြီးထဲ ဝင်သွားပါတယ်။

ရှင်တော်ဘုရား ညနေချမ်းကျလို့ တရားဟောတဲ့အခါ ရဟန်းတော်ရဲ့ ပါရမီဓာတ်ခံကို ကြည့်ပြီး "မိဘကျေးဇူးဆပ်" တရားတော်ကို ဟောတော်မူပါတယ်။ ပရိသတ် အစွန်းနားကနေ တရားနာနေတဲ့ ရဟန်းတော်ဟာ "ငါက လူထွက်ပြီး မိဘလုပ်ကျွေးမယ် စိတ်ကူးထားတယ်၊ ရှင်တော်ဘုရားကတော့ ရဟန်းဝတ်နဲ့ မိဘလုပ်ကျွေးတာ ပိုပြီး မိဘကျေးဇူးဆပ်ရာ ရောက်တယ်လို့ ဟောတော်မူပါလား၊ ရှင်တော်ဘုရားကိုသာ အလျင် ဝင်မဖူးမိလျှင် ငါ့ရဲ့ တန်ဖိုးကြီးလှတဲ့ ရဟန်းဘဝ ဆုံးရှုံးရတော့မှာပါလား။ ကံကြီးပေလို့သာပေါ့" လို့ ဝမ်းပန်းတသာ စဉ်းစားမိပြီး ငါ လူမထွက်တော့ဘူး၊ ရဟန်းဝတ်နဲ့ပဲ မိဘလုပ်ကျွေးတော့မယ်လို့ ဆုံးဖြတ်လိုက်ပါသတဲ့။

ရဟန်းတော်ဟာ နောက်တစ်နေ့နံနက် စောစော သာဝတ္ထိမြို့ထဲဝင်ပြီး "ဆင်းရဲတဲ့ မိဘများဆီ ဘာမှမပါဘဲ သွားလို့မကောင်းဘူး" လို့ စိတ်ကူးမိတာနဲ့ ယာဂုဆွမ်းခံယူကာ မိဘများနေခဲ့တဲ့ အိမ်ဟောင်း တံခါးဝကနေ ရပ်ပြီး လှမ်းကြည့်လိုက်တဲ့အခါ သူတို့ တောင်းရမ်းလို့ ရလာတဲ့ ယာဂု (ဆန်ပြုတ်) ကလေးကို ရေ့မှာချပြီး သူများအိမ် နံရံမှာ

ခိုကပ်နေကြတဲ့ မိဘများကို တွေ့ရတော့ ရင်ထဲက သောက အရှိန်ကြောင့် မျက်ရည်ပူတွေ မျက်လုံးနဲ့ အပြည့်ကျလာကာ မိဘများနဲ့ မနီးမဝေး နေရာမှာ သွားရပ်နေလိုက်ပါတယ်။

မိဘများက မြင်ပေမယ့် မမှတ်မိတာကြောင့် ဆွမ်းလာခံတဲ့ ရဟန်းထင်ပြီး "အရှင်ဘုရား၊ အရှင်ဘုရားကို လောင်းလှူစရာ တပည့်တော်တို့မှာ ဘာမှမရှိပါ၊ ကန်တော့ဆွမ်းပါဘုရား" လို့ လျှောက်ထားပါတယ်။

မယ်တော့်စကား ကြားရတဲ့ ရဟန်းတော်ဟာ ရင်ထဲမှာ သောကတွေနဲ့ တင်းကျပ်လာပြီး မျက်လုံးအိမ်မှာ မျက်ရည်အပြည့်နဲ့ မတုန်မလှုပ် ရပ်နေပါတယ်။

နောက်တစ်ကြိမ် နောက်ထပ် တစ်ကြိမ် သုံးကြိမ်တိုင်တိုင် ကန်တော့ဆွမ်းပါလို့ လျှောက်ထားပေမယ့် ကြွမသွားဘဲ ရပ်နေတဲ့ ရဟန်းတော်ကို မြင်ရတော့ ခမည်းတော်ကြီးက "ထူးတယ် ရှင်မရေ၊ တို့သားလေးများ ဖြစ်နေသလား မသိဘူး၊ သွားကြည့်စမ်းပါဦး" လို့ ပြောတာနဲ့ မယ်တော်ကြီးက သွားကြည့်တော့ သားဖြစ်နေမှန်း သိတာနဲ့ သားရဲ့ ခြေရင်းမှာ လဲကျငိုကြွေးပါတော့တယ်။

ခမည်းတော်ကြီးကလည်း သည်အတိုင်း ငိုကြွေးတဲ့အခါ သား ရဟန်းတော်လည်း ဣန္ဒြေမဆည်နိုင်တော့ဘဲ ငိုကြွေး ပါတော့တယ်။ သူဌေးကြီး လူမွဲမိဘ နှစ်ဦးနဲ့ သား





ဟန်းတော်တို့ရဲ့ မြင်ကွင်းကတော့ တကယ်ကို ဝမ်းနည်းကြေကွဲစရာကြီး ပါပဲ။

သည်အခါ ရဟန်းတော်ဟာ စိတ်ကိုပြန်ထိန်းလိုက်ပြီး မယ်တော် ခမည်းတော်ကြီးများကို အားပေးစကား ပြောကြား နှစ်သိမ့်စေကာ သင့်လျော်တဲ့နေရာ ရှာဖွေနေထိုင်စေပြီး ဆွမ်းခံကြွပါတယ်။ သင်္ကန်းလျှာ အဝတ်အထည်များကို ရှာဖွေပြီး မိဘများကို ဝတ်စေပါတယ်။

မိဘများဝတ်လို့ ဟောင်းနွမ်းသွားတဲ့ အဝတ်များကိုမှ သင်္ကန်းချုပ်ပြီး ဝတ်ပါတယ်။ ရှေးအခါက ခုခေတ်လို အဆင်သင့်ဝတ်ဖို့ ချုပ်ဆိုးပြီးသား သင်္ကန်းကို မလှူကြ။ သင်္ကန်းချုပ်စရာ အဝတ်အထည်များကို သင်္ကန်းတစ်ထည်စာ အလုံအလောက်ဖြစ်စေ၊ တတ်နိုင်သလောက် အဝတ်ပိုင်းတစ်ပိုင်းလောက်ဖြစ်စေ လှူဒါန်းတတ်ကြပါတယ်။ ဒါကိုမှ ရဟန်းတော်များဟာ ချုပ်ဆိုးပြီး ဝတ်ရုံကြရပါတယ်။ အဲဒါကို သင်္ကန်းလျှာ (သင်္ကန်းချုပ်မည့်) အဝတ်ပုဆိုးလို့ ခေါ်ပါတယ်။

ဆွမ်းခံလို့ ပြည့်စုံလုံလောက်အောင် ရတဲ့နေ့က နည်းတာမို့ ရဟန်းတော်ဟာ ဆွမ်းဝဝ ဘုဥ်းပေးရတဲ့နေ့ဆိုတယ် မရှိတာကြောင့် အင်မတန် စားဝတ်နေရေး ချို့တဲ့ဆင်းရဲပါတယ်။ နဂိုက ရုပ်ဆင်းအင်္ဂါ သပ္ပာယ်တင့်တယ် ပြည့်စုံတဲ့ သူဌေးသား ရဟန်းတော်ဟာ ခုအခါမှာတော့ အရိုးပေါ်

အရေတင် ပိန်ချုံးညှိုးနွမ်းပြီး အကြောပြိုင်းပြိုင်း ထ,တဲ့ ခန္ဓာကိုယ်နဲ့ အတော်ကို အကျည်းတန် အရုပ်ဆိုးနေရှာပါတယ်။

ရဟန်းတော်ရဲ့ သည်လို အခြေအနေမျိုးကို မြင်ရတဲ့ အခြားရဟန်းတော်များက အရှင်ဘုရားဟာ အလျင် အခြေအနေမျိုးနဲ့ လုံးဝမတူတော့ဘဲ အပြောင်းလဲကြီး ပြောင်းလဲသွားပါလား၊ မကျန်းမမာ ဖြစ်နေပါသလားလို့ မေးကြတဲ့အခါ ရဟန်းတော်က ချို့ချို့ငဲ့ငဲ့ အခြေအနေမျိုးနဲ့ မိဘများကို လုပ်ကျွေးနေရလို့ ခုလို ဖြစ်ရတဲ့အကြောင်း ပြောပြပါတယ်။

သည်အခါ ရဟန်းတော်များက (သဒ္ဓါဒေယျဝိနိပါတ) ဒကာ ဒကာမများအား ပေးကမ်းခြင်းဖြင့် ဖျက်ဆီးပစ်တဲ့ ပုဂ္ဂိုလ်ပဲလို့ ဝိုင်းကဲ့ရဲ့ကြတဲ့အတွက် ရဟန်းတော်ဟာ ရက်လွန်းလို့ ခေါင်းတောင် မဖော်ရဲတော့ဘဲ ပုန်းနေရှာပါသတဲ့။

ရဟန်းတော်များဟာ ကဲ့ရဲ့ရုံမျှနဲ့ အားမရသေးဘဲ သည်အကြောင်းကို ရှင်တော်ဘုရားအား သွားရောက်လျှောက်ထားကြပါတယ်။

ရှင်တော်ဘုရားက ရဟန်းတော်ကို ခေါ်တော်မူပြီး ရဟန်းများ လျှောက်ထားတဲ့အတိုင်း မှန်သလားလို့ မေးပါတယ်။ ရဟန်းတော်ကလည်း မှန်ပါကြောင်း လျှောက်ထားပါတယ်။ ရှင်တော်ဘုရားက သင်လုပ်ကျွေးနေတဲ့ ဒကာ ဒကာမတွေဟာ ဘယ်သူလဲလို့ မေးပါတယ်။ ရဟန်းတော်က





မိဘများဖြစ်ကြောင်း လျှောက်ထားတဲ့အခါ ရှင်တော်ဘုရားက ရဟန်းတော် စိတ်အားတက်ကြွ ထက်သန်တဲ့ ဝီရိယနဲ့ မိဘများကို လုပ်ကျွေးတဲ့အတွက် သာဓုသုံးကြိမ် ခေါ်တော်မူပြီး သင် ချစ်သားဟာ ငါဘုရား ကျင့်သုံးခဲ့တဲ့ လမ်းစဉ်အတိုင်း လိုက်နာကျင့်သုံးတဲ့ ပုဂ္ဂိုလ်ပဲ၊ ငါဘုရားလည်း ရှေးအခါ ပါရမီ ဖြည့်စဉ်က သင်ချစ်သားလိုပဲ မိဘများကို လုပ်ကျွေးခဲ့တယ်လို့ မိန့်တော်မူပါတယ်။

ဒါဟာ ရှင်တော်ဘုရားကိုယ်တိုင် ပေးတဲ့အဖြေပါပဲ။

(သုဝဏ္ဏသာမဇာတ် – ပဋ္ဌမ္ဘုနဝတ္ထု)

# မေးခွန်း (၂၀)

တာဝန်ခံ ဗုဒ္ဓဝါဒဆိုင်ရာ အမေး–အဖြေ

ရတနာမွန် မဂ္ဂဇင်း

နေ့စွဲ ၂၈–၆–၉၂

ကျွန်တော်သည် နိုင်ဂျီးရီးယားနိုင်ငံ လေးဂို့(စ်) မြို့မှာ အမှုထမ်းလျက် ရှိပါသည်။ ရတနာမွန် မဂ္ဂဇင်းကိုလည်း ဖတ်ရပါသည်။ ထိုတွင် ကျွန်တော် အုပ်ချုပ်ရသော အမှုထမ်း အချို့က ဗုဒ္ဓဘာသာအကြောင်းကို သိလိုကြပါသည်။ သူတို့က ကျွန်တော် ပြုလုပ်သော ပုတီးစိပ်ခြင်း၊ ဗုဒ္ဓါနုဿတိ ပွားများ ရွတ်ဖတ်ခြင်းကို သိလိုကြပါသည်။ သို့နှင့် သူတို့အား ငါးပါးသီလကို အခြေခံပြီး ကျွန်တော်တတ်သရွေ့ မှတ်သရွေ့ ကို ရှင်းပြပေးပါသည်။





အကျွမ်းတဝင် ရှိသူများအား စိတ်ချမ်းသာချင်လျှင်၊ အောင်မြင်ကြီးပွားချင်လျှင် ဗုဒ္ဓ၏ အရဟံဂုဏ်တော်ကို နံနက်၊ နေ့လယ်၊ ည၊ သုံးခါ ရွတ်ခိုင်းပါသည်။ အတော်ခပ်များများ ပြုလုပ်နေကြပါပြီ။

ဤကဲ့သို့ အရဟံဂုဏ်တော် ရွတ်ခိုင်းခြင်းသည် ကျွန်တော့်မှာ အပြစ် ရှိမရှိ သိလိုပါသည်။ အရဟံဂုဏ်တော် အဓိပ္ပာယ်ကိုလည်း သူတို့နားလည်အောင် ရှင်းပြပေးပါသည်။

ရတနာမွန် မဂ္ဂဇင်းအတွက် ကျွန်တော် ကူညီရမည့် အချက်များ ရှိပါကလည်း ဝမ်းမြောက်စွာ ကူညီလိုပါသည်။ ကျွန်တော့်ဆန္ဒကတော့ အာဖရိကတိုက်၌ ဗုဒ္ဓဘာသာ ပြန့်ပွား လိုလှပါသည်။

ဦးကျော်စိုး

ခေတ္တ–နိုင်ဂျီးရီးယား။

ဦးကျော်စိုး

လေးဂို့(စ်)မြို့၊ နိုင်ဂျီးရီးယား

ဦးကျော်စိုး အနေနဲ့ အရဟံ ဂုဏ်တော်ကို တစ်နေ့ သုံးကြိမ် ဆိုခိုင်းတာဟာ အလွန်ကောင်းတဲ့ လုပ်ဆောင်ချက် ဖြစ်ပါတယ်။ တစ်နေ့သုံးကြိမ်ဆိုတာ နည်းတောင်နည်းပါသေး တယ်။ ဘုရားရှင်ကိုယ်တော်မြတ်ကတော့ "သယနေ အာသနေ၊ ဌာနေ။ ဂမနေစာပိ သဗ္ဗဒါ။ အိပ်နေ၊ ထိုင်နေ၊ ရပ်နေ၊

သွားနေ၊ ဘယ်လို ဣရိယာပုတ်နဲ့ပဲ နေနေ အမြဲတမ်း ဘုရား ဂုဏ်တော်ကို ဆင်ခြင်အောက်မေ့ ရှိခိုးနေနိုင်လျှင် မွန်မြတ်သော နေခြင်းပဲလို့ ဟောတော်မူပါတယ်။

ဒါကြောင့် ဦးကျော်စိုး ရွတ်ဆိုခိုင်းတဲ့ အတိုင်း တစ်နေ့ သုံးကြိမ် ပုံမှန်ထားပြီး ဒါ့ထက် တိုးကာ အချိန်ရသမျှ အရဟံဂုဏ်တော်ကို အဓိပ္ပာယ်ပါ သိပြီး ရွတ်ဆိုပွားများလျှင် ကိုယ်စိတ်နှစ်ဖြာ ချမ်းချမ်းသာသာနဲ့ အမြန်ဆုံး အောင်မြင် ကြီးပွားမယ်လို့ ရဲရဲကြီး ဝန်ခံပြီး အလုပ်ခိုင်းကြည့်ပါ။ သူတို့ ယုံကြည်ထက်သန်လျှင် ထက်သန်သလောက် အကျိုးထူး ခံစားရပြီး ဘုရားရှင်အပေါ် ယုံကြည်လေးစားမှုတွေ တိုးတက် ဖြစ်ပွားလာပါလိမ့်မယ်။

အဲသည်အခါကျတော့ သည်လို ကိုယ်ချမ်းသာ စိတ် ချမ်းသာ အရာရာ အောင်မြင်တိုးတက်မှုကို ရစေနိုင်တဲ့ ဂုဏ် သတ္တိ ကျေးဇူးတရားတွေနဲ့ ပြည့်စုံတော်မူတဲ့ ဘုရားရှင်နဲ့ အဲသည် ဘုရားရှင် ဟောကြားညွှန်ပြထားတဲ့ ချမ်းသာကြီးပွား အောင်မြင်ကြောင်း တရားတော်တွေ၊ ဒီတရားတော်တွေ ကွယ်ပျောက်ပျက်စီး မသွားရလေအောင် ထိန်းသိမ်းစောင့် ရှောက်ထားပြီး လူသားတွေ ကမ္ဘာသူ ကမ္ဘာသားတွေကို ဟောကြားဝေငှ ဖြန့်ဖြူးပေးနေကြတဲ့ ဘုရားရှင်ရဲ့ တပည့်သား သံဃာတော် တွေ ရှိပါတယ်။ အဲဒီ ဘုရား တရား သံဃာကို ရတနာမြတ်သုံးပါးလို့ ခေါ်ပါတယ်။ ဒီရတနာမြတ် သုံးပါးသာ





လျှင် ကိုယ်စိတ်နှစ်ဖြာ ချမ်းသာချင်ကြသူ၊ တိုးတက်ကြီးပွား အမြဲတမ်း ကောင်းစားချမ်းသာချင်ကြသူ မှန်သမျှတို့ရဲ့ ကိုးကွယ်ရာ မှီခိုအားထားရာ အစစ်ဖြစ်တယ်ဆိုတာ သဘော ပေါက်လောက် အောင် ပြောပြပြီး ...

၁။ ဘုရားရှင်ကို ကိုးကွယ်ရာဟူ၍ မှီဝဲဆည်းကပ် သိမှတ်ပါ၏။

### ဗုဒ္ဓံ သရဏံ ဂစ္ဆာမိ

၂။ တရားတော်ကို ကိုးကွယ်ရာဟူ၍ မှီဝဲ ဆည်းကပ် သိမှတ်ပါ၏။

### ဓမ္မံ သရဏံ ဂစ္ဆာမိ

၃။ သံဃာတော်မြတ်ကို ကိုးကွယ်ရာ ဟူ၍ မှီဝဲဆည်းကပ် သိမှတ်ပါ၏။

### သံဃံ သရဏံ ဂစ္ဆာမိ

အဲသည်လို မြန်မာလိုဖြစ်စေ၊ ပါဠိလို ဖြစ်စေ၊ သူတို့ ရိုးရာ ဘာသာနဲ့ ဖြစ်စေ ဆိုခိုင်းလိုက်လျှင် သရဏဂုံ တည်သူ ဗုဒ္ဓဘာသာ ဖြစ်သွားနိုင်ပါတယ်။

အဆင့်သင့် အခွင့်ရလျှင် ဗုဒ္ဓဝင်ထဲ၊ ငါးရာ ငါးဆယ် ဇာတ်တော်တွေထဲက သင့်လျော်ရာကလေးတွေ ပြောပြနိုင် လျှင်လည်း ခရီးရောက်မယ် ထင်ပါတယ်။ ဒီနည်း ကလေးဟာ

အာဖရိကတိုက်မှာ ဗုဒ္ဓဘာသာ ထွန်းကားပြန့်ပွား စေလိုတဲ့ စေတနာထက်သန်နေတဲ့ ဦးကျော်စိုးအဖို့ အသုံးဝင် ကောင်းဝင်နိုင်စရာ ရှိမယ် ထင်ပါတယ်။ ဦးကျော်စိုး အခု လုပ်နေတဲ့ အရဟံ ဂုဏ်တော် ရွတ်ဆိုခိုင်းတာနဲ့လည်း ကွင်းဆက်မိနေပါတယ်။

သရဏဂုံ တည်ပြီး ပုဂ္ဂိုလ်တစ်ယောက်အနေနဲ့ လူသားတိုင်းနဲ့ သက်ဆိုင်တဲ့ ကိုယ်ချင်းစာတရားကို အခြေခံတဲ့ ငါးပါးသီလနဲ့ ပြည့်စုံမှသာ သင့်လျော်မှာမို့ ငါးပါးသီလနဲ့ ပြည့်စုံအောင် ဆောက်တည်ခိုင်းရာက စပြီး တဖြည်းဖြည်း ဆွဲဆောင်သွားလျှင် အောင်မြင်ထမြောက်နိုင်မယ်ထင်ကြောင်း အကြံပြုလိုက်ရပါတယ်။

ဘာသာခြား ပုဂ္ဂိုလ်အား "အရဟံ" ဂုဏ်တော် ရွတ်ဆိုစေခြင်းဖြင့် ဘယ်လိုအပြစ်မျိုး ရောက်နိုင်တယ်ဆိုတာ စဉ်းစားလို့ မရနိုင်လောက်အောင်ပါပဲ။ အလွန်မွန်မြတ်တဲ့ ကုသိုလ် ရတယ်လို့ပဲ မြင်ပါတယ်။

မြတ်စွာဘုရား ဘုရားဖြစ်တော်မူခါစက တရားဟောတာလည်း ဘာသာခြားတွေပဲ ဖြစ်ပါတယ်။ ဘာသာခြားတွေဟာ ဘုရားရှင်တရားတော်တွေ နာရမှ ဘုရားရှင်ကို ကိုးကွယ်တဲ့ ဗုဒ္ဓဘာသာဝင်တွေ ဖြစ်လာတာပါ။ ဒါကြောင့် ဦးကျော်စိုးအနေနဲ့ အရဟံဂုဏ်တော် ရွတ်ဆိုခိုင်းတာ အပြစ်များ ရှိလေမလားဟု တစ်စုံတစ်ရာ သံသယ ဝင်မနေဘဲ ငါ့အနေနဲ့





ကံကောင်းထောက်မလို့သာ ဘာသာခြားတွေကို အရဟံဂုဏ်ဆော် ရွတ်ခိုင်းတဲ့ အခွင့်အရေး ရတာပါလားလို့ အမှန်အတိုင်းမြင်ပြီး ဆတက်ထမ်းပိုး တိုးကာ အရဟံ ဂုဏ်တော်ကို ရွတ်ဆိုခိုင်းရာကစပြီး တစ်ဆင့်ထက်တစ်ဆင့် မြင့်သထက်မြင့်သော ဗုဒ္ဓ၏ ဒါန သီလ စသော တရားတော်တွေကို ကိုယ်စွမ်း ဉာဏ်စွမ်း ရှိသမျှ ဖြန့်ဖြူးပေးခြင်းဖြင့် ဗုဒ္ဓသာသနာတော် အာဖရိကတိုက်မှာ ထွန်းပြောင်တိုးတက်အောင် ဆောင်ရွက်နိုင်ပါစေလို့ ပတ္ထနာပြုလိုက်ပါတယ်။

# မေးခွန်း(၂၁)

**အမေး(၁)** ရှစ်ပါးသီလ ဆောက်တည်ထားတဲ့ ပုဂ္ဂိုလ်၊ ဥပုသ်ရက်ရှည် ဆောက်တည်ထားတဲ့ ပုဂ္ဂိုလ်များမှာ ကျောင်း၊ ဇရပ်၊ အနီးအနားမှာ ရှိတဲ့ မြက်ပင်ပေါင်းပင်များကို မနုတ်ကောင်းဘူး၊ နုတ်လျှင် အပြစ်ဖြစ်တယ်လို့ ပြောကြပါတယ်၊ တချို့ကျတော့လည်း အပြစ်မဖြစ်ပါဘူး၊ ကုသိုလ်ရတယ်လို့ ပြောကြပါတယ်။ အဲဒါကို ရှင်းပြပေးပါခင်ဗျာ။

**အမေး(၂)** မြတ်စွာဘုရား ဆွမ်းတော်မှ စွန့်သော မုန့်၊ သစ်သီး စသည်များကို မစားကောင်းဘူး၊ စားလျှင် ဉာဏ်ထိုင်းတတ်တယ်၊ အာဏာ





စက် ညံ့တတ်တယ်ဆိုတာ ဟုတ်ပါသလား ဖြေကြားပေးပါ ခင်ဗျား။

မောင်မြင့်မောင်
ရွှေဟသာလမ်း၊ သုံးဆယ်မြို့။

**အဖြေ(၁)** ရှစ်ပါး သီလ ဆောက်တည်ပြီး ဥပုသ်စောင့်တဲ့ ပုဂ္ဂိုလ်များ၊ကျောင်း၊ ဇရပ် အနီးမှာရှိတဲ့ မြက်ပင် ပေါင်းပင်များကို နုတ်ကောင်း ပါတယ်။ သစ်ပင်များကိုလည်း ခုတ်တွင်ရှင်းလင်း ကောင်း ပါတယ်။ ကုသိုလ်ရပါတယ်။

ရဟန်းတော်များ၊ မြက်၊ သစ်ပစ်များကို မနုတ်၊ မခုတ်ကောင်းတာနဲ့ ဥပုသ်သည်တွေ မြက်ရှင်းတာ ရောထွေး သွားပုံ ရပါတယ်။

ရဟန်းတော်များ မနုတ်၊ မခုတ်ကောင်းတာက အကုသိုလ်ဖြစ်လို့ မဟုတ်ပါဘူး၊ ဘုရားရှင် ပညတ်တော်မူတဲ့ သိက္ခာပုဒ်ကြောင့် ဖြစ်ပါတယ်၊ သည့်လို သိက္ခာပုဒ်ကို ပညတ်တာကလည်း အကြောင်းရှိပါတယ်။

ရှင်တော်ဘုရား အာဠဝီပြည်မှာ သီတင်းသုံးတော်မူ ခိုက် အာဠဝီပြည်သား ရဟန်းတော်များဟာ မိမိတို့ ကျောင်း အနီးမှာရှိနေတဲ့ မြက်၊ သစ်ပင်များကို ခုတ်ထွင် ရှင်းလင်း ကြပါတယ်။ သည်အခါ ရဟန်းတစ်ပါးဟာ သစ်ပင် တစ်ပင်ကို

သွားဖြတ်ပါတယ်။ သည်လို ဖြစ်တတ်တဲ့အခါ အဲဒီသစ်ပင်က ရက္ခစိုးနတ်သမီးက မခုတ်ဖြတ်ဖို့ ပြောပေမယ့် နား မထောင်ဘဲ ပုဆိန်နဲ့ သစ်ပင်ကို ခုတ်ဖြတ်လိုက်ပါတယ်။ မြှောက်ပြီး ခုတ်ချလိုက်တဲ့ ပုဆိန်ရဲ့ အရှိန်ကို ပြန်မထိန်းနိုင် လိုက်တာ ကြောင့်လို့ဆိုပါတယ်။ အဲသည်အခါ သစ်ပင်မှာရှိတဲ့ ဘုံဗိမာန် ထဲမှာ အိပ်နေတဲ့ ရက္ခစိုးနတ်ကလေးရဲ့လက်ဟာ လက်မောင်း ရင်းကနေ ပြတ်သွားပါတော့တယ်၊ သစ်ပင်မှာ ရှိနေတဲ့ ရက္ခစိုးရဲ့ ဘုံဗိမာန်ကို လူတို့မမြင်နိုင်ဘူးလို့ ဆိုပါတယ်။

(ပါစိတ် အဋ္ဌကထာ)

သည်လို ပြတ်သွားတော့ နတ်သမီးဟာ စိတ်ဆိုးပြီး ရဟန်းကိုသတ်ဖို့ ကြံပြီးနောက် မတော်သေးပါဘူးလေလို့ စဉ်းစားပြီး ဘုရားရှင်ကို သွားလျှောက်ပါတယ်။ ဘုရားရှင်က သာဓုခေါ်ပြီး သင် နတ်သမီး၊ ရဟန်းကို မသတ်မိအောင် ကိုယ့်ဒေါသကို ကိုယ်ထိန်းလိုက်နိုင်တာဟာ သင့်အတွက် အောင်မြင်မှု တစ်ရပ်ဖြစ်တယ်၊ ရဟန်းကိုသာ သတ်မိလျှင် သင်ဟာ အလွန်ဆိုးရွားတဲ့ ဆင်းရဲဒုက္ခတွေနဲ့ တွေ့ကြုံရမှာ အမှန်ပဲလို့ ချီးမွမ်းတော်မူကာ ရက္ခစိုးနတ် မရှိတဲ့ သစ်ပင် တစ်ပင်ကို ညွှန်ပြနေထိုင်စေတော်မူလိုက်ပါတယ်။ ဒေါသကို ထိန်းလိုက်နိုင်တဲ့ ရက္ခစိုးနတ်သမီးဟာ အလွန် ချမ်းသာသွား ပါတယ်၊ တန်ခိုးလည်း ကြီးထွားပါတယ်။





သည်အကြောင်း လူတွေကြားတဲ့အခါ သာကီဝင် မင်းသား ဘုရားသားတော်တွေဟာ ဘယ့်နှယ်ကြောင့်များ ဇီဝ(အသက်) ဆိုတဲ့ တစ်ခုသော ဣန္ဒြေရှိတဲ့၊ မြက်၊ သစ်ပင်တွေကို ညှဉ်းဆဲကြတာလဲလို့ ကဲ့ရဲ့ကြပါတယ်၊ဒါကို ရဟန်းတွေက ကြားပြန်တော့ ကဲ့ရဲ့ကြပြီး ဘုရားရှင်ကို သွားလျှောက်တဲ့ အခါ ရဟန်းကို ခေါ်မေးပြီး မောဃ ပုရိသ (မင်္ဂဖိုလ်မမှီး အချည်းနှီးသော ယောကျ်ား)၊ သင့်အလုပ်ဟာ သာသနာတော်ကို မကြည်ညိုသေးသူကို မကြည်ညိုစေဖို့၊ ကြည်ညိုပြီးသူကို အကြည်ညို ပျက်စေဖို့ ဖြစ်တယ်။ လူတွေဟာ မြက်၊ သစ်ပင် တွေမှာ အသက်ရှိတယ်၊ မြက်၊ သစ်ပင်တွေကို ခုတ်လျှင်၊ နုတ်လျှင် အသက်ရှိတဲ့ အရာကို ညှဉ်းဆဲရာ ရောက်တယ်လို့ သူတို့ အယူရှိကြတယ်လို့ ကဲ့ရဲ့တော်မူပြီး ...

ရဟန်းတော်များသည် စိမ်းစိုသော မြက်၊ သစ်ပင် များကို မခုတ်၊ မနုတ် မဖျက်ဆီးရ၊ ခုတ်၊ နုတ်ဖျက်ဆီးလျှင် ပါစိတ်အာပတ်သင့်စေလို့ သိက္ခာပုဒ်ကို ပညတ်တော်မူလိုက် ပါတယ်။

သည်သိက္ခာပုဒ်ဟာ ရဟန်းတော်များနဲ့သာ ဆိုင်ပါ တယ်၊ တခြား ရှင်ရောလူပါ ဘယ်သူနဲ့မှ မဆိုင်ပါဘူး၊ ဒါကြောင့် ဥပုသ်သည်တွေ မြက် ရှင်းကောင်းတယ်၊ ကုသိုလ် ရတယ်လို့ ဖြေလိုက်တာပါ။

**အဖြေ(၂)** မောင်မြင့်မောင်ရဲ့အမှတ်(၂)မေးခွန်း အဖြေ ဤစာအုပ် စာမျက်နှာ (၁၀၂) မှ (၁၁၁) အထိ ဖြေဆိုထားပြီး ဖြစ်ပါတယ်။



## မေးခွန်း(၂၂)

**အမေး(၁)** ဘုရား ရဟန္တာတို့ ပြုံးရယ်သော စိတ်သည် ဟသိတုပ္ပါဒ် ဖြစ်ပါ၏။ ထိုစိတ်သည် အသောဘဏစိတ် (မတင့်တယ်) ထဲတွင် ပါဝင်နေ၏။ ထို့ကြောင့် ဘုရားရဟန္တာတို့ ပြုံးရယ်ခြင်းသည် မတင့်တယ်ဟု မှတ်ရမည်လော။

**အမေး(၂)** ပါရာဇိက ကျပြီးသောရဟန်းသည် (အသွင်မပြောင်းဘဲ) ဒါနပြုခြင်း၊ ဘုရားဖူးခြင်း၊ ပုတီးစိပ်ခြင်းများ ပြုလုပ်ပါက ကုသိုလ်ရနိုင် မရနိုင်။

**အမေး(၃)** ပါရာဇိက ကျပြီးသော ရဟန်းသည် (အသွင်မပြောင်းဘဲ) ဒီအတိုင်းသေက အဘယ်ငရဲ၌ ကျနိုင်သည်ကိုလည်းကောင်း၊ ထို့အတူ သံဃာဒိသိသ်ပါစိတ် စသည်တို့၏ အာပတ် တစ်ခုခုသင့်ပြီး (ဒေသနာ မကြားဘဲ) သေလွန်ပါက အဘယ်ငရဲ၌ကျနိုင်သည်ကို လည်းကောင်း၊ တိတိကျကျ မှန်မှန်ကန်ကန် ဖြေဆိုပေးပါ။

ဘိုးတော်ကြီး၊ ယောဝရုပ်၊ ဆိပ်ဖြူမြို့နယ်။

**အဖြေ(၁)** ဘုရားရဟန္တာတို့ ပြုံးရယ်ခြင်းကို မတင့်တယ်ဟုမမှတ်ရ။အကုသိုလ်စိတ်၊ အဟိတ်စိတ်တို့ကို အသောဘဏစိတ်လို့ဆိုတာ မတင့်တယ်သော စိတ်များဖြစ်လို့ ဆိုတာမဟုတ်၊ သောဘဏစိတ်မှ တစ်ပါးသော (သောဘဏစိတ် မဟုတ်သော) စိတ်များ ဖြစ်လို့ အသောဘဏစိတ်လို့ ဆိုတာဖြစ်ပါတယ်။

သင်္ဂြိုဟ်မှာ အကုသိုလ်စိတ် အဟိတ်စိတ်တို့ကို အသောဘဏစိတ်လို့ တိုက်ရိုက်သုံးထားတာ မရှိပါဘူး၊ ကာမာဝစရ သောဘဏစိတ်၊ မဟဂ္ဂုတ်၊ လောကုတ္တရာ စိတ်များကို သောဘဏစိတ်လို့ ဆိုရမယ်လို့ ဆိုလိုက်ဝါ့နဲ့ အကုသိုလ်စိတ်၊ အဟိတ်စိတ်တို့ကို (ဗျတိရေက–ဆန့်ကျင်ဘက်နည်း၊ အဝုတ္တသိဒ္ဓိ–မပြောဘဲနဲ့ ပြီးတဲ့ နည်းများနဲ့) အသောဘဏစိတ်လို့ ပြောဆိုသုံးစွဲနေကြတာ ဖြစ်ပါတယ်။





မဏိသာရမဉ္ဇူသာ ဆရာတော်ကြီးကတော့ အသောဘဏစိတ်များကို မတင့်တယ်သော စိတ်များလို့ပဲ၊ အဓိပ္ပာယ်ဖွင့်ပါတယ်၊ ဒါပေမယ့် အဟိတ်ကုသလဝိပါက်စိတ်များနဲ့ ဘုရား ရဟန္တာများမှာသာ ဖြစ်နိုင်တဲ့ အဟိတ်ကြိယာ စိတ်များကို "မတင့်တယ်" လို့ ဆိုရမှာ ဘဝင်မကျစရာ ဖြစ်တာကြောင့် မဏိမဉ္ဇူ ဆရာတော်ကြီးရဲ့ စကားဟာ စဉ်းစားစရာ ဖြစ်ကြောင်း၊ လေးစားလောက်တဲ့ ဆရာတော်ကြီးများက မိန့်တော်မူကြတဲ့အတွက် အသောဘဏရဲ့ အဓိပ္ပာယ်ကို အထက်မှာ ဖော်ပြထားတဲ့အတိုင်း ယူရမှာ ဖြစ်ပါတယ်။

အဲသည်လို ယူလိုက်လျှင် ဘုရားရဟန္တာတို့၏ ပြုံးရယ်ခြင်းကို မတင့်တယ်ဘူးလို့ မှတ်ယူဖို့ မလိုတော့တဲ့အတွက် သည်ပြဿနာဟာ ပြေလည်သွားပြီလို့ ဆိုရမှာ ဖြစ်ပါတယ်။

**အဖြေ(၂)** ပါရာဇိက ကျပြီးတဲ့ ရဟန်း အသွင်မပြောင်း လူဝတ်မလဲဘဲ ဒါနပြုခြင်း၊ ဘုရားဖူးခြင်း၊ ပုတီးစိပ်ခြင်းများ ပြုလုပ်ပါက ကုသိုလ်ရနိုင်ပါတယ်။

ပါရာဇိကကျပြီး အသွင်မပြောင်းသေးသူ ဖြစ်စေ၊ အခြားပုဂ္ဂိုလ် တစ်ဦးဦးဖြစ်စေ ဒါန သီလ အစရှိတဲ့ ကောင်းမှု အလုပ်တွေလုပ်လျှင် ကုသိုလ်ရတာပါပဲ၊ ပါဏာတိပါတ

အစရှိတဲ့ မကောင်းတဲ့ အလုပ်တွေလုပ်လျှင် အကုသိုလ် ရတာပါပဲ၊ ကုသိုလ် အကုသိုလ် တရားသဘောတွေဟာ ပုဂ္ဂိုလ်ကို လိုက်ပြီး တစ်ပြောင်းတစ်လဲ ဖောက်လွဲဖောက်ပြန် ဖြစ်မကုန်ပါဘူး။

ပါရာဇိကကျပြီး လူဝတ်မလဲသေးဘူး အပါယ်ကျ၊ ဈာန် မဂ် ဖိုလ် မရနိုင်တာက ကုသိုလ် လုပ်ပါလျက်နဲ့ ကုသိုလ်မရလို့ မဟုတ်ပါဘူး။ ဘုရားရှင်၏ ပညတ်တော် (အာဏာတော်) ကို ကျူးကျော် ဆန့်ကျင်တဲ့ ပြစ်မှု အန္တရာယ်ရှိနေတဲ့အတွက် သူပြုလုပ်ရရှိထားတဲ့ ကုသိုလ်က အကျိုးမပေးနိုင်သေးတာ၊ အကျိုးပေးခွင့် မသေးတာ ဖြစ်ပါတယ်။ အန္တရာယ်ကင်းသွားလျှင် (ဝါ) လူဝတ်လဲ အသွင် ပြောင်းလိုက်လျှင် သူပြုထားတဲ့ ကုသိုလ်က အကျိုးပေးမှာပါပဲ။

ဒေဝဒတ်ဟာ ပါရာဇိကကျပြီး လူဝတ်မလဲဘဲ နေတဲ့ ပုဂ္ဂိုလ်ထက် ဆိုးတဲ့ပုဂ္ဂိုလ်၊ သံဃဘေဒက (သံဃာ သင်းခွဲတဲ့) ကံကြီးထိုက်ထားသူ ဖြစ်ပါတယ်။ ဒါပေမယ့် နောက်ဆုံး မြေမျိုခံရပြီး အဝီစိငရဲကြီးထဲ ကျခါနီးဆဲဆဲ ကလေးမှာ...

**ဣမေဟိ အဋ္ဌိဟိ တမဂ္ဂ ပုဂ္ဂလံ၊**
**ဒေဝါတိ ဒေဝံ နရဒမ္မသာရထိံ။**
**သမန္တစက္ခုံ သတပုညလက္ခဏံ၊**
**ပါဏေဟိ ဗုဒ္ဓံ သရဏံ ဂတောသ္မိ။**





နတ်တကာတို့ထက် မြတ်တော်မူထသော လူ၊ နတ်၊ ဗြဟ္မာ၊ သတ္တဝါအပေါင်းကို ယဉ်ကျေးအောင် ဆုံးမတော်မူတတ်သော။ သဗ္ဗညုတဉာဏ်နှင့် ပြည့်စုံတော်မူသော။ အရာမကသော ကုသိုလ်တော်တို့ကြောင့် ဘုန်းလက္ခဏာနှင့် ပြည့်စုံတော်မူထသော။ လောကတွင် အမြတ်ဆုံးဖြစ်တော်မူထသော ထိုမြတ်စွာဘုရားကို။ အကျွန်ုပ်သည်။ ဤအရိုးတို့ဖြင့် လည်းကောင်း၊ ဤကျန်ရှိနေသေးသော အသက်တို့ဖြင့် လည်းကောင်း၊ ကိုးကွယ်ရာဟူ၍။ ဆည်းကပ်ပါ၏ဟူ၍။ ဗုဒ္ဓရှင်တော် မြတ်အား ကိုးကွယ်ဆည်းကပ်ခဲ့။ သရဏဂုံယူခဲ့တဲ့ ကုသိုလ်ကြောင့်။ အဝီစိငရဲကြီးက လွတ်လာတဲ့ အချိန်မှာ "အဋ္ဌိဿရ" ဆိုတဲ့ အမည်တော်နဲ့ ပစ္စေကဗုဒ္ဓါဖြစ်ပြီး ပရိနိဗ္ဗာန် ဝင်စံမှာ ဖြစ်ပါတယ်။

သည် ရှင်ဒေဝဒတ်ရဲ့ ဖြစ်စဉ်ဟာ ပါရာဇိကကျပြီး လူဝတ်မလဲသေးသူ။ အသွင်မပြောင်းသေးသူ။ ဒါန စသည် ပြုလျှင် ဆိုင်ရာကုသိုလ် ရနိုင်ပါတယ်ဆိုတဲ့ စကားအတွက် အကောင်းဆုံး အထောက်အထားပဲ ဖြစ်ပါတယ်။

မှတ်သားစရာ ကောင်းတဲ့အတွက် ရှင်ဒေဝဒတ်ရဲ့ [illegible] သရဏဂုံ ယူပုံကို ပါဠိရော သဘော အဓိပ္ပာယ်ပါ [illegible] ပြည့် အစုံ ဖော်ပြလိုက်ပါတယ်။

**အဖြေ(၃)** ပါရာဇိက ကျပြီးသော ပုဂ္ဂိုလ်သည် အသွင်မပြောင်းဘဲ ဒီအတိုင်းသေက ဘယ်ငရဲကျနိုင်တယ်လို့ ဟောထားတဲ့ ဒေသနာတွေ့မိတယ်လို့ သတိမပြုမိပါဘူး။

ပါစိတ် ပါဠိတော် အရိဋ္ဌ သိက္ခာပုဒ်မှာ အာပတ်များဟာ လူ့ရွာနတ်ထံ မြတ်နိဗ္ဗာန်နှင့် ဈာန်မဂ်ဖိုလ်၏ အန္တရာယ်ကိုပြုတတ်တယ်။ အပါယ်လေးပါးသို့ ကျရောက်စေတတ်တယ်လို့ ဟောထားပါတယ်။ ဘယ်ငရဲလို့ ဒီလိုသတ်မှတ် မဟောပါဘူး။ (အန္တရာယိကာ ဆိုတဲ့ ပုဒ်ကို ပါစိတ် အဋ္ဌကထာက အထူးမဖွင့်ပါဘူး၊ ကင်္ခါအဋ္ဌကထာက သဂ္ဂမောက္ခ နံ အန္တရာယံ ကရောန္တီတိ အန္တရာယိကာ" ဆိုတဲ့ အဖွင့်ကိုမှီပြီး ဆိုလိုက်တာ ဖြစ်ပါတယ်။)

ပါရာဇိကဏ် ပါဠိတော် စတုတ္ထသိက္ခာပုဒ် ဝိနီတဝတ္ထုမှာ ကဿပဘုရားရှင်လက်ထက်က အလဇ္ဇီ ဒုဿီလ ရဟန်းတွေ သေတော့ ငရဲကျ၊ ကဿပ ဘုရားရှင်နဲ့ ဂေါတမ ဘုရားရှင် နှစ်ဆူတို့အကြား ကာလရှည်လျားစွာ ငရဲခံ၊ ငရဲကလွတ် တော့ ဂိဇ္ဈကုဋ်တောင်မှာ အမျိုးမျိုးသော ပြိတ္တာတွေ ဖြစ်နေကြတယ်လို့ ဟောထားတာ တွေ့ရပါတယ်။ ဘယ်အာပတ်ကြောင့် ဘယ်ငရဲကျတယ်လို့ ဒီလိုသတ်မှတ် ဟောထားတာ မတွေ့ရ ပါဘူး။

ဒါကြောင့် ပါရာဇိက အာပတ် တန်းလန်း ရဟန်းအသွင်နဲ့ သေသူဖြစ်စေ၊ အခြား အာပတ် တန်းလန်းနဲ့ သေသွားသူဖြစ်စေ အာပတ်သင့်ကြောင်း ပြစ်မှု၏ အတိမ်အနက်၊ အလေးအပေါ့ကို လိုက်ပြီး သူနဲ့ထိုက်တဲ့ ငရဲသူကျ၊ ပြိတ္တာဖြစ်သူတွေ ဖြစ်မှာပါပဲလို့ ဖြေကြားလိုက်ရပါတယ်။

## မေးခွန်း (၂၃)

**အမေး(၁)** ပဋိသမ္ဘိဒါ လေးပါးနှင့် လောကီ အဘိညာဉ် (ဓမ္မပဒ လက်ရွေးစင် ၅) ၏ အနက်အဓိပ္ပာယ်ကို ရှင်းပြ၍ မည်သို့သော ပုဂ္ဂိုလ် ဖြစ်မှသာ ရနိုင်ပါသနည်း။

**အမေး(၂)** သမထ ကမ္မဋ္ဌာန်းနှင့် ဝိပဿနာ ကမ္မဋ္ဌာန်း မည်သို့ ခြားနား သနည်း။ အချို့သော ပုဂ္ဂိုလ်များသည် တရားအားထုတ်ရန် စိတ်မထိန်းဘဲ ရှုသည်မှာ မှန်ပါသလား။

**အမေး(၃)** ပုဂ္ဂိုလ်တစ်ယောက်သည် (ဥပမာ ဘုန်းကြီး) မိမိအားထုတ်၍ ကိစ္စ ပြီးဆုံးပြီဟု တရားဟောစဉ် ပြောအပ်ပါသလား။





**အမေး(၄)** ဝိပါကာ ဝရဏ ပုဂ္ဂိုလ်၊ ဒွိဟိတ်၊ အဟိတ်ဖြင့် ပဋိသန္ဓေနေသူ၏ အဓိပ္ပာယ်ကို ရှင်းပြပါ။

**အမေး(၅)** တစ်ပတ်စခန်း တရားအားထုတ်၍ အလင်းရောင်များ မပေါ်ဘဲ နှစ်သိမ့်မှု၊ စိတ်အေးချမ်းမှုများ စသည် မကြုံစဖူး ထူးကဲစွာ ဝမ်းသာတက်ကြွလာလျှင် နုသော ဥဒယဗ္ဗယဉာဏ်သို့ ရောက်ရှိပါသလား။

**အမေး(၆)** ယခင်အပတ်မှ ရရှိခဲ့သော ဉာဏ်စဉ် တက်ခြင်းသည် လောကီနယ်ထဲ ရောက်လျှင် ပြန်ကျပါသလား၊

**အမေး(၇)** တရားအားထုတ်နေစဉ်အတွင်းပါရမီ လိုသည်ဟု ဆိုနေကြပါသည်။ တရားအားထုတ်ရန် စိတ်က နှိုးဆော်၍ အားထုတ်နေလေသည်။ ထို့ကြောင့် ပါရမီ မလိုဟု ယူဆပါသည်။ မှန်ပါသလား။

မောင်ကျော်ကျော်
အုန်းတော၊ (၂) ရပ်ကွက်၊
ထနောင်းရိပ်လမ်း၊ တောင်တွင်းကြီးမြို့။

**အဖြေက(၁)**

(က) ကမ္ဘာပေါ်မှာ လူမျိုးပေါင်းများစွာ ရှိပါတယ်။ ဘယ်လူမျိုးရဲ့ ဘာသာစကားကိုမဆို နားလည်တဲ့ ဉာဏ်ကို အတ္ထပဋိသမ္ဘိဒါဉာဏ်လို့ ခေါ်ပါတယ်။

(ခ) ဓမ္မပဋိသမ္ဘိဒါ ဉာဏ်ရှင်က ပြောတဲ့ စကား၊ ဟောတဲ့ တရားကို အမျိုးဓာတ် တူတူမတူတူ ဘာသာတူတူ မတူတူ ကြားရသူအားလုံးတို့ သူ့ဘာသာနဲ့ သူ နားလည်စေနိုင်တဲ့ ဉာဏ်ကို ဓမ္မပဋိသမ္ဘိဒါ ဉာဏ်လို့ ခေါ်ပါတယ်။

(ဂ) သဒ္ဒါတစ်ခု၊ ပုဒ်တစ်ခုကို ကြားလိုက်လျှင် အဲဒီပုဒ်ကို ဝိဂ္ဂြိုဟ်ဝစ နတ်၊ ဓာတ်၊ ပစ္စည်း၊ လိင်၊ ကာရန်၊ ဂိုဏ်း စသည် သဒ္ဒါနည်း စုံလင်စွာဖြင့် ဝေဖန်ခွဲခြမ်း





ပြီး သိနိုင်တဲ့ ဉာဏ်ကို နိရုတ္တိပဋိသမ္ဘိဒါဉာဏ်လို့ ခေါ်ပါတယ်။

(ဃ) ကိုယ်တိုင် သိထားတဲ့ တရားတွေကို သူတစ်ပါး သိစေဖို့ ဝေါဟာရသဒ္ဒါ ပညတ် ပရိယာယ် အမျိုးတို့ဖြင့် စုံလင်စွာ ဟောပြနိုင်တာကို ပဋိဘာန ပဋိသမ္ဘိဒါလို့ ခေါ်ပါတယ်။

သည် ပဋိသမ္ဘိဒါ လေးပါးနဲ့ပြည့်စုံတဲ့ ပုဂ္ဂိုလ်ကို ပဋိသမ္ဘိ ဒါပတ္တ ရဟန္တာ ပုဂ္ဂိုလ်လို့ ဆိုပါတယ်၊ အဲသည် ရဟန္တာမျိုးဟာ သာသနာတော် နှစ် တစ်ထောင်အတွင်းမှာသာ ရှိနိုင်ပါတယ်။ အဲသည် ရဟန္တာပုဂ္ဂိုလ်ဟာ ပိဋကတ်သုံးပုံကို ဘယ်သူ့ထံကမှ သင်မယူရဘဲ အလိုလို တတ်ပါတယ်။ ယခု သာသနာနှစ် နှစ်ထောင့်ငါးရာ (၂၅၀၀) ကျော် လာပြီဖြစ်တော့ ဒီလို ပဋိသမ္ဘိ ဒါပတ္တ ရဟန္တာကြီးမျိုး မရှိနိုင်တော့ပါဘူး။

ဒါကြောင့် ယနေ့ ဘယ်ပုဂ္ဂိုလ်ဟာ ဘာစာမှ မသင်ဖူးဘဲ တရားအားထုတ်လိုက်တာ တရားထူးတွေရပြီး စာတွေ အလိုလို တတ်လာလို့ တရားတွေဟောနေလိုက်တာ နာလို့ကို မဆုံးနိုင်တော့ပါဘူး စသည်ဖြင့် စာလွတ်ပေလွတ် ဗရွတ်

ရှုတ်တ တွေ့ရာလျှောက်ပြောနေကြတာ နားငြီးစရာပင် ဖြစ်တယ်လို့ ပြောလိုက်ချင်ပါတော့တယ်။

အဘိညာဉ်ဆိုတာ အလွန်အကျူး အထူးသိတတ်တဲ့ ရူပါဝစရ ပဉ္စမဈာန် စိတ်နဲ့ ယှဉ်တဲ့ ဉာဏ်ကို ခေါ်ပါတယ်။ ဉာဏ်ဆိုတာ ပညာစေတသိက်ပါပဲ၊ စေတသိက်ဆိုတာ စိတ်နဲ့ ကင်းပြီး ဖြစ်တာ မဟုတ်တော့ အဲဒီ ပဉ္စမဈာန်စိတ်ကိုလည်း အဘိညာဉ်လို့ ခေါ်ပါတယ်။

အဲသည် အဘိညာဉ်ဟာ...

၁။ တစ်ယောက်တည်းက အများဖြစ်အောင်၊ အများက တစ်ယောက်တည်း ဖြစ်အောင် စ,တဲ့ တန်ခိုး အမျိုးမျိုးကို ဖန်ဆင်းနိုင်တဲ့ ဣဒ္ဓိဝိဓ အဘိညာဉ်။

၂။ နတ်တို့၏ သောတပသာဒ (ဝါ) နတ်နားကဲ့သို့ ဝေးတဲ့အသံ၊ တိုးတိုးအသံကို ကြားနိုင်တဲ့ ဒိဗ္ဗသောတ အဘိညာဉ်။

၃။ နတ်မျက်စိကဲ့သို့ ဝေးတဲ့အဆင်း၊ သေးငယ်တဲ့ အဆင်းကို မြင်နိုင်တဲ့ ဒိဗ္ဗစက္ခု အဘိညာဉ်။

၄။ သူတစ်ပါးစိတ်ကို သိနိုင်တဲ့ ပရစိတ္တ ဝိဇာနန အဘိညာဉ်။

၅။ ရှေးရှေးဘဝတွေက ဖြစ်ခဲ့သမျှတွေကို အမှတ်ရတဲ့ ပုဗ္ဗေနိဝါသာနုဿတိ အဘိညာဉ်။





၆။ ကံအားလျော်စွာ ထိုထိုဘုံဘဝ၌ ဖြစ်ရသူများကို မြင်နိုင်တဲ့ ယထာကမ္မူပဂ အဘိညာဉ်။

၇။ နောင် အနာဂတ်ဘဝ၌ဖြစ်လတ္တံ့အကြောင်းအရာတို့ကို သိနိုင်တဲ့ အနာဂတံသ အဘိညာဉ်။

၈။ အာသဝေါ တရားတို့ကို ကုန်ခန်းစေတဲ့ အရဟတ္တမဂ်ဉာဏ်ဆိုတဲ့ အာသဝက္ခယ အဘိညာဉ်လို့ ရှစ်မျိုး ရှိပါတယ်။

ရသမျှ အားလုံးကို ဖော်ပြလိုက်တာ ဖြစ်ပါတယ်။

တစ်နည်း အဘိညာဉ် ၇–ပါး၊ အဘိညာဉ် ၅–ပါး၊ အဘိညာဉ် ၆–ပါးလို့လည်း သုံးပါတယ်။ အဘိညာဉ် ၇–ပါးဆိုလျှင် နောက်ဆုံး အာသဝက္ခယ အဘိညာဉ်ကို နုတ်လိုက်ပါ။ အဘိညာဉ် ၅–ပါးဆိုလျှင် ယထာကမ္မူပဂနှင့် အနာဂတံသ အဘိညာဉ်တို့ကို ဒိဗ္ဗစက္ခုထဲ သွင်းလိုက်လျှင် ၅–ပါး ဖြစ်ပါတယ်။ အဘိညာဉ် ၆–ပါး ဆိုလျှင် ၅–ပါးတွင် အာသဝက္ခယ အဘိညာဉ်ကို ထပ်ထည့်လိုက်ပါ။ ၆–ပါး ဖြစ်သွားပါမည်။

အဘိညာဉ် ခြောက်ပါး အနက် ရှေ့ငါးပါးဟာ လောကီ အဘိညာဉ်ဖြစ်ပြီး နောက်ဆုံး အာသဝက္ခယ အဘိညာဉ်ဟာ လောကုတ္တရာ အဘိညာဉ် ဖြစ်ပါတယ်။

သည်အဘိညာဉ်တွေကို ရူပါဝစရပဉ္စမဈာန်ရတဲ့ ပုဂ္ဂိုလ်များသာ ရနိုင်ပါတယ်။

**အဖြေ(၂)** သမထ ကမ္မဋ္ဌာန်းက ကာမစ္ဆန္ဒ နီဝရဏ အစရှိတဲ့ ကိလေသာများကို ငြိမ်းအေးစေပြီး ဈာန်အဘိညာဉ်ကို ရစေနိုင်ပါတယ်။

ဝိပဿနာ ကမ္မဋ္ဌာန်းက မဂ်ဖိုလ်နိဗ္ဗာန်ကို ရစေနိုင်ပါတယ်။

နည်းနည်း ချဲ့ပြောရလျှင် သမထ ကမ္မဋ္ဌာန်းဟာ ကသိုဏ်း ၁၀-ပါး၊ အသုဘ ၁၀-ပါး စသည်ဖြင့် ၄၀ ရှိပါတယ်။ အဲဒီ ၄၀ ထဲက တစ်မျိုးမျိုးကို ရှုပွားအားထုတ်လို့ ပထမဈာန်ရလျှင် အဲသည် ပထမဈာန်စိတ်က ထကြွသောင်းကျန်းနေတဲ့ နီဝရဏ ကိလေသာ အပူဓာတ်တွေကို ငြိမ်သက်အေး မြစေပါတယ်။

ဒုတိယဈာန် စသည် ရတဲ့အခါကျတော့ ကိလေသာ အပူဓာတ်ကို ငြိမ်းသတ်ဖို့ မလိုတော့တဲ့အတွက် ပထမဈာန် စသည်မှာ ပါတဲ့ ဝိတက်၊ ဝိစာရ၊ ပီတိ အစရှိတဲ့ ရုန့်ရင်းတဲ့ ဈာန်အင်္ဂါတွေကို အဆင့်ဆင့် ပယ်သွားပါတယ်။ သည်လို ပယ်တာကိုပဲ ငြိမ်းစေတတ်တယ်လို့ ဆိုပါတယ်။ သမထ-ငြိမ်းစေတယ်ဆိုတဲ့ သဘောကလေး ထင်ရှားပေါ်လွင်ရုံမျှ ဖော်ပြလိုက်ပါတယ်။

ရုပ်နာမ် နှစ်ရပ် ပေါင်းစပ်နေတဲ့ သဝိညာဏက အထည်ကိုယ်ခြုပ်ကို လူကောင်၊ နတ်ကောင်၊ ဗြဟ္မာကောင်၊ သတ္တဝါကောင် စသည်ဖြင့် လည်းကောင်း၊ ယောကျ်ား၊





မိန်းမ၊ ဆင်၊ မြင်း၊ ကျွဲ၊ နွား စသည်ဖြင့် လည်းကောင်း၊ ရုပ်ကလာပ်တွေ စုပေါင်း တွေခဲနေတဲ့ အရာဝတ္ထုကို အိမ်၊ ကျောင်း သစ်ပင် စသည်ဖြင့်လည်းကောင်း၊ နိစ္စ၊ သုခ၊ သုဘ၊ အတ္တ စသည်ဖြင့် လည်းကောင်း၊ ရှိးရာ ထင်မှတ်နေမှုမှ ထူးခြားပြီး ရုပ်ပဲ၊ နာမ်ပဲ၊ အနိစ္စ ဒုက္ခ အနတ္တ အသုဘပဲလို့ ရှုမှတ် ပွားများမှုကို ဝိပဿနာ ကမ္မဋ္ဌာန်းလို့ ခေါ်ပါတယ်။ အဲသည် ဝိပဿနာ ကမ္မဋ္ဌာန်း အောင်မြင်ပေါက်မြောက်လျှင် မဂ် ဖိုလ် နိဗ္ဗာန်ကို ရပါတယ်။ အဲဒါ ထူးခြားချက်ပါပဲ။



တရားရိပ်သာတွေကို သွား တရားအားထုတ်ပြီး ဘဝင်မြင့်သူ စိတ်ကူးယဉ်သူ စိတ်ဂယောင်ချောက်ချား ဖြစ်သူ တချို့ကို မြင်ရလို့ မေးတာနဲ့ တူပါတယ်။ သည်လိုစိတ်ကူးယဉ် စိတ်ချောက်ချား သွားတာကိုပဲ ရူးတယ်လို့ ပြောတာ ဖြစ်ပါလိမ့်မယ်။

သည်လို ဖြစ်တာဟာ တရားအားထုတ်စ သမာဓိ မရသေးခင်မှာ စိတ်ဟာ ပင်မရှုကွက် အာရုံက လွတ်ထွက်သွားပြီး တခြားအာရုံ တစ်ခုခုပေါ် ရောက်သွားတဲ့အခါ ငါ့စိတ်ဟာ လွတ်ထွက်သွားပါလားလို့ သတိထားပြီး အဲဒီ အာရုံကို မြင်လျှင် မြင်တယ်၊ ကြားလျှင် ကြားတယ် စသည်ဖြင့် မရှုမှတ်ဘဲ မြင်နေကြားနေတဲ့အတိုင်း စိတ်ကို လွှတ်ထား၊ ဆက်လက်စဉ်းစား တွေးတောနေတဲ့အခါ အဲသည် အာရုံတွေဟာ ပိုမိုထင်ရှားလာပါတယ်။ စိတ်ထဲမှာ တစ္ဆေသရဲပုံ ထင်

လာရာက တကယ်တွေ့ရသလို ဖြစ်ပြီး ထ,အော်လို အော်၊ ဘုရား ရဟန္တာတွေ ဖူးရတယ် ထင်လာလိုထင်လာ၊ ဘိုးဘိုးအောင်တို့ကို မြင်လိုမြင်၊ ကွယ်လွန်သွားတဲ့ သူတွေနဲ့ တွေ့ရလိုတွေ့ရ၊ အဲသည် ပုဂ္ဂိုလ်တွေကပဲ သူ့ကို စကားလာ ပြောတာကို ကြားလိုကြား စသည်ဖြင့် ထင်လာပြီး ဘဝင်မြင့် စိတ်ကူးယဉ် နေတတ်တာလည်း ရှိပါတယ်။

မကြာမီ ရိပ်သာ တစ်ခုမှာ တရားဝင်ပြီး အဲသည်လို ဖြစ်လာတဲ့ အမျိုးသမီးငယ် တစ်ဦး သူ့မိဘများက ခေါ်လာ၊ ပရိတ်ကမ္ဘဝါ ရွတ်ဖတ်ပေးပါရန် ပြောဆိုသဖြင့် ရွတ်ဖတ်ပေးလိုက်ရပါသေးတယ်။ သူ့မိဘများကတော့ အနှောင့်အယှက် ရှိတယ်လို့ ဆရာတစ်ယောက်က ပြောလိုက်တယ်လို့ ပြောပါတယ်။ ဆရာဝန် ပြကြည့်တော့ ဘဝင်မြင့်နေတယ် ပြောပြီး စိတ်ငြိမ်ဆေး ပေးလိုက်လို့ စားတာ သက်သာပါတယ် ပြောပါတယ်။

သည်လို ဖြစ်တာဟာ တရားအားထုတ်လို့ ဖြစ်တာ မဟုတ်ပါဘူး။ တရားအားထုတ်စဉ် စိတ်ဟာ ပင်မရှုကွက်က လွတ်ထွက်သွားလျှင် လွတ်ထွက်သွားမှန်း သိအောင် သတိထားပြီး ဘယ်လို ရှုရမယ်ဆိုတာ ကြိုတင်သိမထားလို့ ဖြစ်စေ၊ ကြိုတင် သတိထားစေကာမူ စိတ်လွတ်ထွက်သွားတာ မသိလို့ ဖြစ်စေ၊ ဒီလို မလိုလားအပ်တဲ့ ဆိုးကျိုးတွေ ဖြစ်တာပါပဲ၊ တချို့ တကယ့်ကို ရူးသွားတာ တွေ့ရပါတယ်။





တရားအားထုတ်လျှင် မရူးရပါဘူး၊ အရူးပျောက်ရမှာပါ။ ပဋာစာရီထေရီဟာ တရား မနာရခင်မှာ ကိုယ်မှာ အဝတ်မကပ်တဲ့အထိ သွက်သွက်လည် ရူးနေရာက ဘုရားရှင်နဲ့ တွေ့ပြီး တရားနာရလို့ ရှုမှတ်လိုက်တာ တစ်ထိုင်တည်းနဲ့ အရူးပျောက်ပြီး သောတာပန်မကြီး၊ နောက် ဧတဒဂ်ရ ရဟန္တာမကြီး ဖြစ်သွားတယ် မဟုတ်ပါလား။ ဒါကြောင့် တရားအားထုတ်လို့ ရူးတယ်ဆိုတာ မဟုတ်ဘူးလို့ မှတ်ပါ။

တရားအားထုတ်တဲ့ နေရာမှာ ဆရာကောင်းကို အထူးလိုအပ်တယ် ဆိုတာကို ပြောကြားလိုက်ပါရစေ။

**အဖြေ(၃)**

အရိုး ကြေကြေ အရေ စုတ်စုတ် တကယ့် ဇွဲလုံ့လနဲ့ တရားအား ထုတ်နေတဲ့ ပုဂ္ဂိုလ် တစ်ဦး တစ်ယောက်က သူ တကယ် ဈာန်မဂ်ဖိုလ် ရတယ်ထင်တဲ့ အတွက် "တရားအားထုတ်၍ ကိစ္စပြီးပြီ" လို့ ပြောလျှင် တစ်စုံတစ်ရာ အပြစ်မရှိပါဘူး။

သည်လိုမဟုတ်ဘဲ မရိုးသားတဲ့ စိတ်ထားနဲ့ တကယ် တရားအားထုတ်တာလည်း မဟုတ်၊ တကယ် ကိစ္စပြီးတာလည်း မဟုတ်ဘဲနဲ့ အဲသည်လို ပြောလျှင်တော့ အပြစ်ရှိပါတယ်။ ရဟန်းဆိုလျှင် ပါရာဇိက အာပတ်သင့်ပါတယ်။ ရှင်တော် ဘုရား မလိုလားဆုံးသော ပြစ်မှုကို ကျူးလွန်သူ ဖြစ်ပါတယ်။

**အဖြေ(၄)** နပုံးပဏ္ဏုက် တိရစ္ဆာန် ဥဘော ဗျည်းတို့ဟာ ပဋိသန္ဓေ နေစဉ်က သူတို့ရဲ့ ပဋိသန္ဓေ၊ ပဋိသန္ဓေ ဝိပါက်စိတ်မှာ အလောဘ၊ အဒေါသ၊ အမောဟဆိုတဲ့ ဟိတ်တွေ မပါတဲ့အတွက် သူတို့တတွေဟာ လက်ရှိဘဝမှာ ဈာန် မဂ်ဖိုလ်ကို မရနိုင်ပါဘူး။ အထူးသဖြင့်ကတော့ အမောဟဟိတ်ဆိုတဲ့ ပညာပါမလာတဲ့အတွက်ပဲ ဖြစ်ပါတယ်။ အဲသည် ဟိတ်တွေ ပါမလာခြင်းသည်ပင် သူတို့ (နပုံးပဏ္ဏုက် စသည်တို့) ဈာန်မဂ်ဖိုလ်မရအောင် တားမြစ်ထားရာ အတားမြစ်ခံရရာ ရောက်နေတဲ့အတွက် သူတို့ကို ဝိပါကာဝရဏပုဂ္ဂိုလ်များလို့ ဆိုရတာ ဖြစ်ပါတယ်။

အပါယ်ဘုံသား၊ အချို့လူများ၊ စာတုမဟာရာဇ်နတ်အချို့ရဲ့ ပဋိသန္ဓေစိတ်မှာ အလောဘ၊ အဒေါသဆိုတဲ့ ဟိတ်နှစ်မျိုးသာ ပါပါတယ်။ သူတို့ကို ဒွိဟိတ်ဖြင့် ပဋိသန္ဓေနေသူများလို့ ဆိုရပါတယ်။

အပါယ်ဘုံသား၊ နပုံးပဏ္ဏုက်၊ ဥဘတောဗျည်း စတဲ့ အချို့လူများရဲ့ ပဋိသန္ဓေစိတ်မှာ အလောဘ၊ အဒေါသ၊ အမောဟဆိုတဲ့ ကုသိုလ်ဟိတ် သုံးပါးလုံး မပါပါဘူး။ သူတို့ကို အဟိတ်ဖြင့် ပဋိသန္ဓေ နေသူများလို့ ဆိုရပါတယ်။

**အဖြေ(၅)** တစ်ပတ်အတွင်း တရားအားထုတ်၍ အလင်းရောင် မပေါ်ဘဲ နှစ်





သိမ့်မှု၊ စိတ်အေးချမ်းမှု စသည့် မကြုံစဖူး ထူးကဲစွာ ဝမ်းသာတက်ကြွလာလျှင် နသော ဥဒယဗ္ဗယဉာဏ်သို့ ရောက်ရှိပါသလား။

သည်မေးခွန်း ကြည့်ရတာ မေးခွန်းရှင်အနေနဲ့ ဥဒယဗ္ဗယဉာဏ် အဆင့်ရောက်လျှင် မုချ ထင်ထင်ရှားရှား အလင်းရောင်များ ပေါ်လာမယ်လို့ မှတ်ထင်ထားပုံ ရပါတယ်။

သည်လို မဟုတ်ပါဘူး။ ဥဒယဗ္ဗယဉာဏ် ရောက်လျှင် ဩဘာသ–အလင်းရောင် အပါအဝင် ဝိပဿနာ ညစ်ညူးကြောင်း တရား ၁၀–မျိုး ဖြစ်ပေါ်လာတတ်ပါတယ်။ သည်အလင်းရောင်ဆိုတာ ရုပ်, နာမ်တို့ရဲ့ ဖြစ်ပျက်မှုကို ရှုတဲ့အခါရှင်း လင်းပြတ်သားစွာ ထင်ရှားစွာ သိမြင်ရတဲ့အတွက် အထူးတည် ငြိမ်ပြီး ကြည်လင်တဲ့ စိတ်ကြောင့် ထွက်ပေါ်လာတဲ့ ကိုယ်ရောင် ကိုယ်ဝါပါပဲ။ သည်အရောင် အဝါဟာ ဉာဏ်ထက်လျှင် ထက်သလောက် အထက်ဖြပ်ဟွာပြည် ရောက်အောင် တောက်ပ ထိန်လင်းပါတယ်။ ဉာဏ်နုံ့လျှင်လည်း နုံ့သလောက်၊ ရုပ်ကြည်လင်ရုံမျှ ကြည်၊ အပြင်ဝန်းကျင် ထွက်လောက်လောက်အောင် မထင်ရှားတဲ့ ဩဘာသ–ကိုယ်ရောင်မျိုးလောက်သာ ဖြစ်မှာပါ။

သည်တော့ အလင်းရောင် ထင်ထင်ရှားရှား ဖြစ်ပေါ်လာဘဲ ရုပ်နာမ်တို့ရဲ့ ဖြစ်ပျက်ကို ရှုတဲ့အခါ ဘယ်လို ငြိမ်သိမ့် ချမ်းသာမှုမျိုးနဲ့မှ မတူဘဲ ထူးထူးကဲကဲ နှစ်သိမ့်ချမ်းသာ

မှမျိုး ဖြစ်ပေါ်လာလျှင် ဥဒယဗ္ဗယဉာဏ် အဆင့် ရောက်တယ်လို့ ဆိုနိုင်စရာ ရှိပါလိမ့်မယ်။

**အဖြေ(၆)** ၆ နံပါတ် မေးခွန်းကတော့ ဘာကို ဆိုလိုတယ်ဆိုတာ စဉ်းစားလို့ မရတာနဲ့ ဌပနီယပဥှာ အဖြေမပေးဘဲ ထားရမယ့် မေးခွန်းပဲလို့ နှလုံးသွင်းပြီး မဖြေဘဲ ထားလိုက်ပါတယ်။

**အဖြေ(၇)** သည် မေးခွန်းကို ဖြေဆိုရလျှင် ပါရမီဆိုတာ ဘာကို ခေါ်တယ်ဆိုတာ ပထမ ပြောပြမှ ဖြစ်မှာမို့ ပြောပြရလျှင် ပါရမီဆိုတာ သံသရာ တစ်ဖက်ကမ်း နိဗ္ဗာန်နန်းသို့ တက်လှမ်း ဝင်ရောက်စေနိုင်တဲ့ တရား(ဝါ) စိတ်ဓာတ်မြင့်မား အထက်တန်းစား ပုဂ္ဂိုလ်ကြီးများ လက်ကိုင်ထားကျင့်သုံးတဲ့ တရားများပဲ ဖြစ်ပါတယ်။ အဲသည် ပါရမီဟာ...

၁။ ဒါန–စွန့်ကြဲပေးကမ်း လှူဒါန်းမှု၊

၂။ သီလ– ၅ ပါး၊ ၈ ပါး၊ ၁၀ ပါး စသည်နှင့် ပြည့်စုံမှု၊

၃။ နေက္ခမ္မ–တောထွက်မှု၊ တရားကျင့်သုံးမှု၊ ကာမဂုဏ်တို့မှ ထွက်မြောက်မှု၊





၄။ ပညာ–အသိဉာဏ်ပညာ ထက်မြက်ကြီးထွား မြင့်မားမှု၊ မြင့်မားအောင် ပြုလုပ်မှု၊

၅။ ဝီရိယ–အရာရာ၌ ဖွဲ့၊ သတ္တိ၊ ဝီရိယ၊ တက်ကြွမှု ရှိခြင်း၊

၆။ ခန္တီ–စားဝတ်နေမှု အစုစုနှင့် ဆန့်ကျင့်ဘက် အရာတို့၌ သည်းခံခွင့်လွှတ်မှု၊

၇။ သစ္စာ–တော်ဖြောင့်မှန်ကန်မှု၊

၈။ အဓိဋ္ဌာန–မိမိလိုအပ်သော ဆုနှင့် တစ်ခုခုသော အရာ၌ စွဲစွဲမြဲမြဲ ခိုင်ခိုင်မာမာ ရပ်တည်မှု၊

၉။ မေတ္တာ–သူတစ်ပါး၏ အကျိုးစီးပွားကို စိတ်ဖြင့် လိုလားခြင်း၊ နှုတ်ဖြင့် ပြောဆိုခြင်း၊ ကိုယ်ဖြင့် ကာယကံမြောက် ဆောင်ရွက်ခြင်း၊

၁၀။ ဥပေက္ခာ–မမုန်း မချစ် လျစ်လျူရှုခြင်း(ဝါ) သူ့ကံအလျောက် သူဖြစ်တာပဲဟု နှလုံးသွင်းကာ ဝမ်းသာဝမ်းနည်းမှု မရှိခြင်းလို့ (၁၀) မျိုး ရှိပါတယ်။

ဒါတွေကို ကြည့်လျှင် တရားအားထုတ်နေဆဲ ပုဂ္ဂိုလ်ဟာ သန္တာန်မှာ ဒါနမှတစ်ပါး အခြား ပါရမီ (၉) ပါးလုံး ပြည့်စုံနေတာ ဖြစ်တော့ တရားအားထုတ်နေသူဟာ ပါရမီပြည့်နေတဲ့

ပုဂ္ဂိုလ်ဖြစ်တာမို့ ပါရမီ အထူးဖြည့်နေစရာ မလိုတော့ပါဘူး။ ပါရမီ လိုတယ်လို့ ပြောစရာ မလိုပါဘူး။

တစ်ခုတော့ ရှိတယ်။ တရားအားထုတ်တဲ့ ပုဂ္ဂိုလ် ယခုဘဝ မဂ်ဖိုလ်ရရှိရေးအတွက် ဆိုလျှင်တော့ နောက်ဘဝက ပြုလုပ်ခဲ့တဲ့ ပါရမီ ကုသိုလ်ရှိဖို့ လိုအပ်ပါတယ်။ အဲသည် ပုဗ္ဗေစကတပုည ဆိုတဲ့ ပါရမီကုသိုလ် မရှိလျှင် ဘယ်လိုပဲ တရားအားထုတ်အားထုတ် သည်ဘဝ မဂ်ဖိုလ် မရနိုင်ပါ ဘူး။ ဒါကြောင့် တရားအားထုတ်သူ သည်ဘဝ မဂ်ဖိုလ်ရရှိရေး ကို ရည်ရွယ်လျှင်တော့ ပါရမီ လိုအပ်တယ်ဆိုတဲ့ စကားဟာ မှန်တယ်လို့ ဆိုရမှာဖြစ်တယ်လို့ ဖြေကြားလိုက်ပါတယ်။



## မေးခွန်း (၂၄)

**အမေး(၁)** ကျွန်တော်တို့ မြို့ရွာမှာသော်လည်း ကောင်း၊ အနယ်နယ် အရပ်ရပ်မှာ သော် လည်းကောင်း၊ အပြောများ၊ အဆိုများ၊ အကိုးကွယ် များနေသော ပိဋကမယ်တော် ခေါ် သူရဿတီသည် ပိဋကတ် သုံးပုံကို စောင့်တယ်ဆိုတာ မှန်ပါသလား။

**အမေး(၂)** ပိဋက သုံးပုံကို မပျောက်ပျက် မကွယ်ပအောင် စောင့်ရှောက်သော ပုဂ္ဂိုလ်သည် မည်သည့်ပုဂ္ဂိုလ် ဖြစ်ပါသနည်း။

**အမေး(၃)** သူရဿတီနောက်ကြောင်း ရာဇဝင် (သို့မဟုတ်) အမျိုးအနွယ်ဆိုင်း သက်လာပုံကို ပြည်သူအများ ယုံမှားသံသယမရှိ အားလုံး

သန္တာန်အမြင်မှန်ရအောင် ဥပမာ–ဥပမေယျဖြင့် အဖြေပေး စေလိုပါသည် ဆရာခင်ဗျား။

မောင်သူရိယ
ဘုရားကြီးကျေးရွာ၊တွံတေးမြို့နယ်။

**အဖြေ(၁)** သူရဿတီဒေဝီက ပိဋကသုံးပုံကို စောင့်ရှောက်တယ်ဆိုတာ မမှန်ပါ။

**အဖြေ(၂)** ပိဋကသုံးပုံကို မကွယ်မပျောက် မပျက်မစီးအောင် တကယ် စောင့်ရှောက်တာက ရှင်တော်ဘုရား ပရိနိဗ္ဗာန် စံတော်မူပြီးချိန်က စပြီး ယနေ့တိုင်အောင် အရှင်မဟာကဿပ စသော မထေရ်မြတ်ကြီးများကစပြီး ယနေ့ ရှိကြတဲ့ သံဃာတော်မြတ်များ သာ ဖြစ်ပါတယ်။

ဒါကို နည်းနည်း ဆက်ပြောရလျှင် ရှင်တော်ဘုရား ပရိနိဗ္ဗာန် စံတော်မူပြီးနောက် လေးလမြောက်တဲ့ အချိန်မှာ ရှင်တော် ဟောကြား ပိဋကတော်များကို အရှင်မဟာကဿပ ကိုယ်တော်မြတ်ကြီး အမှူးရှိတဲ့ ပဋိသမ္ဘိဒါပတ္တ ရဟန္တာ အရှင်မြတ်ကြီး ငါးရာတို့ဟာ ရာဇဂြိုဟ်ပြည် ဝေဘာရ တောင်နံပါး စရည်းပင်ရှိတဲ့ လိုဏ်ဂူ တံခါးဝ ရင်ပြင်မှာ စုပေါင်းရွတ်ကာ သင်္ဂါယနာ တင်တော်မူကြပါတယ်။

ဒုတိယအကြိမ်



သည့်လို သင်္ဂါယနာ တင်တော်မူပြီးတဲ့ နောက် သံဃာတော်အရှင်မြတ်ကြီးများက အရှင် ဥပါလိမထေရ်ကို "ငါ့ရှင် ဥပါလိ၊ ဝိနည်းပိဋကတော်ကို ငါ့ရှင်ရဲ့ တပည့်များကို သင် ကြားပို့ချပေးပါ" လို့ တာဝန်ပေး အပ်နှံလိုက်ပါတယ်။

သုတ္တန် ပိဋကထဲမှာ ပါတဲ့ ဒီဃနိကာယ်ကို အရှင် အာနန္ဒာမထေရ်အား တာဝန်ပေး အပ်နှံလိုက်ပါတယ်။

မဇ္ဈိမနိကာယ်ကို ဓမ္မသေနာပတိ အရှင် သာရိပုတ္တရာ ကိုယ်တော်မြတ်ရဲ့ တပည့် ရဟန်းတော်များကို တာဝန်ပေး အပ်နှံလိုက်ပါတယ်။ (သင်္ဂါယနာတင်ချိန်မှာ အရှင်သာရိပုတ္တရာ ကိုယ်တော်မြတ်ကြီးဟာ ပရိနိဗ္ဗာန်ဝင်စံတော် မူသွားပြီး ဖြစ်ပါတယ်။)

သံယုတ္တနိကာယ်ကို ရှင်မဟာကဿပ ကိုယ်တော် မြတ်ကြီးကို တာဝန်ပေး အပ်နှံလိုက်ပါတယ်။

အင်္ဂုတ္တရနိကာယ်ကို အနုရုဒ္ဓါ ကိုယ်တော်မြတ်ကြီးကို တာဝန်ပေးအပ်နှံလိုက်ပါတယ်။

အဘိဓမ္မ ပိဋကနဲ့ သုတ္တန္တပိဋကထဲမှာပါတဲ့ ခုဒ္ဒကပါဌ၊ ဓမ္မပဒ၊ ဥဒါန အစရှိတဲ့ ခုဒ္ဒကနိကာယ် တစ်ဆယ့်ငါးကျမ်းကိုတော့ ဘယ်ကိုယ်တော်မြတ်ကြီးကို သီးခြားတာဝန်ပေးတယ်လို့ မဆိုဘဲ ရဟန္တာအရှင်မြတ်ကြီးများ စုပေါင်းရွတ်ကာ သင်္ဂါယနာ တင်တော်မူကြတယ်လို့ ဆိုပါတယ်။ အားလုံး စုပေါင်း တာဝန်ယူကြတဲ့ သဘောပါပဲ။

ဒုတိယအကြိမ်

အခုပြောခဲ့တဲ့ အတိုင်း အရှင်မဟာကဿပ စတဲ့ ရဟန္တာ မထေရ်မြတ်ကြီးတွေက စပြီး ယနေ့ ရှိနေကြတဲ့ သံဃာတော် အရှင်မြတ်များဟာ ပိဋကတော်တွေ ကွယ်ပျောက် ပျက်စီး မသွားရလေအောင် သင်ကြားပို့ချခြင်း၊ နှုတ်ယူမှတ်သားခြင်း၊ နှုတ်တက်အာဂုံဆောင်ထားခြင်း၊ ကြံစည်စဉ်းစားခြင်း၊ ဆွေးနွေးမေးမြန်းခြင်း စသည်တို့ဖြင့် စောင့်ရှောက်လာခဲ့ကြ၊ စောင့်ရှောက်တော်မူနေကြတာ ဖြစ်ပါတယ်။

သူရဿတီ မယ်တော် ဆိုတာ (တကယ်ရှိလျှင် တောင်မှ) သဗ္ဗညုတဉာဏ်သခင် ရှင်တော်မြတ်ဘုရားရဲ့ သည်ပိဋကတော်ကြီးများကို အခုလို စောင့်ရှောက်မထားနိုင် ပါဘူး။ သူ စွမ်းဆောင်နိုင်တဲ့ အရာလည်း မဟုတ်ပါဘူး၊ ဒါကြောင့် သူရဿတီဒေဝီက ပိဋကတော်ကို စောင့်ရှောက် တယ်ဆိုတာ လုံးဝ မဟုတ်ပါဘူးလို့ တစ်ထစ်ချမှတ်ဖို့ပဲ ရှိပါတော့တယ်။

**အဖြေ(၃)** သူရဿတီ မယ်တော်အကြောင်းနဲ့ ပတ်သက်လို့ ပြောရလျှင်ထေရဝါဒ ပိဋကတော် ဘယ်နေရာမှာမှ သူရဿတီဒေဝီ အကြောင်းပါတာ မတွေ့ရပါဘူး။ စကား(ဝါ) စာပေတို့ရဲ့ အဆင်တန်ဆာကို ပြဆိုရာဖြစ်တဲ့ သုဗောဓာလင်္ကာရခေါ် အလင်္ကာကျမ်းရဲ့ ကျမ်းဦးအစ ပဏာမမှာ ဘုရားရှင်၏ စကားတော်လို့လည်း





အဓိပ္ပာယ်ရ၊ သူရဿတီဒေဝီလို့လည်း အဓိပ္ပာယ်ရတဲ့ (ဝါဏီ) ဆိုတဲ့ စကားတစ်လုံးသာ ရှားရှားပါးပါး တွေ့ရပါတယ်။

သည်အလင်္ကာကျမ်းဟာ ကာဗျာဒဿဆိုတဲ့ သက္ကတ အလင်္ကာကျမ်းကို မှီပြီးရေးတဲ့ ကျမ်းဖြစ်တဲ့အတွက် ကာဗျာဒဿ ကျမ်းမှာ သူရဿတီနတ်ဒေဝီကို တ,သ တိုင်တည်ပြီး ပဏာမပြုတာနဲ့ လိုက်လျောညီထွေရှိအောင် (ဝါဏီ) ဆိုတဲ့ နှစ်ဖက်ရ စကားလုံးကို ကျမ်းဆရာက သုံးလိုက်တာပါပဲ။

ဟိန္ဒူ ဗြာဟ္မဏ အယူဝါဒအရ သူရဿတီနတ်ဒေဝီ ဟာ အပြောကောင်းတဲ့ နတ်သမီးလို့ အယူရှိကြပြီး ကဗျာဖွဲ့စီ ရာမှာ အထူး တ,သ တိုင်တည်လေ့ ရှိကြပါတယ်။

မာဂဓ အဘိဓာန်ကျမ်းမှာ သူရဿတီနတ်သမီးဟော သဒ္ဒါ(ဝါ) သူရဿတီနတ်သမီး မရှိပါဘူး။ အမရကောသ စတဲ့ သက္ကတ အဘိဓာန် ကျမ်းများမှာသာ ရှိပါတယ်။ မာဂဓအဘိဓာန်မှာပါတဲ့ (ဝါဏီ) သဒ္ဒါဟာ စကားဆိုတဲ့ အနက်ဟော အနေနဲ့သာ ပါတာပါ။ အမရကောသ အဘိဓာန် မှာသာ (ဝါဏီ) သဒ္ဒါကို စကား၊ သူရဿတီ နတ်ဒေဝီ နှစ်နက်ဟော အနေနဲ့ ဆိုပါတယ်။

ဟိန္ဒူဗြာဟ္မဏတို့မှာ မဟာဗြဟ္မာ၊ ဗိဿနိုး၊ သိဝလို့ ဘုရားသုံးဆူ ရှိပါတယ်။ မဟာဗြဟ္မာရဲ့ ကြင်ရာတော်ဟာ သက္ကတလို သရသွတီ၊ ပါဠိ-မာဂဓလို သရဿတီ ဖြစ်ပါ တယ်။ သာယာချိုအေးတဲ့ စကားသံရှိသူ၊ အပြောကောင်းသူလို့

အမိပ္ပာယ်ရပါတယ်။ ဒါကို မြန်မာတွေက သူရဿတီမယ်တော် လို့ ခေါ်နေကြတာ ဖြစ်ပါတယ်။

သည်တော့ သူရဿတီမယ်တော် ဆိုတာ ပင်ရင်းက ဟိန္ဒူ ဗြာဟ္မဏာတို့ရဲ့ နတ်သမီးဖြစ်ပြီး နောင်အခါ တစ်နည်းနည်းနဲ့ ဗုဒ္ဓယဉ်ကျေးမှုထဲ ဝင်ရောက်လာကာ ဆန်းဆန်းပြားပြား ကြိုဆိုလက်ခံတတ်၊ နတ်ဆို တအားပုံ ယုံတတ်တဲ့ မြန်မာတို့ရဲ့ အလေ့ဝါသနာ အတိုင်း မြန်မာတို့ရဲ့ မယ်တော် နတ်သမီး ဖြစ်လာပြီး...

ပိဋကတ္တယ သမ္ဘုဏ္ဏံ၊ သဗ္ဗသိဒ္ဓိ သုခါဝဟံ

ဇိဝှဂ္ဂေ မေ နိသီဒိတွာ၊ မံ မာရေတု သူရဿတီ...

ဘာဘာညာညာဆိုပြီး ကိုးကွယ် တ,သနေကြတာ ဖြစ်ပါတယ် လို့သာ ပြောလိုက်ရပါတယ်။

သူရဿတီရဲ့ နောက်ကြောင်း ရာဇဝင်၊ အမျိုးအနွယ် ဆင်းသက်လာပုံ စသည်တွေကိုတော့ ရေရေရာရာ ရှာမရတဲ့ အတွက် ပြောမပြနိုင်ပါဘူး။ သိရလို့လည်း တစ်စုံတစ်ရာ အကျိုးရှိစရာ မမြင်တဲ့အတွက် ဆက်လက်ဖွေရှာ သုတေသန လုပ်စရာ မလိုအပ်ပါဘူးလို့ ထင်ပါတယ်လို့ပဲ ဖြေကြားလိုက်ပါတယ်။



## မေးခွန်း (၂၅)

**အမေး(၁)** ရှစ်ပါးသီလ၊ ကိုးပါးသီလ၊ ဆယ်ပါးသီလ ဆောက်တည်ပြီး မွန်းတည့် (၁၂) နာရီကျော် မွန်းလွဲအချိန်တွင် လက်ဖက်ခြောက်ခပ် ထားသော ရေနွေးပူ၊ ရေနွေးကြမ်းသောက်လျှင် အပြစ် ရှိ၊ မရှိ။

**အမေး(၂)** ဘုန်းတော်ကြီးများနှင့် ဘုရားအား ရှိခိုးဝတ်ပြုစဉ် ခေါင်းပေါ်တွင် ဘဘက်ပေါင်းခြင်း၊ ကက်ဦးထုပ် စွပ်ထားခြင်း၊ ခေါင်းရှုပ် ငုပ်ထားခြင်းသည် အပြစ် ရှိ–မရှိ။

**အမေး(၃)** ဘုန်းတော်ကြီးကျောင်းဝင်းအတွင်း ဖွင့်လှစ်ထားသော (၁၀) ရက် ဝိပဿနာ အလုပ်ပေးစခန်း စသည်တို့တွင် ကျောင်းပိုင်ဘုန်းတော်ကြီးမှ လှူပုဂ္ဂိုလ်စခန်းဝင် ယောဂီများအား ဖိနပ်စီးခွင့် ပြုသည်ကို စီးလျှင် အပြစ် ရှိ–မရှိတို့ကို ဆရာတော်ဖြေဆိုပေးပါရန် ခြေတော်ဦးခိုက် လေးစားစွာ လျှောက်ထားအပ်ပါသည်။ ဆရာတော် အရှင်သူမြတ်ဘုရား။

**အမေး(၄)** ဘုန်းတော်ကြီးကျောင်းဝင်းအတွင်း စက်ဘီးစီးခြင်း (ဖိနပ်မပါ)၊ မော်တော်ကား စီးခြင်းသည် အပြစ် ရှိ–မရှိ။

**အမေး(၅)** ဘုန်းတော်ကြီးကျောင်းဝင်းအတွင်း ရှင်လောင်းများ မြင်းစီး၍ ရွှေထီးဆောင်းကာ လှည့်လည်ခြင်းသည် အပြစ် ရှိ–မရှိ။

ဦးသိန်းမောင်(အငြိမ်းစား ကျောင်းအုပ်)
အမှတ်(၁၃၀၂)၊ စိတ္တသုခလမ်း၊
ပေါက်တော၊ အင်းစိန်မြို့နယ်။

**အဖြေ(၁)** ရှစ်ပါး၊ ကိုးပါး၊ ဆယ်ပါးသီလ ဆောက်တည်ထားတဲ့ ပုဂ္ဂိုလ်များ





နေလွဲသွားတဲ့ အခါ မစားကောင်းတဲ့ အစားအစာများဟာ အစာ အာဟာရအဖြစ် အသုံးပြုတဲ့ ထမင်းဟင်း၊ မုန့်ပဲသွားရည်စာ၊ ဥတ္တရိဘင် ခေါ်တဲ့ ရောက်သီးသုပ်၊ မြင်းခွာရွက်သုပ်၊ သခွားသီးသုပ်၊ ချင်း(ဂျင်းသုပ်၊ လက်ဖက်သုပ်)၊ ကော်ဖီ၊ လက်ဖက်ရည် အချို့ စသည်များ ဖြစ်ပါတယ်။ ဒါကို လူအတော်များများ သိပြီး ဖြစ်ပါတယ်။

လက်ဖက်ရည်ကြမ်းမှာ ပါတဲ့ လက်ဖက်ခြောက်ဟာ လက်ဖက်သုပ်မှာပါတဲ့ လက်ဖက်ရွက် အစိုရဲ့ အခြောက်ပဲ ဖြစ်ပါတယ်။ လက်ဖက်ရွက်ဟာ အာဟာရအဖြစ် အသုံးပြုရတဲ့ အရွက်မျိုး၊ အာဟာရ ကိစ္စကို ပြီးစေတဲ့ အရွက်မျိုး ဖြစ်တာကြောင့် ဥပုသ်သည်များနဲ့တကွ ရှင်ရဟန်းများ မွန်းလွဲချိန်မှာ လက်ဖက်ရည်ကြမ်း မသောက်ကောင်းဘူးလို့ အယူရှိကြပါတယ်။

ဒါပေမယ့် တချို့ ပုဂ္ဂိုလ်များကတော့ လက်ဖက်ရည်ကြမ်းဟာ တကယ် အာဟာရ ကိစ္စကို ပြီးစေနိုင်တာ မဟုတ်ဘဲ ယာဝဇီဝိက–ရဟန်းတော်များ တစ်ခါ အကပ်ခံထားပြီးလျှင် နောက်ထပ် အကပ်ခံဖို့မလိုတော့ဘဲ တစ်သက်လုံး အချိန်မရွေး အသုံးပြုနိုင်တဲ့ နနွင်း၊ ချင်း၊ ကြက်သွန်ဖြူ၊ လင်းလေ၊ ဆိတ်ဖူး စသည်များနဲ့ သဘောတူတဲ့ အရွက်ရဲ့ အရည်ဖြစ်တဲ့အတွက် မွန်းလွဲချိန်မှာ ဥပုသ်သည်၊ ရှင်၊ ရဟန်းများ လက်ဖက်ရည်ကြမ်း သောက်ကောင်းတယ်လို့ အယူရှိကြပါတယ်။

လက်ဖက်ရည်ကြမ်းကို မွန်းလွဲချိန်မှာ သောက်ကောင်းတယ် မသောက်ကောင်းဘူးလို့တော့ ကျမ်းဂန်များမှာ တိုက်ရိုက် အဆုံးအဖြတ် မရှိပါဘူး။ ဒီလို တိုက်ရိုက် အဆုံးအဖြတ် မရှိတဲ့ နေရာမျိုးမှာ လုပ်ကောင်းတယ်၊ မလုပ်ကောင်းဘူး၊ စားကောင်းတယ်၊ မစားကောင်းဘူး စသည်ဖြင့် အငြင်းပွားလျှင် မလုပ်ကောင်းဘူး၊ မစားကောင်းဘူး ဆိုပြီး ရှောင်ကြဉ်တာဟာ အကောင်းဆုံးပဲ ·(ဝိနယေ သမ္ဗတ္တေ ဂရုက လဟုကေသု ဂရုကေ ယော ဌာတဗ္ဗံ) လို့ အဋ္ဌကထာ ဆရာမြတ် မိန့်မှတ်တော်မူတဲ့အတိုင်း ဥပုသ်သည်များ မွန်းလွဲချိန်မှာ လက်ဖက်ရည်ကြမ်း မသောက်တာ အကောင်းဆုံးပါပဲလို့ ဖြေလိုက်ပါတယ်။

**အဖြေ(၂)**

ယနေ့ ကျောင်းကန်ဘုရား၊ ဆရာသမားများထံ သွားကြလျှင် (ရှင်ပြု၊ ရဟန်းခံ၊ အလှူအတန်း ပွဲလမ်းသဘင် သွားတာမျိုးကို မဆိုလိုပါ၊) အများအားဖြင့် တောက်တောက်ပြောင်ပြောင် အဝတ်အစား အဆောင်အယောင်တွေ မဝတ်၊ မဆင် ရိုးရိုး ယဉ်ယဉ် ဝတ်စားသွားလေ့ ရှိကြပါတယ်။ ဒါဟာ ရတနာသုံးပါး၊ ဆရာသမားများကို ရိုသေလေးစား ငါဆိုတဲ့ မာန်မာနအတ္တဖွဲ့ မထားတဲ့ သဘောကို ဖော်ပြတာ ဖြစ်ပါတယ်။

ခေါင်းပေါင်းတို့ ဦးထုပ်တို့ ဆိုတာတွေဟာ လူ့





အဆောင်အယောင် အသုံးအဆောင်တွေ ဖြစ်ပါတယ်။ ဒီအဆောင်အယောင်တွေ ဖြစ်တဲ့ ဦးထုပ် ခေါင်းစွပ်တွေ ဆောင်း၊ ခေါင်းပေါင်းကြီး တကားကားနဲ့ ရတနာသုံးပါး ဆရာသမားများရှေ့မှာ တခမ်းတနား နေတာဟာ ရတနာသုံးပါး မိဘဆရာသမားများကို မရိုသေ မလေးစား အရေးမထားရာ ရောက်ပါတယ်။ ဒါကြောင့် ဒီသဘော သဘာဝကို နားလည်တဲ့ ပုဂ္ဂိုလ်များဟာ လမ်းမှာ ဦးထုပ်ဆောင်း၊ ခေါင်းပေါင်း ပေါင်းလာပေမယ့် ဆရာသမား ဘုန်းတော်ကြီးများ ရှေ့ရောက်တဲ့အခါ ဦးထုပ်၊ ခေါင်းစွပ်၊ ခေါင်းပေါင်းများကို ချွတ်ပြီးမှ ရှိခိုးဝပ်ချ စကားစမြည် ပြောဆို လျှောက်ထားလေ့ ရှိကြပါတယ်။

ရှင်တော်ဘုရားကလည်း ကျန်းမာပါလျက် ဖိနပ်စီး၊ ထီးဆောင်း၊ ခေါင်းပေါင်းကြီး တကားကားနဲ့ တခမ်းတနားနေတဲ့ ပုဂ္ဂိုလ်ကို ရဟန်းတော် ရှင်ပါ ဘယ်သူမှ တရားမဟောရဘူးလို့ ပညတ်ထားတော်မူပါတယ်။

သည်နေရာမှာ ကောသလမင်းကြီးရဲ့ ကျင့်သုံးပုံကို ဖော်ပြချင်ပါတယ်။

တစ်ချိန်မှာ ကောသလမင်းကြီးဟာ စိတ်ပြေ လက်ပျောက် ဆိုသလို မိမိနိုင်ငံတော် အတွင်းရှိ 'နဂရက' ဆိုတဲ့ မြို့ကြီးအနီးက ဥယျာဉ်ထဲမှာ လှည့်လည်ကြည့်ရှုနေခိုက် ဘုရားရှင်ကို ဖူးမြင်ချင်တဲ့ ဆန္ဒ ပြင်းပြင်းပြပြ ဖြစ်ပေါ်လာတာ

ဒုတိယအကြိမ်

နဲ့ အတူပါလာတဲ့ စစ်သူကြီး 'ကာရာယန' ကို ဘုရားရှင် သီတင်းသုံးနေတော်မူရာ ဌာနကို မေးပြီး ကာရာယန ညွှန်ပြရာ ကျောင်းတော်သို့ သွားပါတယ်။

ကျောင်းရောက်လို့ ဘုရားရှင် ရှေ့တော်မှောက် ဝင်ခါနီးကျတော့ အထူးရိုသေလေးစားရမယ့် ဘုရားရှင် ရှေ့မှောက်ကို တောက်တောက်ပြောင်ပြောင် မင်းဝတ်တန်ဆာ အဆောင်အယောင်တွေ ဝတ်ပြီး ခမ်းခမ်းနားနား ကြွားကြွား ဝင့်ဝင့် ဝင်ရောက်လျှင် ရှင်တော်ဘုရားကို မလေးစားရာ ကျလိမ့်မယ်လို့ စဉ်းစားပြီး သန်လျက်၊ သင်းကျစ်၊ မကိုဋ် အစ ရှိတဲ့ မင်းဝတ်တန်ဆာတွေကို ချွတ် ကာရာယန စစ်သူကြီးလက် အပ်ပြီးမှ ဘုရားရှင်ရှေ့တော်မှောက်သို့ ဝင်ရောက်ပါတယ်။

(မဇ္ဈိမပဏ္ဏာသ–ဓမ္မစေတီသုတ်)

ဒါကြောင့် ဘုန်းတော်ကြီးများနဲ့ ဘုရားရှင်အား ရှိခိုးဝတ်ပြုစဉ် ခေါင်းပေါင်း ပေါင်းထားခြင်း၊ ဦးထုပ်ဆောင်း၊ ခေါင်းစွပ် စွပ်ထားခြင်းဟာ ဂါရဝ မင်္ဂလာ ကင်းမဲ့ပြီး အဂါရဝ အမင်္ဂလာ မာန်မာန ဆိုတဲ့ အကုသိုလ် အပြစ်ဖြစ်တယ်လို့ ဆိုရမှာ ဖြစ်ပါတယ်။

**အဖြေ(၃)** ကျောင်းဝိုင်းထဲ ဖိနပ်စီးတာနဲ့ ပတ်သက်ပြီး ပြောရလျှင် လူပုဂ္ဂိုလ်များ ကျောင်းဝိုင်းထဲမှာ ဖိနပ် မစီးရလို့ တားမြစ်ထားတဲ့ စာပေ၊





ကျမ်းဂန် တွေ့ဖူးတယ်လို့ အမှတ်မရပါဘူး၊ ရဟန်း သာမဏေများ ကျန်းမာပါလျက် မြို့တွင်း၊ ရွာတွင်းမှာ ဖိနပ်မစီးရလို့ တားမြစ် ပညတ်ထားတာကိုသာ တွေ့ရပါတယ်။ ဂိလာန ပုဂ္ဂိုလ်များကိုတော့ စီးခွင့်ပြုထားပါတယ်။ ဂိလာနဆိုတာ ဒီနေရာမှာ ဖျားနာနေမှ ဂိလာန မဟုတ်ပါဘူး၊ မြို့ကြီးပြကြီးများက လမ်းများဟာ ကတ္တရာလမ်း ဖြစ်နေတဲ့အတွက် ဆောင်းအခါ နွေအခါများမှာ အေးလွန်း၊ ပူလွန်းခြင်း၊ တောအရပ်က လမ်းများဟာ ကျောက်ခဲ စသည်တို့ဖြင့် ကြမ်းတမ်းလွန်းခြင်းကြောင့် နင်းတဲ့ ခြေဖဝါး မခံသာအောင် နာကျင်မယ်၊ အထက်အပူတက် အခိုးမှုတ်ပြီး ဖျားနာ မျက်စိရောဂါ ဖြစ်မယ်ဆိုရလျှင် ဂိလာနပဲလို့ ဆိုရပါတယ်။ (ဂိလာနောနာမ နဝိနာ တေန ဥပါဟနေန ဖာသုဟောတိ) လို့ ဆိုလိုပါတယ်။

ဒါနဲ့ပတ်သက်လို့ အတွေ့အကြုံကလေး ပြောရလျှင် လွန်ခဲ့သော တစ်ချိန်က စာရေးသူတို့ ရွှေစက်တော် ဘုရားဖူး သွားကြပါတယ်။ မကွေးမြို့ကို နံနက် (၁၀ နာရီကျော်ကျော် လောက် ဝင်ပါတယ်။ နွေရာသီ တန်ခူးလဖြစ်လို့ သည်အချိန်မှာ နေဟာ ခြစ်ခြစ်တောက် ပူနေပါတယ်၊ ကားဦးဘက် ရှေ့နားကို လှမ်းကြည့်လိုက်လျှင် တရှိန်ရှိန် တရွရွ ထကြွ လှုပ်ရှားနေတဲ့ ဘဲလှုပ်ခိုးတွေဟာ မြင်ရသူတွေရဲ့ စိတ်ကို အနေခက်လောက်အောင် ပူလောင်အိုက်စပ် တင်းကျပ်စေပါတယ်။ ဒီလို ခံစားနေရတော့ ဒီမြို့မှာ ဒီအချိန် ဆွမ်းခံကြွတဲ့ ရဟန်း၊ သံဃာတွေ

ဟာ ဖိနပ်စီးသင့်တယ်၊ စီးကောင်း မှာပဲလို့ စိတ်ထဲမှာ ဖြစ်ပေါ်လာတဲ့ အတိုင်း အနီးမှာရှိတဲ့ အဖော်ကို ပြောမိတဲ့အခါ သူကလည်း ဟုတ်တယ်၊ စီးသင့်တယ် လို့ ထောက်ခံပါတယ်၊ ကားဟာ ရှေ့ဆက်ပြီး တော်တော် ကလေး သွားမိတဲ့အခါ ဆွမ်းခံကိုယ်တော် တစ်ပါးကို တွေ့တာနဲ့ သူ့ရဲ့ခြေထောက်ကို အလျင်ဆုံး ကြည့်မိတဲ့အခါ ဖိနပ်စီးထားတာ တွေ့ရပါတယ်။ သည်အခါ အင်း... အင်း... ဟုတ်တယ်၊ ဒါ ဂိလာနပဲလို့ မှတ်ချက် ချမိပါတယ်။

ဖိနပ်စီးတာဟာ အဆောင်အယောင် တစ်ခု အနေနဲ့ ကြွားဖို့ ဝါဖို့ စီးတာ မဟုတ်ပါဘူး၊ အထက်မှာ ဖော်ပြခဲ့တဲ့ အတိုင်း ကျန်းမာရေး၊ သန့်ရှင်းရေးတို့ အတွက် ဖြစ်ပါတယ်။ ဘုန်းကြီးကျောင်းဝိုင်းထဲမှာ လူပုဂ္ဂိုလ်တွေ ဖိနပ်မစီးတာဟာ ယဉ်ကျေးမှု အစဉ်အလာ ဂါရဝ နိဝါတ နိမာန မင်္ဂလာ တရားတော်အရ ရိုသေလေးစားထိုက်တဲ့ ရိုသေလေးစားရမယ့် ရတနာမြတ်သုံးပါး ဆရာသမားများကို ရိုသေလေးစားတဲ့ အနေနဲ့ မစီးတာဖြစ်ပါတယ်။ သည်တော့ ကျန်းမာ သန့်ရှင်း ရောဂါကင်းရေးအတွက် လိုအပ်လာလျှင် ရဟန်းတော်များ မြို့တွင်း ရွာတွင်းမှာ ဖိနပ်စီးကောင်းသလို လူပုဂ္ဂိုလ်များ အနေနဲ့လည်း အထက်ဖော်ပြပါ ကိစ္စများအတွက် တကယ် လိုအပ်လာလျှင် ကျောင်းဝိုင်းထဲမှာ ဖိနပ်စီးကောင်းစရာ ရှိတယ်လို့ ဆိုရမှာ ဖြစ်ပါတယ်။



တချို့က ဗိမ္ဗိသာရမင်းကြီးဟာ အတိတ်ဘဝက ကျောင်းဝိုင်းထဲမှာ ဖိနပ်စီးမိလို့ ယခုဘဝမှာ ခြေဖဝါး ဓားနဲ့ ခွဲ ဆားသိပ်ပြီး ရှားမီးကျီးခဲနဲ့ အကင်ခံရတယ်လို့ ပြောကြ တယ်။ မဟုတ်ပါဘူး၊ စေတီရင်ပြင်မှာ ဖိနပ်စီးမိလို့၊ ဒါမှမဟုတ် ကျောင်းပေါ်မှာ သန့်သန့်ရှင်းရှင်း ခင်းကျင်းထားတဲ့ နေရာပေါ် ပေကျံနေတဲ့ ခြေနဲ့ တက်နင်းပြီး အခင်းအကျင်းတွေကို ညစ်ပေစေလို့ ဖြစ်တယ်လို့ ကျမ်းဂန်မှာ ဆိုပါတယ်။

ဒါကြောင့် ကျောင်းဝိုင်းက ဖိနပ်မစီးဘဲ သွားလျှင် ကျန်းမာရေးကို ထိခိုက်စေမယ့် ရွံ့ညွန်၊ ဖုန်မှုန့်၊ ခဲသလဲ၊ အညစ်အကြေးတွေနဲ့ ခြေထောက်ကို နာကျင် ညစ်ပေ မသန့်မရှင်း ဖြစ်စေမယ်ဆိုလျှင် ဖိနပ်စီးဖို့ တကယ်လိုအပ်တာ ဖြစ်ပါတယ်။ သံဃိကကျောင်းကို ရေစိုနေတဲ့ ခြေနဲ့ နင်းမိလို့ ကြမ်းပြင်မှာ ခြေရာထင်သွားလျှင် ရဟန်းတော်များ အာပတ် သင့်ပါတယ်။ လူပုဂ္ဂိုလ်များအဖို့ ဘယ်လောက် အပြစ်ကြီး မယ်ဆိုတာ စဉ်းစားကြည့်နိုင်ပါတယ်။ သည်တော့ ကျောင်းပေါ် မတက်ခင် ခြေသန့်ရှင်းစေဖို့ရာလည်း အထူးလိုအပ်တယ်လို့ ဆိုရပါမယ်။ ဗိမ္ဗိသာရမင်းကြီးဟာ သည်နေရာမှာ သာဓက တစ်ရပ်ပါပဲ။

ဒါကြောင့် ပရိယတ်၊ ပဋိပတ် နှစ်ရပ် ကျမ်းကျင် စင်ကြယ် သီလ နိဝါတ နိမာနဂုဏ် လွှမ်းခြုံပြည့်ဝ နေလအသွင် သာသနာတော်မှာ ထင်ရှားတော်မူကြတဲ့ ဆရာတော်ဘုရားကြီး

များဟာ အထက်ဖော်ပြပါ မကျန်းမာခြင်းစတဲ့ အကြောင်းတွေ ရှိတဲ့ အတွက် ဖိနပ်စီးမှ ဖြစ်မယ့် လူပုဂ္ဂိုလ်များ ကျောင်းဝိုင်း ထဲမှာ ဖိနပ်စီးတာကို တားမြစ်တော် မမူကြတာ ဖြစ်ပါတယ် လို့ ဖြေလိုက်ပါတယ်။

**အဖြေ(၄-၅)** စက်ဘီး၊ မော်တော်ကား၊ ဆင်၊ မြင်း (သာသနာတော်အလို) ဖိနပ် စသည်တို့ကို ယာဉ်လို့ ဆိုပါတယ်။ အဲသည်ယာဉ်တွေ ကျောင်းဝိုင်းထဲ စီးတာနဲ့ ပတ်သက်တဲ့ အမှတ် (၄-၅) မေးခွန်းများဟာ သဘောတူတာ ဖြစ်တဲ့အတွက် သည်မေးခွန်း နှစ်ခုကို တစ်ပေါင်းတည်း ဖြေလိုက်ပါတယ်။

ဖိနပ်ဟာ ယာဉ်တွေထဲမှာ အဆင့်အနိမ့်ဆုံး ယာဉ် ပါပဲ။ ဒီဖိနပ်ယာဉ်ကိုတောင် အတွက် အမှတ် (၂) အဖြေမှာ ဖော်ပြခဲ့တဲ့ ပြောပလောက်တဲ့အကြောင်း မရှိဘဲ လူပုဂ္ဂိုလ်များ ကျောင်းဝိုင်းထဲမှာ စီးတဲ့အတွက် ဂါရဝ မဂ်လာပျက်ပြီး အပြစ်ရှိတယ်ဆိုလျှင် ဒါ့ထက် ထည်ဝါ ခံ့ညား စက်ဘီး၊ ကား၊ မြင်းစတဲ့ ယာဉ်တွေ စီးလျှင်တော့ အပြစ်ရှိမှာ ပိုပြီး သေချာပါတယ်လို့ ဖြေလိုက်ပါတယ်။

ရှင်လောင်းဆိုတာ ရှင်သာမဏေ (ဖြစ်တော့မည့် ဆဲဆဲ) အလောင်းအလျာဖြစ်တာမို့ ရဟန်းအသုံးအဆောင် ဖြစ်တဲ့ သပိတ်ဖုံးနဲ့ ထမင်းစားခွင့်ရခြင်း၊ (သာမန်လူတိုင်း





ဟာ ရဟန်းတော်များရဲ့ သီးခြား အသုံးအဆောင်ဖြစ်တဲ့ သပိတ်၊ သပိတ်ဖုံး၊ သင်္ကန်း စသည်များကို အသုံးမပြုကောင်း ပါဘူး၊ ရိုသေလေးစားရပါတယ်။ (ပဗ္ဗဇ္ဇိတ ပရိဘောဂေါ ဟိ ဂဟဋ္ဌာနံ စေတိယဋ္ဌာနိယော လို့ ဆိုပါတယ်၊) ပရိသတ်၏ ရှေ့တန်းမှာ နေထိုင်ရခြင်း စတဲ့ အခွင့်အရေးများ အတော် ကလေး ရတာကြောင့် ရှင်လောင်း လှည့်စဉ် ဘုန်းကြီး ကန်တော့သွားတဲ့အခါ ကျောင်းဝိုင်းထဲ မြင်း၊ လှည်း စသည် စီးဝင်ပြီး လှည့်လည်ခွင့် မရနိုင်ဘူးလားလို့ မေးလာလျှင်...

သည်နေရာမှာ ရှေးပညာရှိ သူတော်ကောင်းကြီးများ ကျင့်သုံးသွားတဲ့ ကျင့်ထုံး အစဉ်အလာကို နမူနာထား ကျင့် သုံးသွားမှသာ အပြစ်ကင်းနိုင်မှာ ဖြစ်ပါတယ်။

သာသနာတော်မှာ ဘိက္ခုနီ (ရဟန်းမ) များ မပေါ်ခင် တစ်ချိန်က ရှင်တော်မြတ်ဘုရားဟာ ဝေသာလီပြည်မှာ သီတင်း သုံးနေတော်မူပါတယ်။ သည်အခါ မိထွေးတော် ဂေါတမီဟာ သာကီဝင် မင်းသမီး ငါးရာတို့နဲ့အတူ) ဘိက္ခုနီ (ရဟန်းမ) ပြုခွင့်ရရန် ရှင်တော်ဘုရား သီတင်းသုံးတော်မူရာ ဝေသာလီ မြို့သို့ ထွက်ခွာလာခဲ့ကြပါတယ်။ ဒီလို ထွက်ခွာလာကြတာကို သိတဲ့ ဆွေတော်မျိုးတော်တွေက သည်မင်းသမီးတစ်တွေ ခြေကျင်သွားနိုင်ကြမယ် မဟုတ်ဘူးလို့ယူဆပြီး ဝေါ (ထမ်းစင်) တွေကို ပို့လိုက်ကြပါတယ်၊ ဒါပေမယ့် မင်းသမီးတွေက ဒါစီးလျှင် ဘုရားရှင်ကို မရိုသေ မလေးစားရာ ရောက်မယ်

လို့ ယူဆပြီး ဝေါမစီးဘဲ ငါးဆယ့်တစ်ယူဇနာ ဝေးကွာတဲ့ ခရီးရှည်ကြီးကို ခြေကျင်သာ သွားကြပါတယ်၊ ဘယ်အခါမှ ခြေကျင်လျှောက်လေ့ မရှိကြဘဲ သည်လောက်ဝေးတဲ့ ခရီးကို ခြေကျင်လျှောက်ကြတဲ့ မင်းသမီးများရဲ့ နုနယ်လှတဲ့ ခြေဖဝါးတွေမှာ သွေးခြည်ဥ အဖုတွေထကာ တချို့အဖုတွေ ပေါက်ကွဲကုန်ကြပါတယ်၊ ခြေနှစ်ဖက်စလုံးမှာပင် ခပေါင်းရေကြည်စေ့တွေ သီးနေသလို ဖူးဖူးရောင် နေကြပါတော့တယ်။

ရှေးပညာရှိ သူတော်ကောင်းတွေဟာ ရှင်တော်ဘုရားအပေါ်မှာ ဤမျှအထိ ရှိသေလေးစား ဂါရဝတရား ထားခဲ့ကြပါတယ်။ အဇာတသတ် မင်းကြီးဟာ တန်ဆောင်မုန်းလပြည့်နေ့ ညဉ့်တစ်ညဉ့်မှာ ရာဇဂြိုဟ်မြို့ ဂိဇ္ဈကုဋ်တောင်ခြေရှိ ဇီဝက၏ သရက်ဥယျာဉ်မှာ သီတင်းသုံးနေတော်မူတဲ့ ဘုရားရှင်ကို ဖူးမြင်ဖို့ရာ ဆင်စီးပြီး မင်းခမ်း မင်းနားနဲ့ သွားပါတယ်။ သွားလို့ ဥယျာဉ်တော်ကို ရောက်ရတဲ့အခါ ဥယျာဉ်တော်ထဲကို ဆင်စီးပြီး မဝင်ဘဲ ဥယျာဉ်တော်ရဲ့ တံခါးမုခ် အပြင်ဘက်မှာပင် ဆင်ပေါ်ကဆင်းပြီး ဥယျာဉ်တော်ထဲကို ခြေကျင်ဝင်ပါတယ်။

(သီလက္ခန္ဓဝဂ္ဂ သာမညဖလသုတ် ပါဠိတော်)

အခုဖော်ပြထားတဲ့ ရှေးပညာရှိ သူတော်ကောင်းများ ကျင့်သုံးခဲ့တဲ့ အစဉ်အလာ ကျင့်ထုံးအရ ပြောရလျှင် ရှင်လောင်းလှည့်တုန်း ဆရာ ဘုန်းတော်ကြီးအား ရှိခိုးဝပ်ချရန် ကျောင်းထဲ





ဆင်၊ မြင်း၊ လှည်း၊ ရထား စီးဝင် ရွှေထီးဆောင်းပြီး လှည့်လည်လျှင် ဂါရဝမင်္ဂလာ ပျက်ပြီး အပြစ်ရှိတယ်လို့ ဆိုရမှာပါပဲ။

တောအရပ်ဒေသမှာ ရှင်လောင်းလှည့်တဲ့အခါ ဘုန်းတော်ကြီး ကန်တော့ဖို့ ကျောင်းကိုလာလျှင် ကျောင်းခြံတံခါး အပြင်ဘက်မှာ မြင်းတွေ လှည်းတွေကို ထားခဲ့ပြီး လူရွယ်တွေက ရှင်လောင်းတွေကို ပခုံးပေါ်ထမ်းလို့ ဖြစ်စေ၊ ပွေ့ချီလို့ဖြစ်စေ ဆရာဘုန်းတော်ကြီးထံ ပို့ပြီး ကန်တော့ဆကြပါတယ်။ ဒါဟာ ထုံးမှီစံကျ နည်းမှန်လမ်းကျ ဂါရဝမင်္ဂလာနဲ့ ပြည့်စုံတဲ့ လုပ်နည်း လုပ်ဟန် ဖြစ်တာကြောင့် သည်နည်းအတိုင်းသာ ကျင့်သုံးသင့်ကြောင်း ဖြေကြားလိုက်ပါတယ်။

## မေးခွန်း (၂၅)

**အမေး**

ကျွန်တော် ကြည့်ညို သိလိုတာက ဘုရားတွေမှာ တံခွန်တိုင် အဓိပ္ပာယ် သိလိုပါသည်။ ဝသုန္ဒရေ ဆံရေညှစ်ချတာ ဘယ်ကရေမဟုတ် ပေါ်လာကြောင်း ဂုဏ်နတ်ရုပ်တွေ ဘုရားမှာ ရှိကြပါသည်။

မင်္ဂလာတရားတော်ကို မသိလို့ လာမေးတာ ဘုရားရှေ့ မတ်တပ်ရပ်မေးတာ မခန့်လေးစားနဲ့ မရိုမသေ ကျနေတယ် (အပြစ်ခြောက်ပါးနှင့် စားလွယ်ခုတ် ဖြေတာ ဘဝင်မကျပါ)၊ တချို့က သိကြားလို့ဖြေတယ်။ သိကြား ဟုတ်လျှင် ဘောဒေဝ ပုတ္တ အိုနတ်သားလို့ အနက်ပေးတာလည်း မကျေနပ်ပါ။ နတ်တွေ၊ ဗြဟ္မာတွေ ညဉ့်သန်းခေါင် လာပြီး ဘုရား တရား နာတာ လူစော်နံတယ်၊ ပြန်တယ် ဆိုတာလည်း နားမရှင်းပါ။





ကျွန်တော် အသက် (၈၀) ကျော် မသေခင် ပီတိ ဖြစ်ပါရစေပါ ခင်ဗျာ။

ဦးလှဖေ
(ခေါင်းတံဆိပ် လှည်းကုန်သည်)၊ မန္တလေး။

**အဖြေ**

ဦးလှဖေရဲ့ မေးခွန်းစကား အနေအထား ကြည့်ရတာ အတော် မကျေမနပ် ဖြစ်နေဟန် တူပါတယ်၊ သည်လိုပါ ဦးလှဖေ၊ ဘုရားရှေ့မှာ မတ်တတ်ရပ်နေတာ မခန့်လေးစား၊ မရိုမသေ လုပ်တာ မဟုတ်ပါဘူး၊ ဘုရားရှင် အလိုတော်ကျ ရိုရိုသေသေ နေတာ ဖြစ်ပါတယ်။ ရှင်းပြပါ့မယ်။ ရပ်ခြင်း၊ ထိုင်ခြင်း၊ လျောင်းခြင်းဆိုတဲ့ ဣရိယာပုထ် သုံးခုမှာ ရပ်ခြင်း၊ ဣရိယာပုထ်ဟာ အဆင့်အနိမ့်ဆုံး၊ ထိုင်ခြင်းက အလယ်အလတ်၊ လျောင်းခြင်းက အဆင့်အမြင့်ဆုံး ဖြစ်ပါတယ်။

ဦးလှဖေ ငယ်စဉ်ဘဝက ကိုရင်ဝတ်စဉ်က သင်ခဲ့ရတဲ့ ရှင်ကျင့်ဝတ် သေခိယ ပါဒကဝဂ်မှာ လာတဲ့ "ရပ်နေသူသည် ထိုင်နေသူအား တရားမဟောရ၊ နိမ့်တဲ့နေရာ၌ နေသူသည် မြင့်တဲ့နေရာ၌ နေသူအား တရားမဟောရလို့ တားမြစ်ပညတ်ထားတဲ့ သိက္ခာပုဒ်တွေကို မှတ်မိပါလိမ့်မယ်။ အဲဒါဟာ နိမ့်ကျတဲ့ ဣရိယာပုထ်နဲ့ နေတဲ့သူက မြင့်မြတ်တဲ့ ဣရိယာပုထ်နဲ့ နေတဲ့သူကို တရားဟောလျှင် တရားတော်ကို မရိုမသေ

မလေးမစား တန်ဖိုးထားရာ ရောက်တဲ့အတွက် တားမြစ်တာ ဖြစ်ပါတယ်။

ရှင်တော်ဘုရား တရားတော်ကို အလွန် ရိုသေလေးစား တန်ဖိုးထားတော်မူပါတယ်၊ ယခုလို ဘုရားအဖြစ် ရောက်မှ မဟုတ်ပါဘူး၊ အလောင်းတော် ဘဝ နစဉ်ကာလကတည်းက ရိုသေလေးစားခဲ့ပါတယ်။ သည်နေရာမှာ နိပါတ်တော်လာ ဇာတ်တော်တစ်ခုကို ထုတ်ပြရလျှင်...

ရှေးသောအခါက ဒွန်းစဏ္ဍားတစ်ယောက်ဟာ သရက်သီးပေါ်ချိန် မဟုတ်တဲ့အခါမှာ ကိုယ်ဝန် အရင့်အမာနဲ့ အလွန် သရက်သီးစားလိုတဲ့ ချဉ်ခြင်း အာသာကြောင့် မစားရလျှင် သေမလောက် ဖြစ်နေတဲ့ မယားအတွက် သရက်သီး အရှာ ထွက်ရပါတယ်၊ အဲသည်အခါမှာ ရှင်ဘုရင့် သရက်ပင် တစ်ပင်ဟာ အမြဲတမ်း အသီးသီးလေ့ရှိပါတယ်။ ဒွန်းစဏ္ဍားဟာ တခြားနေရာမှာ ရှာလို့မရတဲ့အတွက် ညအခါ ဘုရင့် သရက်ပင်ပေါ် တက်ပြီး သရက်သီး ရှာနေတုန်း မိုးလင်းသွားတာနဲ့ ပြန်မဆင်းသာတာကြောင့် အပင်ပေါ်မှာပဲ ပုန်းနေလိုက်ရပါတယ်။

အဲသည် အချိန်မှာ ရှင်ဘုရင်နဲ့ ပုရောဟိတ် ပုဏ္ဏားတို့ဟာ သရက်ပင်အောက် ရောက်လာပြီး နိမ့်တဲ့နေရာမှာ ထိုင်နေတဲ့ ပုဏ္ဏားက မြင့်တဲ့နေရာမှာ ထိုင်နေတဲ့ ဘုရင်အား မန္တန်သင်ပေးပါတယ်။ ဒါကို မြင်တဲ့ သရက်သီး သူခိုးဟာ





"အင်း...မြင့်တဲ့နေရာမှာနေပြီး မန္တန်သင်ယူတဲ့ မင်းလည်း သိပ်မတရားတာပဲ၊ နိမ့်တဲ့ နေရာမှာနေပြီး မန္တန်သင်းပေးတဲ့ ပုဏ္ဏားကလည်း သိပ်မတရားတာပဲ။ မယားအတွက် သရက်သီး ခိုးတဲ့ ငါလည်း အလွန်မတရားတာပဲ၊ သုံးယောက်စလုံးရဲ့ လုပ်ရပ်ဟာ ရုပ်မှာ ဆိုးရွားလှပါတကား" လို့ စဉ်းစားမိပြီး ကိုယ်သေသေ သူ သေသေ သဘောနဲ့ မင်းနဲ့ ပုဏ္ဏား နှစ်ဦးသားတို့ အလယ် ဝုန်းခနဲခုန်ချပြီး မင်းနဲ့ ပုဏ္ဏား နှစ်ဦးသားစလုံးကိုပဲ တရားမသိ အမြင်မှန်မရှိကြောင်း ပြစ်တင်ကဲ့ရဲ့ပါသတဲ့။ အဲသည် ဆုံးမ ပြစ်တင်တဲ့ သရက်သီး သူခိုးဟာ ရှင်တော်ဘုရား အလောင်း တော်ပဲ ဖြစ်ပါတယ်။

(စတုက္ကနိပါတ် ဆဝဇာတ်)

ဒါကြောင့် မြတ်တဲ့ ဣရိယာပုတ်နဲ့ နေတော်မူတဲ့ မြတ်စွာဘုရားအား နိမ့်ကျရတဲ့ ရပ်ခြင်း ဣရိယာပုတ်နဲ့ နေတဲ့ နတ်သားက မင်္ဂလာတရား ဟောကြားတော်မူဖို့ လျှောက်ထားတော့ မရိုသေ မလေးစား မခန့်မညား လုပ်တာ မဟုတ်တဲ့အတွက် ဒီလိုရပ်ပြီး လျှောက်ထားတာကို ဦးလှဖေ ဘဝင်ကျပါလို့ ပြောလိုပါတယ်။

တချို့က မြတ်စွာဘုရားကို မင်္ဂလာတရားဟောကြား ဖို့ လျှောက်ထားတာ သိကြားမင်းဖြစ်တဲ့အတွက် ဘောဓေ ပွဏ–အိုသကြားနတ်သားလို့အနက်ပေးမှ ကျေနပ်မယ်ထင်ပါပဲ။

သည့်လိုပါ။ သည်မင်္ဂလာတရား ပြဿနာဟာ ဘယ်သူမှ မဖြေရှင်းနိုင်ဘဲ လူရောနတ်ပါ ဖြဟ္မာအထိ ၁၂ နှစ်ကြာအောင် တည်ရှိနေခဲ့ပါတယ်။ ၁၂ နှစ်လွန်တဲ့ အခါကျတော့မှ တာဝတိံသာ နတ်တွေက သိကြားမင်းထံ မင်္ဂလာတရား ပြဿနာကို တင်ပြပြီး ဖြေရှင်းပေးဖို့ တောင်းပန်တဲ့အခါ သိကြားမင်းက ဘုရားရှင်ထံ လျှောက်ထားဖို့ နတ်သားတစ်ဦးကို တာဝန်ပေးပြီး မိမိနှင့်တကွ နတ်အများပါ မင်္ဂလာတရားနာရန် ဘုရားရှင်ထံ ရောက်လာကြပါတယ်။ သိကြားမင်းက တာဝန်ပေးလိုက်တဲ့ နတ်သားက လျှောက်ထားတာဖြစ်ပါတယ်။

သည်မင်္ဂလာ တရားဟောဖို့ လျှောက်ထားတဲ့ ကိစ္စမှာ သိကြားမင်းဟာ တစ်နေရာက ပါဝင်ပတ်သက်နေတဲ့ အတွက် အချို့က သိကြားမင်း လျှောက်ထားတာလို့ ပြောကြတာဖြစ်ကောင်းဖြစ်ပါလိမ့်မယ်၊ အမှန်ကတော့ အမျိုးအမည်အားဖြင့် မထင်ရှားတဲ့ နတ်သားတစ်ဦးက လျှောက်ထားတာဖြစ်တာကြောင့် အိုနတ်သားဆိုတဲ့ အနက်ဟာ ဘဝင်ကျကျေနပ်စရာ ဖြစ်ပါတယ်လို့ ဖြေလိုက်ပါတယ်။

နတ်တွေ လူစော်နံတယ်၊ ပြန်တယ်ဆိုတာလည်း နားမရှင်းပါတဲ့။ ဦးလှဖေက နတ်တွေ လူစော်နံတယ်ဆိုတာ အရှိကို အရှိအတိုင်း ပြောရလျှင် ဟုတ်လောက်စရာ ရှိတယ်လို့ ဆိုရမှာပါ။ နတ်အစားစားနဲ့ လူအစားစား နှိုင်းယှဉ်





ကြည့်လိုက်လျှင် သိသာလှပါတယ်။ နတ်တို့စားတဲ့ နတ်သုဓာဘုတ်ဆိုတာ အပိုစွန့်ပစ်ရမယ့် ဘေးထွက်ပစ္စည်း မပါတဲ့ အဆီအနှစ် ဩဇာရသဓာတ် သက်သက်သာ ဖြစ်ပါတယ်။ သည်နတ်ဩဇာဟာ ကျင်ကြီးကျင်ငယ်စတဲ့ အညစ်အကြေးတွေကို မဖြစ်စေဘဲ ခန္ဓာကိုယ်အတွက် လိုအပ်တဲ့ အသွေးအသားရသဓာတ်များကိုသာ ဖြစ်စေပါတယ်။

ဒါကြောင့် နတ်တို့ကိုယ်ဟာ အလွန်သန့်ရှင်းစင်ကြယ်ပါတယ်။ နတ်တွေဟာ ကျင်ကြီးကျင်ငယ် ချွေးအစရှိတဲ့ ဒွါရကိုးပေါက်မှ ယိုကျစီးထွက်နေတဲ့ အညစ်အကြေးများလုံးဝမရှိပါဘူး။ နတ်များသေလျှင်လည်း ဓာတ်ဆီများ မီးလောင်တဲ့အခါ ဘာတစ်ခုမှ မကျန်ဘဲ အကုန်အစင် လောင်ကျွမ်းသွားသလို ကိုယ်ခန္ဓာ ဘာအစိတ်အပိုင်း တစ်ခုမှ မကျန်ဘဲ အကုန် လောင်ကျွမ်းပျောက်ကွယ်သွားပါတယ်။ လူများတော့ သိကြတဲ့အတိုင်း ဟင်းသီးဟင်းရွက် ငါးသား ပုဇွန်ကစပြီး စားကောင်းသမျှ အကုန်စားကြတာ ဖြစ်တော့ ဒီအစားအစာတွေက ပြောင်းလဲဖြစ်ပေါ်လာတဲ့ လူ့ခန္ဓာကိုယ်ကြီးဟာ ဘယ်မှာ သန့်ရှင်းပါတော့မလဲ၊ အသိုးအပုပ်တုံးကြီး၊ အညစ်အကြေးတုံးကြီးသာ ဖြစ်နေတယ်ဆိုတာ လူတိုင်းအသိပါ။ အထူးချဲ့ထွင် ပြောနေစရာ မလိုတော့ပါဘူး။ ဒါကြောင့် လူစော်နံလို့ နတ်တွေ နှာခေါင်းရှုံ့တယ်ဆိုတာ ဟုတ်လောက်စရာ ရှိတယ်လို့ ဆိုရမှာ ဖြစ်ပါတယ်။

နတ်တွေ ဘုရားရှင်ထံ လာတာလည်း လူသူကင်းကွာ လူစော်မနံတဲ့ အခါဖြစ်တဲ့ ညဥ့်သန်းခေါင်ယံ အချိန်ကျမှသာ လာကြတာ ဖြစ်ပါတယ်။ ပြန်ကြတာကတော့ လူစော်နံလို့ ပြန်တာ မဟုတ်ပါဘူး၊ သူတို့ မေးမြန်းလျှောက်ထား အဖြေစကား ကြားနာပြီးတဲ့အခါ "ဂစ္ဆာမ မယံ ဘန္တေ ဗဟုကိစ္စာ ဗဟုကရဏီယာ" တပည့်တော်တို့မှာ လုပ်ဆောင်ဖွယ် ကိစ္စတွေ များလှတာကြောင့် ပြန်ခွင့် ပြုတော်မူပါဘုရားလို့ ခွင့်ပန်လျှောက်ထားပြီး ပြန်သွားကြတယ်လို့သာ ကျမ်းဂန်များမှာ တွေ့ရပါတယ်။

ဘုရားတွေမှာ ဝသုန္ဓရေဆံရေ ညှစ်ချတဲ့ အရုပ်တွေနဲ့ ပတ်သက်လို့ ထေရဝါဒ ပိဋကကျမ်းဂန်များ အဆိုအမိန့် လုံးဝ မရှိပါဘူး၊ ဂေါတမ ပုရာဏ် ခေါ် သိရီလလိတ ဝိတ္ထာရ မဟာယာန ဗုဒ္ဓဝင်ကျမ်းမှာသာ "ငါ အလောင်းတော် ဒါန အစရှိတဲ့ ပါရမီတော်တွေ မရေမတွက် လက်တော်နဲ့ ပုတ်ပြီး သက်သေထူလိုက်တဲ့အခါ အလောင်းတော် လက်မြေကြီးကို ထိတာနဲ့ တစ်ပြိုင်နက် မဟာပထဝီမြေကြီးဟာ ကြေးခွက်တွေကို ရိုက်တီးလိုက်တဲ့ အသံမျိုးလို သိမ့်သိမ့် မြည်ဟည်းပြီး အကြီးအကျယ် တုန်လှုပ်သွားပါတယ်။

သည်အခါ "ထာဝရ အမည်ရှိတဲ့ မဟာပထဝီ မြေစောင့်နတ်ဟာ ကုဋေတစ်ရာသော မြေစောင့်နတ်အပေါင်း ခြံရံခါ မြေကိုခွဲ၍ အလောင်းတော်အနီးမှာ ကိုယ်ထက်ဝက်





ပေါ်လာပြီး လက်အုပ်ချီ ဝပ်တွား၍ ဟုတ်မှန်ကြောင်း သက်သေခံနေသည်" လို့ ဆိုပါတယ်၊ ဆံပင်က ရေတွေ ညှစ်ချတယ်ဆိုတဲ့ စကားလည်း မပါပါဘူး။ ဒါကြောင့် ဝသုန္ဓရေ ဆံရေညှစ်ချတဲ့ အရုပ်ဟာ ဒဏ္ဍာရီမျှ ဖြစ်တယ်လို့ မှတ်သားပြီး ရေတွေ ဘယ်က ပေါ်လာတယ်ဆိုတာကို ဦးနှောက် အပင်ပန်းခံ မစဉ်းပါနဲ့လို့ပဲ ဖြေလိုက်ရပါတယ်။

## မေးခွန်း (၂၇)

**အမေး(၁)** သာသနာမှာ မြတ်သောရဟန်းဘဝ ရောက်ပြီးမှ အကြိမ်ပေါင်း ရာထောင်မက ထပ်ခါထပ်ခါ ကံထပ်သော ရဟန်းလောင်းနှင့်...

**အမေး(၂)** ယနေ့ သာသနာမှာ ပညာတတ်နာမည်ကြီးလာပါလျှင် ခေတ်စားသော ကံထပ် ခမည်းတော် မယ်တော် အခေါ်ခံချင်ကြပါသည်။ ပညာမရှိ၊ ဝတ်ရမဲ့၊ စားရမဲ့အခါမှာ လူမသိ၊ ပညာရှိလာတော့ ထပ်လိုက်တဲ့ ရဟန်းဒကာတွေ ပေါများ၊ အဲဒီ ရဟန်းဟောင်းသည် လောဘကြီးလွန်း(ငွေ) စီးပွားရှာတတ်တယ်လို့ အများပြောကြပါသည်။ အပြစ်ရှိပါသလား၊ ကံအများကြီး ထပ်တဲ့



ရဟန်းရော ဘုရားရဲ့ အကြိုက် ဝိနည်းနှင့် ကိုက်ညီပါသလား၊ ဘုရားလက်ထက်ကရော ဒါမျိုးတွေ ရှိပါသလား၊ ကံထပ်ကြတော့ ရဟန်းဟောင်းက ဘာဖြုလို့ ထပ်ရပါသလဲ၊ အပြစ်ရှိလို့ သိမ်ထဲမှာ ဆုံးမခံတယ်လို့ ပြောကြတာ ဟုတ်ပါသလား၊ ဖြေကြားပါ။

ဦးမြတ်ဆွေ (မုံရွာ)

**အဖြေ(၁)** သိက္ခာထပ်တယ်ဆိုတာ ရဟန်းဖြစ်ပြီးသား ပုဂ္ဂိုလ်အား ရဟန်းခံကမ္မဝါကိုထပ်ဖတ်ပေးတာပါပဲ။ သည်လို ထပ်ဖတ်ပေးတဲ့ အတွက် အစပထမရဟန်းခံစဉ်က ကမ္မဝါဖတ်ရာမှာ အက္ခရာ၊ ပုဒ် မပြည့်မစုံဖြစ်ခဲ့သော အက္ခရာပုဒ်တို့ ပြည့်စုံသွားခြင်း၊ မမှန် မကန် ဖတ်မိခဲ့သော် အမှန်အကန် ဖြစ်သွားခြင်းတို့ကြောင့် မအောင်မြင်၊ မပီသသော ရဟန်းအဖြစ်မှ အောင်မြင်၊ ပီသသော ရဟန်းအဖြစ်သို့ ရောက်သွားခြင်းအကျိုးထူးရှိပါတယ်။

အပြည့်အစုံ၊ အမှန်အကန် ကမ္မဝါဖတ်ခဲ့တဲ့ အတွက် အောင်မြင်ပီသတဲ့ ရဟန်းဖြစ်လျှင်လည်း ရဟန်းအဖြစ် ပိုမိုခိုင်မြဲတဲ့ အကျိုးရှိပါတယ်။ သိမ်ထပ်မှုအကြိမ်များလျှင် များသလောက် အောင်မြင်ပြီး ပိုမိုခိုင်မြဲတယ်လို့ ပရိဝါအဋ္ဌကထာမှာ ဆိုပါတယ်။

သည် အဋ္ဌကထာအဆိုကို အထောက်အထား ပြုပြီး

ပုဂ္ဂိုလ်တစ်ဦးတစ်ယောက်ကို ဆရာမြတ်တို့ အကြိမ်ကြိမ် သိမ်ထပ်ပေးကြကြောင်း။ ဆင်းတုတော်ကို အကြိမ်ကြိမ် အနေကဇာတင်ခြင်း၊ ရှင်ဘုရင်ကို ရာဇာဘိသိက် အကြိမ်ကြိမ် ပြုခြင်းဖြင့် အပြစ်မမြင် အကျိုးထင်သကဲ့သို့ အကြိမ်ကြိမ် သိမ်ထပ်ပေးတာလည်း အပြစ်မပြင် အကျိုးသာထင်တာကြောင့် အကြိမ်ကြိမ် သိမ်ထပ်တာဟာ သင့်လျော်ကောင်းမွန်ကြောင်း ဝိနယာလင်္ကာရ ဆရာတော်ကြီးက သိမ်ထပ်ကိစ္စကို ထောက်ခံထားတာ တွေ့ရပါတယ်။

လယ်တီဆရာတော်ကြီးကလည်း ကျောင်းရောက်လာတဲ့ ရဟန်းတွေကို အထပ်ထပ်သိက္ခာတင်ပေး သိပ်ထပ်ပေးတယ် လို့ ဝိနယသံခိပ်ကျမ်းမှာ ဆိုထားပါတယ်။ ဒါပေမယ့် သည်လို သိက္ခာတင် သိမ်ထပ်ပေးတာဟာ ရဟန်းဒကာ ဒကာမတွေနဲ့ တော့ ဟုတ်ချင်မှ ဟုတ်ပါလိမ့်မယ်လို့ အချို့ ဆရာတော် ကြီးများက ကောက်ချက်ချကြပါတယ်။

သည်သိမ်ထပ်တဲ့ ကိစ္စနဲ့ ပတ်သက်လို့ ဆက်ပြောရလျှင် တချို့ ဒကာ ဒကာမများဟာ ရဟန်း ဒကာ၊ ရဟန်းအမလည်း ဖြစ်ချင်တယ်၊ ငယ်ရွယ်သူကို ရဟန်းခံပေးမိလျှင် လူထွက်သွားလို့ စိတ်မချမ်းမသာ အကုသိုလ်ဖြစ်မှာလည်း ကြောက်တယ်။ ဒါကြောင့် သီလသိက္ခာနဲ့ ပြည့်စုံတဲ့ သက်တော် ဝါတော်ကြီး များကို သိမ်ထပ်ပေးတာ တွေ့နေရပါတယ်။

ရဟန်းဒကာ ရဟန်းအမအဖြစ် ခံယူတယ်ဆိုတာ





မိမိ ရဟန်းအတွက် ပစ္စည်းလေးပါး ထောက်ပံ့ဖို့ တာဝန်ယူပြီး ထောက်ပံ့လှူဒါန်းတာပဲ ဖြစ်ပါတယ်။ သည်တော့ ဘုန်းကြီးကံကြီး ဆရာတော်ကြီးများအတွက် သိပ် မထူးခြားလှပါဘူး၊ ပစ္စည်း လေးပါးက အလျှံပယ် ပေါများပြီးသား ဖြစ်နေပါတယ်။

တချို့ စာသင်တိုက်က ဆရာတော်၊ စာချဘုန်းကြီး၊ စာပေ ကြိုးစားတဲ့ စာသင်သား ရဟန်းတော်များအတွက်တော့ ပစ္စည်းလေးပါး ပြည့်ပြည့်စုံစုံနဲ့ ပရိယတ် အားထုတ်ဖို့ရာ အဆင်ပြေ၊ အခွင့်သာမှာဖြစ်လို့ ပိုကျေးဇူးများမလားလို့ ယူဆမိပါတယ်။

ယနေ့ခေတ်မှာ သိမ်ထပ်တာ ခေတ်စားနေတော့ ဒါကို အခွင့်အကောင်းယူပြီး လောဘ မသတ်နိုင်တဲ့ အချို့ ပုဂ္ဂိုလ်များမှာ သိမ်ထပ်ပေးမယ့် ဒကာရှာပြီး လာဘ်လာဘ၊ အခြွေအရံ ပရိသတ်ပေါများအောင် သိမ်ထပ်ခံနေကြတယ်လို့ ကြားရပါတယ်။ ဒါကို ကြားလို့၊ မြင်လို့ တင်ပါရဲ့၊ မေးခွန်းရှင်က ရဟန်းဒကာတွေ ပေါများတဲ့ အဲသည် ရဟန်းဟောင်းသည် လောဘကြီးလွန်း (ငွေ) စီးပွားရှာတယ်လို့ အများက ပြောကြပါ သည်။ အပြစ်ရှိပါသလား” လို့ မေးထားပါတယ်။

ဒကာ ဒကာမများက သဒ္ဓါတရားအလျောက် သူ့ဟာသူ ဒကာခံတာ မဟုတ်ဘဲ ရဟန်းက ဆွမတော် မိုးမိစပ် ဖိတ်ကြားထားသူလည်း မဟုတ်တဲ့ ဒကာ ဒကာမများကို

တိုက်တွန်း ရဟန်းဒကာခံစေပြီး သိမ်ထပ်လျှင် ယုတ်မာတဲ့ အလိုဆိုးရှိသူ၊ မတရားလောဘကြီးသူ (ပါပိစ္ဆ–ဣစ္ဆာပကတ) ပုဂ္ဂိုလ်လို့ ဘုရားရှင်က သတ်မှတ်ထားသူ ဖြစ်စရာရှိတဲ့အတွက် အပြစ်ရှိတယ်လို့ ဆိုရမှာပါပဲ။ ဒါဟာ ဘုရားရှင် စက်ဆုပ်တော်မူတဲ့ အလုပ်မျိုး ဖြစ်ပါတယ်။

အကြိမ်ကြိမ် သိမ်ထပ်တာ ဘုရားအကြိုက် ဝိနည်းတော်နဲ့ ကိုက်ညီပါရဲ့လားလို့ မေးလျှင်တော့ ဘုရားလည်း ကြိုက်၊ ဝိနည်းတော်နဲ့လည်း ကိုက်ညီပါတယ်ဆိုတာ အထက် ဖော်ပြပါ စကားရပ်တွေနဲ့ပဲ ထင်ရှားနေပါပြီလို့ ဖြေရမှာပါပဲ။

ဘုရားလက်ထက်က သိမ်ထပ်တာ ရှိပါသလား။

အကြိမ်ကြိမ် သိမ်ထပ်တာဟာ အစ ပထမ ရဟန်းခံစဉ်က ကမ္မဝါဖတ်ရာမှာ ချို့တဲ့မှု၊ လိုနေမှု၊ မှားယွင်းမှု ဖြစ်ခဲ့သော် ပြည့်စုံမှန်ကန်စေဖို့ ဖတ်တာဖြစ်တယ်ဆိုတာ ပြောခဲ့ပြီးပါပြီ။ ဘုရားရှင် လက်ထက်တော်တုန်းက ဒီလို ချို့ယွင်းမှုတွေ မရှိပါဘူး၊ ထိုစဉ်က ရဟန်းတော်များဟာ သတိ၊ ပညာကြီးမားတော်မူကြတာလည်း တစ်ကြောင်း၊ မာဂဓ ဘာသာကို ကျွမ်းကျင် တတ်မြောက်တော်မူလာကြတာလည်း တစ်ကြောင်းကြောင့် ထိုရဟန်းတော်များ ဖတ်တဲ့ ကမ္မဝါမှာ လိုနေမလား၊ မှားနေမလား စသည်ဖြင့် တစ်စုံတစ်ရာ သံသယမဝင်ကြဘဲ တစ်ကြိမ်ဖတ်ရုံမျှနဲ့ အောင်မြင်ထမြောက်တဲ့ ကံဖြစ်နေလို့ ယုံကြည်စိတ်ချရတဲ့အတွက် နောက်ထပ် သိမ်မထပ်ကြတော့ပါဘူး၊ "ဗျတ္တေန ဘိက္ခုနာ ပဋိဗလေန သံဃော ဉာပေတဗ္ဗော" အရ တစ်ပါးတည်း တစ်ကြိမ်တည်းပဲ ဖတ်ကြပါတယ်။ ဒါကြောင့် ဘုရားလက်ထက်တော်တုန်းက သိမ်ထပ် သိက္ခာထပ်ဆိုတာ မရှိခဲ့ပါဘူးလို့ ဖြေလိုက်ပါတယ်။

## မေးခွန်း(၂၈)

**အမေး** သားကြောဖြတ်ခြင်းဖြင့်ယောကျ်ား အင်္ဂါကို ချို့ယွင်းစေပြီးမှ ထိုသူသည် ရဟန်းမဖြစ်တော့ဟု ဆိုတာကို ဝိနည်းတော်အလို ဘယ်လို မှတ်သားရပါမည်လဲ။

ဦးမောင်မောင်ခင်

**အဖြေ** သာသနာတော်မှာ ရဟန်း မဖြစ်ထိုက်၊ ရဟန်းပြုခွင့်မရတဲ့ (အဘဗ္ဗ) ပုဂ္ဂိုလ်ဟာ...

၁။ ပဏ္ဍုက်၊

၂။ ရဟန်းများနဲ့ ပေါင်းသင်းဆက်ဆံနေထိုင်မှုကို ခိုးပြီး နေထိုင်တဲ့ ထေယျသံဝါသက ပုဂ္ဂိုလ်၊





၃။ တိတ္ထိအယူကို ကူးပြောင်းယူသွားသောသူ၊

၄။ လူယောင် ဖန်ဆင်းနိုင်တဲ့ နဂါး၊ ဂဠုန်၊ ကုမ္ဘဏ်၊ ယက္ခ၊ ဂန္ဓဗ္ဗ၊ နတ်၊ သိကြား အစရှိတဲ့ တိရစ္ဆာန်များ၊ (နတ်၊ သိကြားများကိုလည်း သည်နေရာမှာ တိရစ္ဆာန်လို့ ဆိုထားပါတယ်။)

၅။ အမိသတ်သူ၊

၆။ အဖသတ်သူ၊

၇။ ရဟန္တာသတ်သူ၊

၈။ ဘုရားရှင်ကိုယ်တော်၌ သွေးစိမ်းတည်အောင် သွေးခြည်ဥအောင် လုပ်သူ၊

၉။ သံဃာသင်းခွဲသူ၊

၁၀။ ဘိက္ခုနီကို ဖျက်ဆီးသူ၊ (မေထုန်လွန်ကျူးသူ)

၁၁။ ဥဘတောဗျည်းလို့ တစ်ဆယ့်တစ်မျိုး ရှိပါတယ်။

သည် (၁၁) မျိုးထဲက ပဏ္ဍုက်၊ ဥဘတောဗျည်းတို့အကြောင်း သိကောင်းစရာများတာ တစ်ကြောင်း၊ ပဏ္ဍုက်ဟာ သည်မေးခွန်းနဲ့ အထူးသက်ဆိုင်နေတာ တစ်ကြောင်းတို့ကြောင့် သူတို့အကြောင်း ခပ်စုံစုံကလေး ဖော်ပြပါမည်။

ပဏ္ဍုက်ဟာ– ၁။ အာသိတ္တက ပဏ္ဍုက်၊ ၂။ ဥသူယ

ပဏ္ဏာက်၊ ၃။ ဩပက္ကမိက ပဏ္ဏာက်၊ ၄။ ပက္ခ ပဏ္ဏာက်၊ ၅။ နပုံးပဏ္ဏာက်လို့ ငါးမျိုးရှိပါတယ်။

အဲသည် ငါးမျိုးမှာ...

(၁) သူတစ်ပါးသုက်ကို ပါးစပ်မှ သွန်းလောင်းလိုက်တဲ့အခါ (ပါးစပ်နဲ့ စုပ်ယူလိုက်တဲ့အခါ) မိမိ သုက်လည်း ထွက်သွားသဖြင့် မေထုန်မှီဝဲလိုစိတ် ကင်းပျောက်သွားတဲ့သူကို အာသိတ္တက ပဏ္ဏာက်လို့ ခေါ်ပါတယ်။

သူတစ်ပါးသုက်ကို စုပ်ယူပြီးမှ မေထုန်မှီဝဲတဲ့ အာသိတ္တက ပဏ္ဏာက်မျိုးလည်း ရှိပါတယ်။ မြို့တစ်မြို့မှာ လူမျိုးကွဲ အရာရှိတစ်ယောက်က မိန်းမပေါ့ ခေါ်၍ ဝမ်းနုတ်ဆေးနဲ့ ရောတဲ့ ငှက်ပျောသီးကို ကျွေးပြီး အဲသည် မိန်းမသွားတဲ့ ဓာတ်ကို စားပြီးမှ မေထုန်မှီဝဲပါသတဲ့။ ကံအကျိုးပေး ဆန်းလှပေသည်ဟု သဂြိုဟ်ဘာသာဋီကာမှာ ဆိုထားတာ တွေ့ရပါတယ်။ ဆန်းလည်းဆန်းပါပေ့ဗျ။

လူမျိုးကွဲ တချို့ဟာ လူပျိုလူရွယ် ကလေးတွေကို သွေးဆောင်ခေါ်ယူပြီး ပန်းကို စုပ်ယူတယ်လို့ မိမိတို့ ငယ်စဉ်က ကြားဖူးပါတယ်။ သူတို့ကို ပန်းစုပ်သမားလို့ ခေါ်ပါတယ်။ သူတို့ဟာ အာသိတ္တကပဏ္ဏာက်တွေပါပဲ။

(၂) တချို့ဟာ သူတစ်ပါးတို့ မေထုန်မှီဝဲနေတာကို ချောင်းကြည့်ပြီး မေထုန်မှီဝဲလိုစိတ်ဖြင့် မိမိသုက်လွတ်ထွက်သွားခါ ကိလေသာ အပူကို ငြိမ်းသွားပါတယ်။





(မေထုန်မှီဝဲလိုစိတ် ပျောက်သွားပါတယ်) သူတို့ကို ဥသူယ ပဏ္ဏာက်လို့ ခေါ်ပါတယ်။

(၃) နန်းတွင်း မိန်းမဆောင်ကို စောင့်ကြပ်အုပ်ချုပ်ရတဲ့ မိန်းမစိုးအမတ်တွေ နန်းတော်သူများနဲ့ ဖောက်ပြန်လိုစိတ် မရှိအောင် နွားသိုးများလို သင်းကွပ် (ဝှေးစေ့ဗီဇ ထုတ်ပစ်) သလို ရှင်းအမတ်များရဲ့ ဝှေးစေ့ ဗီဇကို ထုတ်ပစ် သွင်းကွပ်ထားတယ်လို့ ဆိုပါတယ်။ အဲသည်လို ဝှေးစေ့ ဗီဇ ထုတ်ပစ် (သင်းကွပ်) ထားသူကို ဩပက္ကမိက ပဏ္ဏာက်လို့ ခေါ်ပါတယ်။

(၄) လဆန်းပက္ခမှာ ဖြစ်စေ၊ လဆုတ်ပက္ခမှာ ဖြစ်စေ တစ်ပက္ခမှာ ကာမစိတ်ဓာတ် အထူး ထကြွပြီး မေထုန်မှီဝဲရမှ ကျေနပ်သူကို ပက္ခပဏ္ဏာက်လို့ ခေါ်ပါတယ်။

ဝိမတိဋီကာမှာတော့ လဆုတ်ပက္ခမှာ ကိလေသာ ကာမရာဂဟာ အရှူးအမူး ထကြွသောင်းကျန်းတယ်၊ မေထုန်မှီဝဲလိုက်ရမှ ငြိမ်ဝပ်သွားတယ်လို့ ဆိုပါတယ်။

(၅) မိန်းမ အင်္ဂါဓာတ်၊ ယောကျ်ား အင်္ဂါဓာတ် နှစ်မျိုးစလုံးပင် ထင်ထင်ရှားရှား မရှိသူကို နပုံးပဏ္ဏာက်လို့ ခေါ်ပါတယ်။

(၆) မိန်းမဖြစ်စေနိုင်တဲ့ ကံ၊ ယောကျ်ားဖြစ်စေနိုင်တဲ့ကံ ဤကံနှစ်မျိုးကြောင့် ဖြစ်သော အင်္ဂါဓာတ်ရှိသူကို ဥဘတောဗျည်းလို့ ခေါ်ပါတယ်။

သည် ဥဘတောဗျည်းမှာ မိန်းမ အင်္ဂါဇာတ်၊ ယောကျ်ား အင်္ဂါဇာတ် နှစ်မျိုးစလုံး ပြိုင်တူရှိနေတာ မဟုတ်ပါဘူး၊ တစ်မျိုးစီသာ အကြောင်းအားလျော်စွာ ထင်ရှားဖြစ်ပေါ်လာတာလို့ ဆိုပါတယ်။

ဒါကြောင့် ဥဘတောဗျည်းဟာ မိန်းမဥဘတောဗျည်း ယောကျ်ား ဥဘတောဗျည်းလို့ နှစ်မျိုးရှိပါတယ်။ မိန်းမ ဥဘတောဗျည်းမှာ ဣတ္ထိဘာဝရုပ် အမြဲပါပြီး ပုံသဏ္ဌာန် အနေအထား အဝတ်အစား အသွားအလာတို့ဟာ ရိုးရိုးမိန်းမများနှင့် တူပါတယ်၊ ထူးခြားချက်က အခြား မိန်းမတစ်ယောက်ကို မြင်ရ၍ ယောကျ်ားစိတ် ပေါ်လာတဲ့အခါ ရှေးအကုသိုလ်ကံကို အမှီပြုပြီး ရာဂစိတ် ထကြွမှုကြောင့် မိန်းမအင်္ဂါ မထင်ရှားတော့ဘဲ ယောကျ်ားအင်္ဂါ ထင်ရှားလာရတယ်လို့ ဆိုပါတယ်။

ယောကျ်ားဥဘတောဗျည်းမှာ ပုရိသဘာဝရုပ် အမြဲပါပြီး ပုံသဏ္ဌာန် အနေအထား အဝတ်အစား အသွားအလာတို့ဟာ ယောကျ်ားနဲ့ တူပါတယ်။ အခြား ယောကျ်ားတစ်ယောက်ကို မြင်ရ၍ မိန်းမစိတ် ပေါက်လာတဲ့အခါ ရှေးအကုသိုလ်ကံကို အဖော်ပြုပြီး ရာဂစိတ် ထကြွမှုကြောင့် ယောကျ်ား အင်္ဂါ မထင်ရှားတော့ဘဲ မိန်းမအင်္ဂါ ဖြစ်လာတယ်လို့ ဆိုပါတယ်။

သူတို့နှစ်ဦးရဲ့ ထူးခြားချက်ကတော့ မိန်းမ ဥဘတောဗျည်းဟာ ကိုယ်တိုင် ကိုယ်ဝန်ဆောင်တဲ့အပြင် ယောကျ်ားကိစ္စကို ဆောင်ရွက်ပြီး အခြား မိန်းမများကိုလည်း ကိုယ်ဝန်ပေးနိုင်ပါတယ်။

ယောကျ်ားဥဘတောဗျည်းကတော့ အခြားမိန်းမများကိုသာ ကိုယ်ဝန်ပေးနိုင်ပြီး ကိုယ်တိုင်တော့ ကိုယ်ဝန်မဆောင်နိုင်ဘူးလို့ ဆိုပါတယ်။

ဥဘတောဗျည်းဟာ ကျမ်းဂန်များ အဆိုအရ ဖော်ပြပြီးတဲ့ အတိုင်း အင်္ဂါဇာတ်နှစ်ခု ပြိုင်တူမဖြစ်ဘဲ တစ်ခုစီ တစ်လှည့်စီသာ ဖြစ်ပြီး မိန်းမဥဘတောဗျည်း၊ ယောကျ်ား ဥဘတောဗျည်းအားဖြင့် နှစ်မျိုးရှိတယ်လို့ အစဉ်အလာ မှတ်သားခဲ့ကြပါတယ်။

ဒါပေမယ့် အခုဖော်ပြမည့် အဖြစ်အပျက် အတွေ့အကြုံ အရ ဥဘတောဗျည်းဟာ ယောကျ်ား မိန်းမ အင်္ဂါဇာတ် နှစ်ခု တစ်ပြိုင်တည်းရှိနေတဲ့ ယောကျ်ား မိန်းမ ရောနှောနေတဲ့ ယောကျ်ား မိန်းမ ဥဘတောဗျည်း တစ်မျိုးထပ်တိုးပြီး ဥဘတောဗျည်း သုံးမျိုးရှိတယ်လို့ ပြောင်းလဲ မှတ်သားရတော့မလို ဖြစ်နေပါတယ်။

သည်လို ပြောင်းလဲ မှတ်သားဖို့ ဖြစ်စေတဲ့ အကြောင်းအရာမှာ အဓိက ဇာတ်ဆောင်ကတော့ (An Na Mafrenux) ဆိုတဲ့ အမျိုးသမီးလေးပဲ ဖြစ်ပါတယ်။ သူဟာ ပြင်သစ်ပြည်က နာမည်အကြီးဆုံး ရုပ်ရှင်မင်းသမီး ကလေးပါပဲ။

သူ့မှာ ယောကျ်ားအင်္ဂါ မိန်းမအင်္ဂါ နှစ်ခုစလုံး ပါပါတယ်။ အသက် (၂၂) နှစ်သာ ရှိသေးတဲ့ An Na ဟာ ၁၉၈၂ ခုနှစ်က တစ်ယောက်တည်းနှင့် မိမိဘာသာ ကိုယ်ဝန်ရှိပြီး စက်တင်ဘာလ (၂၁) ရက်နေ့က သားကလေး တစ်ဦး ထွန်းကားစေခဲ့ပါတယ်။ အင်္ဂါနှစ်ခုရှိတဲ့အတွက် တစ်ယောက်တည်းနဲ့ ကိုယ်ဝန်ရှိနေပြီ ဆိုတုန်းကလည်း အတီအလင်း ထုတ်ပြန်ကြေညာခဲ့ပါတယ်။

ကျွန်မ ကိုယ်ခန္ဓာက ယောကျ်ား မိန်းမ ရောနှောနေတော့ သုက်ရောမျိုးစေ့ပါ ထုတ်ပေးနိုင်စွမ်း ရှိပါတယ်။ ကွဲကြကွာကြနဲ့ အိမ်ထောင်ရေး အဆင်မပြေတဲ့ ကာလကြီးမှာ ကျွန်မအနေနဲ့ အိမ်ထောင်ပြုဖို့ မလိုတော့တာကိုက တစ်မျိုး ကျေနပ်စရာ ကောင်းနေပါတယ်လို့ သူက ပြောပါတယ်။

သူ့ ခန္ဓာကိုယ် အပေါ်ပိုင်းက အမျိုးသမီး တစ်ဦး အနေနဲ့ စွံမက်လောက်တဲ့ အနေအထားရှိပြီး အောက်ပိုင်းက အမျိုးသား တစ်ယောက်လို တောင့်တင်းနေတဲ့ အနေအထား ရှိတယ်လို့ ဆိုပါတယ်။ ဒါဟာလည်း သဘာဝတရား၏ သူ့ဟာနဲ့သူ အဆင်ပြေ အချိုးကျအောင် ဖန်တီးတတ်ပုံ နှစ်သက်စရာ ရှုကွက်ကလေး တစ်ကွက်လို့ ဆိုရမှာပဲ။

ဒါကြောင့် ဥဘတောဗျည်းဟာ နှစ်မျိုးမဟုတ် သုံးမျိုး ဖြစ်တယ်လို့ မှတ်သားသင့်မည်ထင်ကြောင်း တင်ပြလိုက်ရပါတယ်။





ဖော်ပြပါ အကြောင်းအရာကတော့ ၁၉၉၃–ခု၊ ဖေဖော်ဝါရီလထုတ် ရွှေအမြုတေမဂ္ဂဇင်းမှာ "တစ်ယောက်တည်းနဲ့ သားမွေးတဲ့ ရုပ်ရှင်မင်းသမီး"ဆိုတဲ့ ခေါင်းစဉ်နဲ့ ပါလာတဲ့ အကြောင်းအရာကလေးပဲ ဖြစ်ပါတယ်။

## ပဏ္ဍုက်

ပဏ္ဍုက်နဲ့ ပတ်သက်တဲ့ သိကောင်းစရာ ကိစ္စများကို အတော်စုံစုံဖော်ပြခဲ့ပြီး အဲသည် ပဏ္ဍုက်တွေထဲက အာသိတ္တကနဲ့ ဥဿူယပဏ္ဍုက်တို့ဟာ ယောကျ်ားစင်စစ် ဖြစ်တာကြောင့် ရဟန်းပြုခွင့် ရပါတယ်။ ဆိုင်ရာပြစ်မှု ကျူးလွန်မှသာ ရဟန်းအသွင်ကို ပယ်ဖျက်ပြီး လူထွက်စေရပါတယ်။

ပက္ခပဏ္ဍုက်ဟာလည်း ယောကျ်ား စစ်စစ်ပဲ ဖြစ်တဲ့အတွက် ကိလေသာ မပူလောင်တဲ့ ပက္ခမှာ ရဟန်းပြုကောင်းပါတယ်။ ကိလေသာ ပူလောင်တဲ့အခါ တရားနှလုံးသွင်း ပယ်ဖျောက်နေနိုင်လျှင် ရဟန်းဘဝမှာ ရပ်တည်နေနိုင်ပါတယ်။

ဒါကြောင့် ပဏ္ဍုက်တိုင်း ရဟန်းမပြုကောင်းတာ မဟုတ်။ ဩပက္ကမိကနှင့် နပုံးပဏ္ဍုက် နှစ်မျိုးသာ ရဟန်းမပြုကောင်းတာလို့ မှတ်ရပါမယ်။

အခု ပြဿနာနှင့် တိုက်ရိုက် သက်ဆိုင်တဲ့ ဩပက္ကမိက ပဏ္ဍုက်အကြောင်းလည်း အတော်ကလေး ဖော်ပြခဲ့ပြီးပါပြီ။ သခု ဆက်လက် ဖော်ပြပါမယ်။

ယောကျ်ားတစ်ယောက်ရဲ့ ဗီဇ ဝှေးစေ့ကို ဖြတ်ထုတ်လိုက်တဲ့အခါ ယောကျ်ားအင်္ဂါ (လိင်) ဟာ မေထုန်မှီဝဲနိုင်လောက်အောင် မသန်စွမ်းတော့ဘဲ ညှိုးနွမ်းသွားပါတော့တယ်။ ပုရိသဘာဝ ရုပ် ကွယ်ပျောက်သွားတဲ့အတွက် ယောကျ်ားအင်္ဂါလက္ခဏာပုံဟန် အသွင်သဏ္ဍာန် အရည်အသွေး စွမ်းရည်သတ္တိတွေပါ ပျောက်ကွယ်သွားပြီး မေထုန်မှီဝဲလိုစိတ် ကင်းပျောက်သွားပါတယ်။

ယောကျ်ားစစ်စစ် ပီပီသသမဟုတ်တော့ဘဲ ယောကျ်ားမဟုတ် မိန်းမ မဟုတ်. နပုံးပဏ္ဍုက်လို ဖြစ်သွားပါတယ်။ သူ့ကို ဩပက္ကမိကပဏ္ဍုက်လို့ ခေါ်ပါတယ်။ သူဟာ ယောကျ်ားစစ်စစ် မဟုတ်တော့တဲ့အတွက် ရဟန်းပြုခွင့် မရတော့ပါဘူး။

လူသာ မဟုတ်ပါဘူး။ ကျွဲ၊ နွား၊ ခွေး၊ ဝက်၊ ကြောင် စသည်တို့ရဲ့ ဗီဇ ဝှေးစေ့ ကို ထုတ်ပစ်လိုက်လျှင်လည်း သူတို့ဟာ မေထုန်မှီဝဲလိုစိတ် မရှိတော့ဘဲ၊ သည်ကိစ္စကိုဘာမှ စိတ်မဝင်စား အရေးမထားတော့ဘဲ အေးအေးဆေးဆေးချမ်းချမ်းသာသာ နေလိုက်ကြတာကို တွေ့ရပါတယ်။

အားမာန် စွမ်းအင်သတ္တိ လျော့ကျသွားတာကို တွေ့ရပါတယ်။ ဩပက္ကမိကပဏ္ဍုက် ဖြစ်သွားတယ်လို့ ဆိုရမှာပါပဲ။

ယောကျ်ား အင်္ဂါ(လိင်) ကို ဖြတ်လိုက်ရုံနဲ့ကတော့ သည်လို ဖြစ်မသွားပါဘူး။ ပုရိသဘာဝရုပ် ကွယ်ပျောက်သွားတာ မဟုတ်၊ ပုရိသဘာဝရုပ် ရှိမြဲရှိနေတဲ့အတွက် ပုရိသဘာဝရုပ်ကြောင့် ဖြစ်ပေါ်လာတဲ့ ယောကျ်ား ပုံဟန် အသွင်သဏ္ဍာန် အားမာန်သတ္တိတွေ ကွယ်ပျောက်မသွားဘဲ ယောကျ်ားအစစ်ဖြစ်မြဲဖြစ်နေပါတယ်။ ဒါကြောင့် အနာရောဂါကြောင့် ဖြစ်စေ၊ တစ်စုံတစ်ခု ပယောဂကြောင့် ဖြစ်စေ ယောကျ်ားအင်္ဂါမရှိ၊ ငုံးတိတိ ဖြစ်နေသူဟာ ရဟန်းပြုလို့ ရပါတယ်။

လိင်ကို ဖြတ်တာ ဗီဇဝှေးစေ့ကို ဖြတ်ထုတ်တာကို သားကြောဖြတ်တယ် ခေါ်သလား။

သားကြောဖြတ်တာ ဘယ်လိုဟာလည်းလို့ မသိတာနှင့် မေးမြန်းစုံစမ်းတဲ့အခါ ဆေးပညာရှင် ကျွမ်းကျင်တဲ့ပုဂ္ဂိုလ်ကြီး တစ်ဦးက...

## ယောကျ်ားများ သားကြောဖြတ်တောက်ခြင်း

ယောကျ်ားများအား ဝှေးစေ့အောက်မှာ ရှိသောအကြောမှ သွားသော ပိုးများကို ဖြတ်တောက်ခြင်း ဖြစ်သည်။ ၎င်းအကြော ပုံသဏ္ဍာန်သည် စက်ဘီးကျွတ်ကဲ့သို့ ဝှေးစေ့အောက် နှစ်ဘက်နှစ်ချက်၌ ရှိပါသည်။

၎င်းနှစ်ဘက်နှစ်ချက်၌ ရှိသော ပိုးလွှတ်သော သွေးကြောကို ဖြတ်တောက်မှသာ မျိုးစေ့ မပြန့်တော့ဘဲ ရှိသည်။ ဖြတ်တောက်ရာတွင် အထူးသတိထားရမည်။ ဖြတ်တောက်ပြီးသော ယောကျ်ားများသည် မေထုန်မှီဝဲခြင်း မပျော့ဘဲ

အားပိုလာပြီးလျှင် နောက်မိန်းမများ အထူး ယူလိုစိတ် ပေါ်ပေါက်လာပါသည်။

မိန်းကလေးများ သားကြောဖြတ်ရာတွင် ခေါင်းများ မူးဝေခြင်း၊ သားအိမ်၌ အလုံးများ ဖြစ်လာခြင်း ကာမရာဂ နည်းလွန်းခြင်း၊ ဝဖြိုးလာခြင်းခြင်း ဖြစ်လာတတ်သည်။ သားအိမ်ထဲတွင် အသားတိုး၊ သပျစ်သီးပုံသဏ္ဌာန်များ ဖြစ်ပေါ်လာသည်ကို တွေ့ရတတ်သည်ဟု ရှင်းပြပါသည်။

သည်ရှင်းပြချက်ကို ကြည့်ခြင်းအားဖြင့် သားကြောဖြတ် လိုက်တဲ့အတွက် ယောကျ်ားအဖြစ်မှ ဩပက္ကမိကပဏ္ဍုက် အဖြစ်သို့ ပြောင်းလဲမသွားဘဲ ယောကျ်ားစစ်စစ်ပဲ ဖြစ်နေတာကြောင့် သားကြော အဖြတ်ခံရသူဟာ ရဟန်းဖြစ်နိုင်ကြောင်း မှတ်သားရမည်လို့ ဖြေဆိုလိုက်ပါတယ်။



## အခန်း(၂၉)

**အမေး(၁)** သပိတ်ကို သပိတ်အိတ်နှင့် ဆွမ်းခံကြွသော ရုပ်တုသည် ရှင်သီဝလိမှ တစ်ပါး ဘုရားရှင်နှင့်တကွ အခြားသော ရဟန်းသံဃာတို့၏ ပန်းချီရုပ်တို့မှာ မတွေ့ဘူးပါ။ ဘုရားရှင်သည် ဘုရားရှင် လက်ထက်မှာ ရှင်သီဝလိကို သီးသန့်ခွင့်ပြုထားခြင်းလား ဘုရား။ သပိတ်အိတ်လည်း ယခုခေတ် သပိတ်အိတ်နှင့် တူပါသလား။

**အမေး(၂)** ပုတီးစိပ်ခြင်းဖြင့် စိတ်၏ တည်ငြိမ်မှုကို ဖြစ်စေ၏ဟု ကြားဖူးရာ အခြား အဘယ်အကြောင်းများကို ဖြစ်စေနိုင်ပါသေးသလဲ။ အကယ်၍ စိတ်၏ ငြိမ်သက်မှု သက်သက်ဆိုပါက အခြားသော အာရုံတစ်ခုခုနှင့် လုပ်၍ မရတော့ဘူးလား ဘုရား။

**အမေး(၃)** ...... ပုတီးနှင့်ရဟန်းရှင်သီဝလိမှတစ်ပါး မတွေ့ဖူးပါ၍ အခြားသော ရဟန်းများလည်း ဘုရားရှင်လက်ထက်၌ ပုတီးစိပ်ကြပါသလား။ ဘုရားရှင် ကိုယ်တော်တိုင် ပုတီးစိပ်ရန် ခွင့်ပြုထား ပါသလား။

**မောင်ဒွေးအောင်**
**အမှတ်(၈)၊ သိပ္ပံလမ်း၊ မြောင်းမြို့။**

**အဖြေ(၃)** ရှင်သီဝလိ ကိုယ်တော်နှင့် သပိတ်အိတ် ပြဿနာကို ဖြေဆိုရလျှင်...

ဘုရားရှင် လက်ထက်တော်က ရဟန်း သံဃာတော်များ သပိတ်အိတ်နှင့် ဆွမ်းခံတယ်လို့ စာပေထဲမှာ မတွေ့ဖူးပါဘူး။ တောကျောင်းနေ ရဟန်းတော်များ ဆွမ်းခံကြတဲ့အခါ သပိတ်အိတ်ထဲကို သပိတ်ထည့် ပခုံးနှင့် လွယ်ယူသွားပြီး ရွာထဲဝင်ခါနီးမှာ သပိတ်ကို အိတ်ထဲမှ ထုတ်ယူရေဆေး သပိတ်ပိုက်ခါ ဆွမ်းခံကြပါတယ်။ ဆွမ်းခံပြီး ရွာထဲက ပြန်ထွက်၊ ရွာပြင်ရောက်တဲ့အခါ သပိတ်ကို အိတ်ထဲပြန်ထည့်၊ ပခုံးမှာ လွယ်ပြီး ကျောင်းကို ပြန်ကြွကြတယ်လို့ ဆိုပါတယ်။

**(စူဠဝါပါဠိတော် အာရညဝတ္တကထာ)**

သည်ပါဠိတော် အဆိုနှင့်စပ်ပြီး ရှေးဆရာတော်ကြီးများ သပိတ်အိတ်နှင့် ဆွမ်းခံကောင်း မခံကောင်း အယူအဆ





ကွဲပြားတော်မူကြတယ်လို့ သိရပါတယ်။ ကွဲပြားတော်မူတဲ့ ဆရာတော်ကြီးများကလည်း တကယ့် ထိပ်တန်းဆရာတော်ကြီးများ ဖြစ်ပါတယ်။

တစ်ရံရောအခါ သာသနာပိုင် ဆရာတော် ဦးဥေယျက သင်္ဂဇာ ဆရာတော်ကို "ဟဲ့ အဂ္ဂ၊ နှင့် တပည့်များကို သပိတ်အိတ်နှင့် ဆွမ်းမခံစေနှင့် မအပ်ဘူး၊ ရှေးက တောကျောင်းဘုန်းကြီးများ ရွာသို့ ဆွမ်းခံသွားသည့်အခါ ရွာအနီးသို့ ရောက်လျှင် သပိတ်အိတ်ကိုချွတ်၍ ရွာသို့ ဝင်ကြကြောင်း အာရညကဝင်၌ လာသည်" ဟု ဆိုလေလျှင်–

သင်္ဂဇာဆရာတော်က အကျိုးလို၍ ဆိုသော စကား မဟုတ်မှန်းသိ၍ သီးလုံးဆရာတော်ဘုရားကြီးရှိရာ လက်အုပ်ချီ၍...

ပါဠိ အဋ္ဌကထာ ဋီကာ ကျမ်းဂန်တို့ကို ထိုးထွင်း၍ ခေါင်ချဉ်းအောင် တတ်တော်မူသော ကျေးဇူးရှင် သီးလုံးဆရာတော်ဘုရားကြီး၏ နည်းတော် "ငါ့တပည့်များ အရဟတ္တဖိုလ်သို့ တိုင်အောင် သပိတ်အိတ်လွယ်၍ ခံကြလေ" ဟု သာသနာပိုင် ဆရာတော် ဦးဥေယျ၏ ရှေ့တွင် မိန့်ဆိုကြောင်း တစ်ဆင့် စကား ကြားလိုက်ရ၏။

ဗန်းမော် ဆရာတော်ကလည်း အာရညကဝင်မှ လာသော သပိတ်အိတ်ကား သပိတ်မပွန်းရုံ ထည့်ထားရသော

သူတောင်းစားများ အိတ်ကြီးနှင့်တူသော အိတ်ဖြစ်၍ အိတ်နှင့်တကွ ဆွမ်းခံ၍ မဖြစ်သောကြောင့် ချုတ်ရသည်။ မအပ်၍ အာပတ်သင့်၍ ချုတ်ရသည် မဟုတ်။ ယခု ကာလအိတ်များကား ဆွမ်းခံ၍လည်း ဖြစ်၏။ သပိတ်လွယ်၍ ဆွမ်းခံလျှင် ဣန္ဒြေရ၍ သမဏသာရုပ္ပလည်း ဖြစ်လှ၏။ လက်သျှောင်း သက်သာ ကိုယ်ချမ်းသာ၍ လွန်စွာ ကျေးဇူးလည်း များလှ၏ စသည်ဖြင့် အဆုံးအဖြတ်ရေးသည်ကို ရှေးငယ်စဉ်က တွေ့ဖူးရပေ၏ဟူ၍ **ဝိသုဒ္ဓါရုံ** အဆုံးအဖြတ်ကျမ်းမှာ တွေ့ရပါတယ်။

ပါဠိတော်အဆိုနှင့် ဆရာတော်ကြီးများ၏ အဆိုများကို ကြည့်ပြီး ကောက်ချက်ချရလျှင် သပိတ်အိတ်ဟာ ရှင်သိဝလိ ကိုယ်တော်တစ်ပါးတည်းအတွက် သီးသန့်ခွင့်ပြုတော် မူထားတာမဟုတ်ဘဲ ရဟန်းအားလုံးအတွက် ခွင့်ပြုထားတာ ဖြစ်တယ်ဆိုတာ သိနိုင်ပါတယ်။

ရှင်သိဝလိ ကိုယ်တော်ရဲ့ ပန်းပုရုပ်တု ပန်းချီကားများမှာသာ သပိတ်အိတ်ထည့်ပြီး ထုလုပ်ရေးဆွဲထားလေ့ ရှိတာကတော့ ရှင်သိဝလိ ကိုယ်တော်မြတ်ကြီးဟာ လာဘ်လာဘ ပေါများတဲ့နေရာမှာ ဧတဒဂ်ရ ကိုယ်တော်ကြီးဖြစ်တဲ့ အတွက် ဒီလိုလာဘ်လာဘပေါများကြောင်း ပေါ်လွင်ထင်ရှားအောင် သပိတ်အိတ်ကိုထည့်ပြီး ထုလုပ်ရေးဆွဲကြတယ်ဆိုလျှင် လက်ခံနိုင်ကောင်းစရာ ရှိတယ် ထင်ပါတယ်။

ဟိုတုန်းက သပိတ်အိတ်နှင့် ယခုခေတ် သပိတ်အိတ်



တူမတူဆိုတာကတော့ ဗန်းမော်ဆရာတော်ကြီးရဲ့ အဆိုအမိန့်နှင့်ပဲ သိသာထင်ရှားနေပြီ ဖြစ်တယ်လို့ ဖြေဆိုလိုက်ပါတယ်။

**အဖြေ(၂)(၃)** စိပ်ပုတီးအကြောင်း ပုတီးစိပ်တာနှင့် ပတ်သက်ပြီး မေးခွန်းနှစ်ခုစလုံးကို တစ်ပေါင်းတည်းပြု ဖြေပါ့မယ်။

သည်လို ဖြေတဲ့အခါ စိပ်ပုတီးရဲ့ သမိုင်းကြောင်းကိုပါ ထည့်ပြီး ဖြေဆိုမှ ပြည့်စုံမှာမို့ ၎င်းစိပ်ပုတီးရဲ့ သမိုင်းကြောင်းကို အပြည့်စုံ မဟုတ်တောင် အတော်ကလေး စုံစုံလင်လင် ပြောရမှာ ဖြစ်ပါတယ်။

စိပ်ပုတီးဟာ လွန်ခဲ့တဲ့ နှစ်ပေါင်း လေးထောင်ကျော်လောက်က အိန္ဒိယနိုင်ငံ အိန္ဒုမြစ်ဝှမ်းဒေသက စတင်ပေါ်ပေါက်လာခဲ့ပြီး အဲဒီ အိန္ဒုမြစ်ဝှမ်းဒေသမှာ နေထိုင်ကြတဲ့ အာရိယန်လူမျိုးများက ၎င်းကို စတင်အသုံးပြုလာခဲ့ကြပါတယ်။

ရှင်တော်ဗုဒ္ဓ ပွင့်တော်မမူမီ နှစ်ပေါင်း နှစ်ထောင်လောက်ကတည်းက စိပ်ပုတီး ပေါ်ပေါက်နေပြီ ဖြစ်ကြောင်း ထိုခေတ် သမိုင်းကို ရေးသားပြုစုထားခဲ့ကြတဲ့ သက္ကတပုရာဏ်ကျမ်း၊ နာဂရိပူရမ်ကျမ်းကြီးများမှာ ခိုင်လုံတဲ့ အထောက်အထားများ တွေ့ရတယ်လို့ ဆိုပါတယ်။

အာရိယန်တို့ဟာ...

ဣရုဗ္ဗေဒကျမ်း

သာမဗေဒကျမ်း

ယဇုဗေဒကျမ်း

အာထဗ္ဗဏဗေဒကျမ်း

ဆိုတဲ့ (ဝေဒဗေဒင်) ကျမ်းကြီးလေးကျမ်းကို အထွတ်အမြတ် ထားကြပါတယ်။

သည်ကျမ်းကြီး လေးကျမ်းကို လောကကို စောင့်ရှောက်တဲ့ ဗြဟ္မာကြီးရဲ့ မျက်နှာလေးဘက်ရှိ ခံတွင်းလေးပေါက်တို့ဖြင့် အသီးသီး ဟောပြော မိန့်ကြားထားတဲ့အတိုင်း ရှေးကာလ အာရိယန်လူမျိုး ရသေ့ပညာရှိကြီးများက မှတ်တမ်းတင်ရေးသားပြုစုထားခဲ့ကြတာ ဖြစ်တယ်လို့ အိန္ဒိယသမိုင်း ကျမ်းများမှာ အဆိုရှိပါတယ်။

အဲသည် ဗြဟ္မာကြီးရဲ့ ရုပ်တု ပန်းချီကားချပ်များမှာ လက်လေးဘက်ပါရှိပြီး လက်တစ်ဘက်က ဗေဒင်ကျမ်းစာအုပ်၊ လက်တစ်ဘက်က စိပ်ပုတီး၊ လက်တစ်ဘက်က ဆီမွှေးမီးခွက်၊ လက်တစ်ဖက်က ဆီခပ်ဖို့ ဇွန်းကို အသီးသီး ကိုင်ဆောင်ထားတာ တွေ့မြင်ရခြင်းဟာ ထိုအချိန်က စိပ်ပုတီး ပေါ်နေပြီဖြစ်ကြောင်း နိုင်လုံတဲ့ သာဓက တစ်ရပ်လို့ ယူဆကြပါတယ်။

သည်သမိုင်းကြောင်းအရ လွန်ခဲ့တဲ့ နှစ်ပေါင်း လေးထောင်လောက်က အိန္ဒုမြစ်ဝှမ်းမှာ ဦးစွာ ပေါ်ပေါက်လာတဲ့





စိပ်ပုတီးဟာ နောက်ပိုင်းကာလ ဗုဒ္ဓသာသနာ ပြန့်ပွားသွားလေသမျှ အခြားနိုင်ငံများစွာသို့ သာသနာရေးနှင့် တစ်စပ်တည်း ပြန့်နှံ့ သွားပါတယ်။

စိပ်ပုတီးဟာ တကောင်းခေတ်၊ ပုဂံခေတ်များ ကောင်းစားစဉ်က မြန်မာပြည်ကို စတင်ရောက်လာတယ်လို့ ခန့်မှန်းရပါတယ်။ အဲသည် အချိန်က အိန္ဒိယနဲ့ မြန်မာပြည်တို့ရဲ့ ယဉ်ကျေးမှု၊ အနုပညာ၊ အတတ်ပညာများသည်လည်းကောင်း၊ သာသနာရေးသည် လည်းကောင်း၊ တစ်စပ်တည်း ရောယှက်နေကြကြောင်း ရာဇဝင်သမိုင်းကြောင်း အထောက်အထားများ အခိုင်အမာ ရှိခဲ့လို့ပါပဲ။

ဒါပေမယ့် ထေရဝါဒလာ သုံးပုံပိဋကတ် ငါးရပ်နိကာယ် ကိုးသွယ်အင်္ဂါ ရှစ်သောင်းလေးထောင်သော ဓမ္မခန္ဓာများထဲမှာတော့ စိပ်ပုတီးနဲ့ ပတ်သက်တဲ့ အဆိုအမိန့်ဟာ တစ်စွန်းတစ်စမှ ပါတာ မတွေ့ရပါဘူး။ ဒါကို ထောက်လျှင် ရှင်တော်ဘုရားနှင့်တကွ ဘယ်တပည့်သား ရဟန်းတော်များမှ ပုတီးမစိပ်ကြဘူးဆိုတာ သိသာပါတယ်။ ရှင်သီဝလိ ကိုယ်တော်လက်ထဲ စိပ်ပုတီး ရောက်နေတာကတော့ ပန်းချီ၊ ပန်းပုဆရာတို့ စိတ်ကူးယဉ်ရာက လက်ပါသွားတာ ဖြစ်ကြောင်း စရာ ရှိပါတယ်။

ဆက်ပြီးပြောရလျှင် ပုတီးစိပ်ခြင်းဟာ လေးမျိုး ရှိပါတယ်။

၁။ တစ်စုံတစ်ခုသော အရာ၏ အရေအတွက်ကို သိလိုတဲ့အတွက် စိပ်ခြင်း၊ ဥပမာ အရဟံ ဂုဏ်တော်ကို (၁၀၈) လုံး ပုတီးဖြင့် (၁၀) ပတ်စိပ်ပြီး အရဟံ ဂုဏ်တော် တစ်ထောင် ရပြီ စသည် ရေတွက်ခြင်းမျိုး။

၂။ နှုတ်က ရွတ်ဆိုစဉ် ပုတီးစိပ်ခြင်း၊ ဥပမာ အထက်လမ်း ဆရာများ၊ ဗိန္ဓောဆရာများ၊ ပယောဂ ဆရာများ၊ ဂိုဏ်းဆရာများ စသည် တို့ဟာ ဘုရားဂုဏ်၊ တရားဂုဏ်၊သံဃာတော် ဂုဏ်များ၊ မိမိတို့ဆိုင်ရာ လောကီမန္တန်များ၊ ပရိတ်တရားတော်များနှင့် ထိုထိုသုတ်တော် များကို တန်ခိုးထက်မြက်စေရန် ရည်စူး၍ ရွတ်ဆိုစဉ် ပုတီးစိပ်ခြင်းမျိုး။

၃။ မိမိလိုရာ အာရုံကို မှန်း၍ အသံမထွက်ဘဲ (အသံတိတ်) ပုတီးစိပ်ခြင်း၊ ဥပမာ–ယခု အခါ ရဟန်း, ရှင်, လူတို့ ဂုဏ်တော်များကို စိတ်ထဲက ကြည်ညို၍ လည်းကောင်း၊ လက္ခဏာရေးသုံးပါးတို့ကို ဉာဏ်နှင့် ဆင် ခြင်၍ လည်းကောင်း တိတ်ဆိတ်စွာ ပုတီးစိပ်ခြင်းမျိုး။

၄။ မေတ္တာပို့ခြင်း၊ ဆုတောင်းခြင်း ပြုရာမှာ





မိမိလိုရာ အာရုံကို စိတ်ထဲက မှန်းဆပြီးတော့ အသံတိတ် ဖြစ်စေ၊ နှုတ်မြွက်ရွတ်ဆိုပြီး တော့ ဖြစ်စေ ပုတီးစိပ်ခြင်းလို့ လေးမျိုး ရှိပါတယ်။

ဒီလေးမျိုးစလုံးဟာ စိတ်၏ တည်ငြိမ်မှုကို ဖြစ်စေရုံ သာမက စိတ်တန်ခိုး ထက်မြက်ခြင်း၊ အန္တရာယ်ကင်းခြင်း၊ ကိုယ်ရောစိတ်ပါ ကျန်းမာချမ်းသာခြင်း၊ အလိုဆန္ဒ ပြည့်စုံ ခြင်း၊ စည်းစိမ်ဥစ္စာနဲ့ ပြည့်စုံခြင်း၊ လူရောနတ်ပါ အများ သူငါတို့၏ မေတ္တာကို ခံယူရရှိခြင်း အစရှိတဲ့ နှိုင်းယှဉ်တိုင်းတာ လို့ မရကောင်းတဲ့ ကောင်းကျိုးချမ်းသာ မင်္ဂလာကျက် သရေတွေကိုလည်း ဖြစ်စေနိုင်ပါတယ်လို့ မှတ်သားဖို့ ဖြစ်ပါ တယ်။

ယခု ဖော်ပြလိုက်တာက အိန္ဒိယ စာပေလာ စိပ်ပုတီး သမိုင်းအကြောင်းပါပဲ။

## မြန်မာနည်း စိပ်ပုတီး

ရှေးက မြန်မာဆရာတော်ကြီးများ ကြံဆတီထွင် ခဲ့ကြတဲ့ စိပ်ပုတီး သမိုင်းကြောင်းကို တစ်ချိန်က မန္တလေး မြို့မှာ စာချဆရာတော်ကြီးနှင့် ဓမ္မကထိကကြီး ဖြစ်ခဲ့ဖူးတဲ့ အဘိဓမ္မာဆရာကြီး ဦးသိန်းအောင်က "သံသရာထွက်ရာ လမ်း" ဆိုတဲ့ ခေါင်းစဉ်နဲ့ ပဋိစ္စသမုပ္ပါဒ်တရား ဟောကြား

ရာမှာ ရှေးဆရာတော်ကြီးများ မိန့်ကြားတော်မူချက်ကို ထည့်သွင်း ဟောကြားသွားပုံကတော့။

သခ်ါရ သဘောတရားကို နားလည်လိုလျှင် စိတ်အစဉ်ဖြစ်ပေါ်ပုံကို အမြင်ပိုင်အောင် လေ့လာရမည်။ ရှေးအခါက ပဋ္ဌိပတ်အကျင့်ကို လေ့လာသူ သီလ စောင့်ထိန်းကြတဲ့ ယောက်ျား၊ မိန်းမတို့သည် ပညာ သိက္ခာဟူသော ဝိပဿနာကို ပွားတတ်ကြစေရန် ကြိုးငယ်အထုံးပေါင်း (၁၇) ထုံး ပြုကာ အတီတဘဝင်၊ ဘဝင်္ဂစလန၊ ဘဝင်္ဂုပစ္ဆေဒ၊ ပဉ္စဒွါရာဝဇ္ဇန်း၊ ပဉ္စဝိညာဏ်၊ သမ္ပဋိစ္ဆိုန်း၊ သန္တီရဏ၊ ဝုဋ္ဌော၊ ဇောခုနစ်ကြိမ်၊ တဒါရုံ နှစ်ကြိမ်အားဖြင့် (၁၇) ကြိမ် တိုင်တိုင် ဖြစ်ပေါ်လာတဲ့ ဝီထိစိတ် အစဉ်ပေါ်လွင် ထင်ရှားအောင် ကြိုးထုံးကလေး (၁၇) ထုံးဖြင့် ရေတွက်မှတ်သားပြီး ဆင်ခြင်ကြပါတယ်။ အဲဒီ ဝီထိစိတ်အစဉ်ကို ပါဠိစကားဖြင့် "စိတ္တပဋိပါတိ" လို့ ခေါ်ပါတယ်။ စိတ်အစဉ်ကို ရေတွက်မှတ်သားကြောင်း ဖြစ်တဲ့ အထုံးကလေး (၁၇) ထုံး တန်းစီနေတဲ့ ကြိုးငယ်ကလေးကိုတော့ မြန်မာလို စိပ်ပုတီးလို့ ခေါ်လိုက်ပါတယ်။

အဲဒါကတော့ ရှေးမြန်မာ ဆရာတော်ကြီးများ ကြံဆတီထွင်ထားတဲ့ (၁၇) လုံးပါ စိပ်ပုတီးသမိုင်း ဖြစ်ပါတယ်။

အိန္ဒိယနိုင်ငံသားတို့က စိပ်ပုတီးကို "မာလ–အစဉ်အတန်း" လို့ ခေါ်ပါတယ်။ ကြိမ်သီးအစရှိတဲ့ တစ်မျိုးမျိုး





သော အလုံးကလေးတွေကို အပေါက်ဖောက်ပြီး ကြိုးနဲ့သီကုံးထားတဲ့ အလုံးအစဉ်အတန်းလို့ ဆိုလိုပါတယ်။

မြန်မာ့နည်း စိပ်ပုတီးအတွက်ကတော့ (စိတ္တ–စိတ်၊ ပဋိပါတိ–အစဉ်အတန်း) ပုတီး၊ စိတ္တ ပဋိပါတိ၊ စိပ်ပုတီးလို့ ကြံဆမှတ်သားရပါတယ်။ ဒီမြန်မာ့ စိပ်ပုတီးသမိုင်းအရ ဆိုလျှင်တော့ စိပ်ပုတီးလို့ ပ,အသတ်နဲ့ မရေးရဘဲ စိတ်ပုတီးလို့ တ,အသတ်နဲ့ ရေးသင့်တယ် ထင်ပါတယ်။

ဒါတွေအားလုံး ပေါင်းရုံးသုံးသပ်ပြီး မောင်ဒွေးအောင်ရဲ့ အမေးများကို...

၁။ ပုတီးစိပ်ခြင်းဟာ စိတ်၏ တည်ငြိမ်မှုကိုသာမက အခြား အကျိုးထူးတရားများကိုလည်း ဖြစ်စေပါသေးတယ်။

၂။ ဘုရားရှင် လက်ထက်တော်တုန်းက ဘယ်ရဟန်းမှ ပုတီးမစိပ်ပါဘူး။

ဘုရားရှင်ကလည်း ပုတီးစိပ်တာနဲ့ ပတ်သက်လို့ တစ်စုံတစ်ရာ ဘာမှ မိန့်ကြားတော် မမူခဲ့ပါဘူးလို့ ဖြေဆိုလိုက်ပါတယ်။

## အမေး(၁၀)

**အမေး** အာဇီဝဋ္ဌမကသီလ ဆိုတာ ဘယ်လိုဟာပါလဲ ဘုရား။

မောင်လွှမ်းဝေ

**အဖြေ**

၁။ ပါဏာတိပါတာ ဝေရမဏီ သိက္ခာပဒံ သမာဒိယာမိ။

၂။ အဒိန္နာဒါနာ ဝေရမဏီ သိက္ခာပဒံ သမာဒိယာမိ။

၃။ ကာမေသု မိစ္ဆာစာရာ ဝေရမဏီ သိက္ခာပဒံ သမာဒိယာမိ။

၄။ မုသာဝါဒါ ဝေရမဏီ သိက္ခာပဒံ သမာဒိယာမိ။





၅။ ပိသုဏာဝါစာ ဝေရမဏီ သိက္ခာပဒံ သမာဒိယာမိ။

၆။ ဖရုသဝါစာ ဝေရမဏီ သိက္ခာပဒံ သမာဒိယာမိ။

၇။ သမ္ဖပ္ပလာပါ ဝေရမဏီသိက္ခာပဒံ သမာဒိယာမိ။

၈။ မိစ္ဆာဇီဝါ ဝေရမဏီသိက္ခာပဒံ သမာဒိယာမိ။

ဆိုတဲ့ သိက္ခာပုဒ် (၈) ပါးပဲ ဖြစ်ပါတယ်။

ရှစ်ခုမြောက်ကို အဋ္ဌမလို့ ခေါ်ပါတယ်။ သည်သီလမှာ ပါဏာတိပါတက စပြီး ရေတွက်လျှင် မိစ္ဆာဇီဝါ ဝေရမဏီဟာ ရှစ်ပါးမြောက် သိက္ခာပုဒ် ဖြစ်ပါတယ်။ ဒါကြောင့် သည်သီလကို အာဇီဝဋ္ဌမက (မိစ္ဆာဇီဝမှ ရှောင်ကြဉ်မှုလျှင် ရှစ်ပါးမြောက်ရှိတဲ့ သီလ) လို့ ခေါ်ရပါတယ်။

ရှင်တော်ဘုရား လက်ထက်က အာဇီဝဋ္ဌမက သီလကို စောင့်ကြတယ်လို့ ဆိုရပါမယ်။ ဒါပေမယ့် ယခုခေတ်လို အဟံ ဘန္တေ တိသရဏေန သဟ အာဇီဝဋ္ဌမကသီလံ ဓမ္မံ ယာစာမိ-စသည်ဖြင့် ဆိုပြီး ဆောက်တည်တာ မဟုတ်ပါဘူး။

သီလခံယူ ဆောက်တည်ပုံကို ပြတဲ့ ခုဒ္ဒကပါဠ ပါဠိတော်များမှာ အာဇီဝဋ္ဌမက သီလမပါ၊ အာဇီဝဋ္ဌမက သီလ အမည်နဲ့ ဟောထားတဲ့ သီလ မရှိလို့ပါပဲ။

သည့်လို မပါရှိသော်လည်း ဒီသီလကို ဘုရားရှင် မဟောခဲ့ဘူးလို့ မဆိုနိုင်ပါ။ "ပုဗ္ဗေဝ ခေါ ပနဿ ကာယကမ္မံ ဝစီကမ္မံ အာဇီဝေါ သုပရိသုဒ္ဓေါ ဟောတိ" (ဥပရိပဏ္ဏာသ ပါဠိတော်-၃၃၇) မဂ်၏ ရှေးအဖို့ကပင် ကာယကံသည် လည်းကောင်း၊ ဝစီကံသည် လည်းကောင်း၊ အသက်မွေးမှု အာဇီဝသည် လည်းကောင်း၊ စင်ကြယ်ပြီး ဖြစ်သည်ဟူသော စကားတော်ဖြင့် အာဇီဝဋ္ဌမက သီလကို ဟောတော်မူလိုရင်း ဖြစ်သည်ဟု ဆရာမြတ်များက ယူဆတော်မူကြပြီး ငါးပါး၊ ရှစ်ပါးသီလ ဆောက်တည်ပုံကို နည်းယူခါ အာဇီဝဋ္ဌမကသီလ ဆောက်တည်ပုံကို ရှေးဆရာမြတ်များ စီစဉ်တော်မူခဲ့ကြခြင်း ဖြစ်တယ်လို့ မှတ်သားရန် ဖြစ်ပါတယ်။

(အာဇီဝဋ္ဌမက သီလလို့ သူသူငါငါ ခေါ်ဝေါ်ပြောဆို နေကြပေမယ့် သည်အဓိပ္ပာယ်ကို နားလည်သူ နည်းပါးလိမ့်မယ် ထင်တဲ့အတွက် အဓိပ္ပာယ်ကလေးကို အကျဉ်းမျှ ရှင်းပြလိုက်ပါတယ်။)

ဝိသုဒ္ဓိမဂ် အဋ္ဌကထာမှာ အာဘိသမာစာရိကသီလ၊ အာဒိဗြဟ္မစရိယက သီလလို့ နှစ်မျိုးလာရှိရာ အာဇီဝဋ္ဌမက သီလမှတစ်ပါးသော သီလများကို အာဘိသမာစာရိက သီလ (လိုက်နာကျင့်သုံးရမည့် သီလ) လို့ ဆိုပြီး အာဇီဝဋ္ဌမက သီလကို အာဒိဗြဟ္မစရိယက သီလလို့ ဆိုပါတယ်။ သည်သီလ က သိက္ခာပုဒ်တွေကို ကြည့်လျှင် ရှောင်ကြဉ်သောအားဖြင့်





စောင့်ထိန်းရမယ့် သီလတွေ ဆိုတာ သိသာထင်ရှားပါ တယ်။

သည်သိက္ခာပုဒ်တွေဟာ သုစရိုက် (၁၀) ပါးထဲမှာ ပါဝင်တဲ့ ကာယကံ(၃) ပါး၊ ဝစီကံ (၄)ပါးနဲ့ အသက်မွေး ဝမ်းကျောင်းနဲ့ သက်ဆိုင်တဲ့ အရောင်းအဝယ် အလုပ်အကိုင် များ စင်ကြယ်မှုဆိုတဲ့ (၈) ပါးပဲ ဖြစ်ပါတယ်။

ဒါကြောင့် ငါးပါးသီလကို ဆောက်တည်သည် ဖြစ်စေ မဆောက်တည်သည် ဖြစ်စေ လွန်ကျူးလျှင် အပြစ်ရှိသလို ဒီအာဇီဝဋ္ဌမက သီလကိုလည်း ဆောက်တည်သည် ဖြစ်စေ၊ မဆောက်တည်သည်ဖြစ်စေ လွန်ကျူးလျှင် အပြစ်ရှိတာပါပဲ လို့ မှတ်သားရပါမယ်။

ငါးပါးသီလဟာ သူတော်ကောင်းတို့ အမြဲဆောက် တည်ရမယ့် ကိုယ်ကျင့်သီလ ဖြစ်သလို သည်အာဇီဝဋ္ဌမက သီလဟာလည်း အထက်တန်း သူတော်စင်တို့ အမြဲထိန်းရမယ့် ကိုယ်ကျင့်သီလ ဖြစ်ပါတယ်။

အာဇီဝဋ္ဌမကသီလ လုံခြုံမှ မဂ်၊ ဖိုလ် ရနိုင်ပါတယ်။ မလုံခြုံလျှင် မဂ်၊ ဖိုလ် မရနိုင်ပါ။ ဒါကြောင့် သည်သီလကို အာဒိဗြဟ္မစရိယက သီလ (ဗြဟ္မစရိယ=မဂ္ဂဗြဟ္မစရိယ၏ အာဒိ=အစဖြစ်သော သီလ) ဝိပဿနာမဂ်၊ အရိယာမဂ် ဟူသော မြတ်သော အကျင့်၏ အစ အခြေခံ သီလဖြစ်တယ်လို့ ရှင်းလင်းဖြေဆိုလိုက်ပါတယ်။

## မေးခွန်း (၁၁)

**အမေး(၁)** ထေရဗုဒ္ဓဘာသာနဲ့ ယာန ဗုဒ္ဓဘာသာ ကွဲပြား ခြားနားပုံကို အသေအချာ သိချင်ပါတယ်။

**အမေး(၂)** မြတ်စွာ ဘုရား ရုပ်ပွားတော်ကို မိန်းမ မကိုင်ရ၊ ပင့်ဆောင်ခြင်း မပြုရ။ ထိုသို့ပြုလျှင် အကုသိုလ် ဖြစ်သည်ဆိုသည့် သတ်မှတ်ချက် ရှိပါသလား။

**အမေး(၃)** ကျွန်မတို့ အိမ်မှာ ဆွမ်းခံဝင်တဲ့ ပဉ္စင်းတချို့ ရှိပါတယ်။ တစ်ပါးမှာ





ဆိုလျှင် ဘယ်ဘက်လက်သန်း လက်သည်းကို ဖြတ်လှီးမထားဘဲ ရှည်ရှည်ထားပါတယ်။ (ဘာသဘောနဲ့ ထားပါသလဲ မသိပါ။) တချို့ကျတော့ မျက်နှာ တည်ငြိမ်မှု မရှိဘဲ ဟိုကြည့် သည်ကြည့်လုပ်၊ သင်္ကန်းစ (လက်နေရာ၊ ကော်လာနေရာ) များကို လူတွေ လှချင်လို့ သ,သလို သ,သနေတတ်ပါသည်။ အဲဒါတွေကို မြင်တော့ ကျွန်မစိတ်ထဲ သဘောမတွေ့ပါ။ ဆွမ်းလောင်းလှူရာမှာ သံဃာ့ဂုဏ်ကို ရည်စူးလို့ လောင်းချင်ပေမယ့် ရုပ်က ရည်စူးစရာ မကောင်းတော့ ကျွန်မစိတ်ထဲမှာ သံဃာဆိုတဲ့ စိတ်နဲ့ မလောင်းလှူဖြစ်ပါ။ ဝတ်ကျေတမ်းကျေ သဘောပဲ လောင်းပါတယ်။ အဲသည်ကိစ္စမှာ ကျွန်မ အနေနဲ့ ကုသိုလ် ရ,မရ၊ အကုသိုလ် ဖြစ်,မဖြစ် သိချင်ပါတယ်။

နိုင်သဇင်၊ စစ်တွေ။

**အဖြေ(၁)** ဗုဒ္ဓဘာသာလောကမှာ ထေရ ဗုဒ္ဓဘာသာ၊ ယာန ဗုဒ္ဓဘာသာဆိုတဲ့ ဝေါဟာရ မရှိပါဘူး။ ထေရဝါဒ ဗုဒ္ဓဘာသာ၊ မဟာယာန ဗုဒ္ဓဘာသာ၊ ဟီန ယာန ဗုဒ္ဓဘာသာဆိုတဲ့ ဝေါဟာရသာ ရှိပါတယ်။

သည်ဘာသာတွေရဲ့ ကွဲပြား ခြားနားချက်တွေက အတော်များပြားကျယ်ဝန်းတာမို့ ဒီနေရာမှာ သိသာရုံ အနည်းငယ်မျှသာ ဖော်ပြနိုင်မှာ ဖြစ်ပါတယ်။

(ယခု မြန်မာ သီဟိုဠ် (သီရိလင်္ကာ)၊ ထိုင်းနိုင်ငံတို့မှာ ကျင့်သုံးပါတယ်။)

(၁) ရှင်တော်ဘုရား ဟောကြားထားတဲ့ တရားတော်တွေကို တစ်စုံတစ်ရာ ပြုပြင်ပြောင်းလဲ ပယ်နုတ်ဖြည့်စွက်ခြင်း မပြုဘဲ သူ့အရှိအတိုင်း လိုက်နာကျင့်သုံးတဲ့ ဗုဒ္ဓဘာသာကို ထေရဝါဒ ဗုဒ္ဓဘာသာလို့ ခေါ်ပါတယ်။

(၂) ရှင်တော်ဘုရား ဟောကြားထားတဲ့ တရားတော်တွေကို အရှိအတိုင်း မဟုတ်ဘဲ ကာလ ဒေသ စသည်အလိုက် ကိုက်ညီအောင် ပြုပြင်ပြောင်းလဲ ကျင့်သုံးပြီး သာဝကအဖြစ်၊ ပစ္စေက ဗုဒ္ဓါအဖြစ်နဲ့ နိဗ္ဗာန်မရနိုင်။ သမ္မာသမ္ဗုဒ္ဓ ဘုရားဖြစ်မှ နိဗ္ဗာန်ရနိုင်တယ် ယူဆတဲ့ ဗုဒ္ဓဘာသာ ကို မဟာယာန ဗုဒ္ဓဘာသာလို့ ခေါ်ပါတယ်။ ယခု တိဗက်၊ တရုတ်၊ ဂျပန်၊ ကိုရီးယား စတဲ့ နိုင်ငံတွေမှာ ကျင့်သုံးပါတယ်။

(၃) ဗုဒ္ဓတရားတော်များကို ထေရဝါဒလို အရှိအတိုင်း လိုက်နာကျင့်သုံးတာလည်း မဟုတ်။ မဟာယာနလောက် ပြုပြင်ဖြည့်စွက် ပယ်နုတ်ခြင်းလည်း မပြုတဲ့ ဗုဒ္ဓဘာသာကို ဟီနယာန ဗုဒ္ဓဘာသာလို့ ခေါ်ပါတယ်။ သည်ဗုဒ္ဓဘာသာကို မဟာယာနတွေက သူတို့လို မဟာယာန တစ်ခု တည်းကိုသာ လက်မခံဘဲ သာဝကယာန၊ ပစ္စေကဗောဓိယာနဆိုတဲ့ နိမ့်ကျတဲ့ ယာနနှစ်ခုကို လက်ခံတဲ့ အတွက် တစ်ကြောင်း၊ သူတို့နဲ့ အယူအဆ မတူမျှတာလည်း



တစ်ကြောင်းကြောင့် ဟီနယာန (အနိမ့်စားဂိုဏ်း) လို့ နှိမ်ပြီး ခေါ်တာ ဖြစ်ပါတယ်။ ဒီဂိုဏ်းကို ရှေးက အိန္ဒိယပြည်၊ ဂန္ဓာရတိုင်း ကသ္မီရတိုင်း (ယခု ကက်ရှမီးယားပြည်နယ်) တို့မှာ ကျင့်သုံးခဲ့ပါတယ်။ ယခု သည် ဟီနယာနဂိုဏ်းဆိုတာ ဗုဒ္ဓဘာသာ လောကက ကွယ် ပျောက်သွားပါပြီ။ တချို့က ထေရဝါဒကို ဟီနယာနလို့ ထင်နေကြ ပြောဆိုနေကြပါတယ်။ ထေရဝါဒနဲ့ ဘာမှမဆိုင် ပါဘူး၊ တခြားစီ ဖြစ်ပါတယ်။

**အဖြေ(၂)** ဗုဒ္ဓရုပ်ပွားတော်ကို အမျိုးသမီးများ လက်နဲ့ ကိုင်ကောင်းပါတယ်။

မြတ်စွာဗုဒ္ဓ ဘုရားဖြစ်ပြီးခါစ ကပ္ပိလဝတ် နေပြည်တော် ကြွစဉ်က ယသောဓရာ မိဖုရားဟာ ခြေဖမိုးတော်ထက်မှာ နဖူးတင်ပြီး အားပါးတရ ငိုကြွေးခဲ့ကြောင်း ကျမ်းဂန်များမှာ အဆိုရှိတာဟာ အခိုင်မာဆုံးသော သာဓက ဖြစ်ပါတယ်။ ဒါကြောင့် ရုပ်ပွားတော်မှာ ရှိနေတဲ့ ဖုန်, မှုန်စတဲ့ အညစ်အကြေးများကို အမျိုးသမီးများ လက်နဲ့ကိုင်ပြီး ပွတ်သပ်ဆေးကြော သုတ်သင်တာဟာ အလွန်ကြီးကျယ်တဲ့ ကုသိုလ်ရကြောင်း အလုပ်ကောင်း ဖြစ်တာမို့ ရုပ်ပွားတော်များကို ရိုရိုသေသေ လေးလေးစားစားနဲ့ ရဲရဲဝံ့ဝံ့ ကိုင်တွယ်ပွတ်သပ်၍ ဆေးကြောသုတ်သင်ကြပါဟု တိုက်တွန်းလိုက်ပါတယ်။

**အဖြေ(၃)** သူတို့ရဲ့ မကြည်ညိုဖွယ်ရာ အမူအရာတွေကြောင့် သံဃာ့ဂုဏ်ကို အာရုံပြုလို့မရဘဲ ဝတ်ကျေတမ်းကျေ ဆွမ်းလောင်းလှူမှုကြောင့် အကုသိုလ် မဖြစ်ပါဘူး၊ ကုသိုလ် ဖြစ်ပါတယ်။ ဒါပေမယ့် ဖြူစင်တောက်ပတဲ့ ကုသိုလ်မျိုး မဖြစ်နိုင်တာကြောင့် အကျိုးပေးတဲ့ နေရာမှာ ဖွံ့ဖြိုးမှုအားနည်းစရာ ရှိပါတယ်။ သည်လို အားနည်းစရာ ရှိတာကြောင့် "လှူတဲ့တန်းတဲ့ အခါမှာ အမှတ်တမဲ့ နမူးနထူး မလှူနဲ့၊ အလှူခံပုဂ္ဂိုလ်ဟာ သီလဝန္တလား၊ ဒုဿီလလားဆိုတာ စိစစ်ပြီးမှ လှူ၊ သီလဝန္တပုဂ္ဂိုလ်အား လှူတဲ့အလှူမှ မြိုင်မြိုင်ဆိုင်ဆိုင် ဖွံ့ဖွံ့ဖြိုးဖြိုး ကြီးမားတဲ့ အကျိုးကို ပေးတယ်"ဆိုတဲ့ ရှင်တော် ဗုဒ္ဓရဲ့ သွန်သင်ညွှန်ပြချက်ကိုမျက်ခြည်မပြတ် သတိချပ်ပြီး လှူမိတန်းမိကြဖို့ အထူးလိုအပ်ပါတယ်။

လက်သည်းရှည်ကြီးကို မထားကောင်းပါဘူး။ လက်ထိပ်အသားနဲ့ ညီရုံသာ ထားကောင်းပါတယ်။ ခြေသည်းလည်း ထို့အတူပါပဲ။ အဲသည် ခြေသည်း လက်သည်းရှည်ကြီးတွေ ရှိနေသမျှ အမြဲတမ်း အာပတ်သင့်နေပါတယ်။

မေးခွန်းရှင်ရဲ့ စကားအတိုင်း 'ရုပ်က ရည်စူးစရာမကောင်းတော့ သံဃာ့ဂုဏ်ကို အာရုံပြုပြီး သံဃာကို ရည်စူးလို့ မရဘူး' ဆိုတာ မှန်ပါလိမ့်မယ်၊ သံဃာအနေနဲ့ လာတဲ့ ပုဂ္ဂိုလ်ရဲ့ သွားဟန်လာဟန် နေထိုင်စားသောက်ဟန်၊ ပြောဟန်





ဆိုဟန်တွေက ဣန္ဒြေသိက္ခာ စောင့်စည်းမှုရှိတဲ့ အမူအရာပေါ်ပြီး သံဃာပုံပေါက်မှသာ ဖူးတွေ့ရသူတွေ အနေနဲ့ သြော်...ဖူးမြင်ရတာ ကြည်နူးစရာ ကောင်းလိုက်ပါဘိ။ ရှေးက အရှင်သာရိပုတ္တရာ အစရှိတဲ့ သံဃာတော်မြတ်ကြီးတွေဟာ သည်လို နေမှာပဲနော်... စသည်ဖြင့် သံဃာစစ် သံဃာမှန် ပရမတ္ထအရိယာ သံဃာတော်မြတ်ကြီးတွေကို မြင်ယောင်ကာ သံဃာဂုဏ်ကို အာရုံပြု သံဃာကို ရည်စူးလို့ ရမှာဖြစ် ပါတယ်။ ဒါကြောင့် သာသနာ့ဝန်ဆောင် အရှင်မြတ်များအနေနဲ့ ကိုးကွယ်ဆည်းကပ်သူ ဒကာ ဒကာမများ ကုသိုလ် သဒ္ဒါတရား ဖြစ်ပွားရေး၊ သာသနာတော် စည်ပင်ပြန့်ပွား ထွန်းကားရေး၊ သာသနာ့ဂုဏ်ရောင် ထွန်းပြောင်ထိန်လက် ဂုဏ်ရောင်ထွက်၍ အရှိန်အဝါ ကြီးမားတက်ရေး အတွက် ဆောင် ရွက်တော် မူနိုင်ကြပါကြောင်း ဆုတောင်းရပါတယ်။

## မေးခွန်း(၃၂)

**အမေး(၁)** ဥပုသ်ရဲ့ အနက်အဓိပ္ပာယ်ကို သိလိုပါတယ်။

**အမေး(၂)** ဥပုသ်စောင့်တဲ့အခါ ငါးပါး၊ရှစ်ပါး၊ ကိုးပါး၊ ဆယ်ပါးသီလတို့တွင် ဘယ်သီလယူမှ အကျိုးရှိတယ်ဆိုတာ ဖြေကြားပေးစေလိုပါတယ်။

ဌေးမောင်
လယ်ကိုင်း၊ ပွင့်ဖြူမြို့နယ်။





**အဖြေ(၁)** "ဥပုသ်ရဲ့ အနက်အဓိပ္ပာယ် အမေးမှာ ပါသလို "ဦးပုတ်" မဟုတ်၊ "ဥပုသ်" ဖြစ်သည်။ "ဥပုသ်" ဆိုတဲ့ စကားလုံးဟာ "ဥပေါသထ" ဆိုတဲ့ ပါဠိပျက် စကားလုံး ဖြစ်သည်။ "ဥပေါသထ" ဆိုတဲ့ စကားလုံးဟာလည်း "ဥပ-ဝသထ" ဆိုတဲ့ ပုဒ်နှစ်ပုဒ်ကို သဒ္ဒါနည်းနှင့် ပြုပြင်စီရင်ပြီး တစ်ပုဒ်တည်းဖြစ်အောင် လုပ်ထားတဲ့ စကားလုံးပါ။

ဥပ-ညစာမစားခြင်း၊ အသက်မသတ်ခြင်း စတဲ့ အကျင့်ကောင်းနဲ့ ပြည့်စုံ၍။ ဝသထ-နေခြင်း။ ဥပဝသထ= ဥပေါသထ-ဥပုသ်-ညစာ မစားခြင်း၊ သူ့အသက် မသတ်ခြင်း စတဲ့ အင်္ဂါရှစ်ပါးနဲ့ ပြည့်စုံတဲ့ သီလကို ခံယူဆောက်တည်ပြီး (ဘုရားဂုဏ်၊ တရားဂုဏ်စတဲ့ အာရုံများကို အာရုံပြု ဘာဝနာပွားခါ) အကုသိုလ်စိတ်များ မဖြစ်စေဘဲ စိတ်စင်ကြယ်အောင် စောင့်စည်းနေထိုင်မှုကို ဥပုသ်စောင့် တယ်လို့ ခေါ်ပါတယ်။

**အဖြေ(၂)** ငါးပါး၊ ရှစ်ပါး၊ ကိုးပါး၊ ဆယ်ပါး သီလတွေဟာ တစ်မျိုးထက်တစ်မျိုး ပိုပြီး စိတ်စင်ကြယ်စေ၊ ကုသိုလ်ဖြစ်စေတဲ့ သီလတွေဖြစ်ပါတယ်။ ဒါပေမယ့် ရှစ်ပါးသီလ စသည်ကို ခံယူဆောက်တည်ရုံမျှနဲ့တော့ အကျိုးကြီးတယ်လို့ မဆိုနိုင်ပါဘူး၊ ဘာကြောင့်လည်းဆိုတော့ ...

ဥပုသ်က (၁) အရိယ(မြတ်သော) ဥပုသ်၊ (၂) ဂေါပါလ (နွားကျောင်းသားစောင့်နည်း) ဥပုသ်လို့ အချုပ်အားဖြင့် နှစ်မျိုးရှိပါတယ်။ အဲသည် နှစ်မျိုးမှာ အရိယဥပုသ်ဟာ...

(၁) ရှစ်ပါးသီလ ခံယူဆောက်တည်ပြီး ဗြဟ္မမည်တော်မူသော ဘုရားရှင်၏ ဂုဏ်တော်တွေကို အာရုံပြု အောက်မေ့တဲ့ ဗြဟ္မဥပုသ်။

(၂) ရှစ်ပါးသီလ ခံယူဆောက်တည်ပြီး သွာက္ခာတာ အစရှိတဲ့ တရားတော်၏ ဂုဏ်တော်တွေကို အာရုံပြု အောက်မေ့နေတဲ့ ဓမ္မဥပုသ်။

(၃) ဥပုသ်သီလခံယူပြီး သံဃာတော်မြတ်၏ သုပ္ပဋိပန္နတာ အစရှိတဲ့ ဂုဏ်ကို အာရုံပြုအောက်မေ့နေတဲ့ သံဃာဥပုသ်။

(၄) ဥပုသ်သီလ ခံယူပြီး ယနေ့ နောက်နောက်က စောင့်ထိန်းခဲ့တဲ့ မိမိသီလ၏ စင်ကြယ်ပုံကို အာရုံပြု အောက်မေ့နေတဲ့ သီလဥပုသ်။

(၅) ဥပုသ်သီလ ခံယူပြီး နတ်များကို ပမာတင်ကာ မိမိသန္တာန်မှာရှိတဲ့ သဒ္ဓါ သီလ အစရှိသော သူတော်ကောင်း တရားများကို အောက်မေ့ဆင်ခြင် စိတ်ကြည်လင်ဝမ်းမြောက်နေတဲ့ ဒေဝတာ (နတ်) ဥပုသ်လည်း ငါးမျိုးရှိပါတယ်။





သီလ ဆောက်တည်ပြီး တရားထိုင်ခြင်း၊ တရားဆွေးနွေးခြင်း၊ တရားစာပေ ဖတ်ကြားခြင်း၊ တရားနာခြင်းများကိုလည်း အရိယဥပုသ်လို့ ဆိုနိုင်ပါတယ်။

သည်အရိယဥပုသ်တွေထဲက တစ်မျိုးမျိုးကို စောင့်သုံးမှသာ ဥပုသ်ဟာ အကျိုးကြီးတယ်။ ဒါကြောင့် ဥပုသ်စောင့်တဲ့အခါ သီလခံယူပြီးလျှင် ဥပုသ်စောင့်တဲ့ ကိစ္စ ပြီးတာပဲလို့ မယူဆဘဲ အရိယဥပုသ်ဖြစ်အောင် စောင့်ဖို့ လိုတယ်ဆိုတာ သတိပြုရပါမယ်။

ဖော်ပြပြီးအတိုင်း အရိယဥပုသ်ဖြစ်အောင် မစောင့်ဘဲ သီလခံယူပြီး အထူးချက်ပြုတ်စီမံလာတဲ့ စားကောင်း သောက်ဖွယ်များကို တပျော်တပါး စားသောက်ကြပြီး...

အင်း...သည်နေ့ဖြင့် စားလို့သောက်လို့ ကောင်းပေါ့၊ နက်ဖြန်ကျ သည်လိုမြိန်မြိန်ကလေး စားရအောင် ဘယ်ဟင်းလေး ချက်လိုက်မယ် စသည်ဖြင့် စားရေးသောက်ရေး၊ သားသမီး ရေး စတဲ့ လောကီရေးရာတွေကို ပြောဆိုကြံစည်နေတဲ့ ဥပုသ်ဟာ သည်နေ့ ဘယ်နေရာမှာ နွားများမြက်စား ရေသောက်ကြသည်။ နက်ဖြန် ဘယ်နေရာမှာ အစာစားပြီး ရေသောက်ကြ လိမ့်မည်ဟု နွားကျောင်းသား၏ ကြံစည်ခြင်းနဲ့ တူတဲ့အတွက် ဂေါပါလ (နွားကျောင်းသား ဥပုသ်) ဖြစ်ပါတယ်။

သည်ဂေါပါလ ဥပုသ်ကတော့ လုံးလုံး အကျိုးမရှိဘူး

လို့ မဆိုနိုင်ပေမယ့် အင်မတန် အကျိုးအရ နည်းပါတယ်။ ဒါကြောင့် သည့်လို ဂေါပါလဥပုသ်မျိုး မဖြစ်အောင် ရှောင်ကြဉ်ရပါတယ်။

သီသာရဲ့ အကျဉ်းမျှ အဖြေပေးလိုက်ပါတယ်။ ဥပုသ်နဲ့ ပတ်သက်ပြီး သိစရာမှတ်စရာ စိတ်ဝင်စားစရာတွေ အတော်များပါတယ်။ သက်ဆိုင်ရာ စာအုပ်တွေ ရှာဖွေလေ့လာဖို့ တိုက်တွန်းလိုက်ပါတယ်။



## အမေး(၃၃)

**အမေး(၁)** ဓာရဏ ပရိတ်သည် ထေရဝါဒ ကျမ်းဂန်လာ ဟုတ်မဟုတ်၊ မဟာယာနဂိုဏ်းဝင် ဘုန်းကြီးများ ရေးထားတာ ဖြစ်ပါသလား။

**အမေး(၂)** ရှစ်ပါးသီလ ခံယူထားပြီး အလွန်ဆာလောင်၍ မွန်းလွဲပိုင်းမှာ ထမင်းစားမိလျှင် အပြစ်ရှိပါသလား။

သန်းစိုး
၂၁၊ ၂လမ်း၊ ကျိုက်လတ်မြို့။

**အဖြေ(၁)** ဓာရဏပရိတ်ဟာ ထေရဝါဒကျမ်းဂန်လာ ဟုတ်ပါတယ်။ မဟာယာ[illegible] ဘုန်းကြီးများ ရေးထားတာ မဟုတ်ပါဘူး။ ဒါ[illegible]မယ့်

တချို့ဟာကတော့ ထေရဝါဒကျမ်းမှာ တိုက်ရိုက်လာတာ မဟုတ်ပါဘူး၊ အဖြေကို ကြည့်လိုက်လျှင် ရှင်းသွားပါလိမ့်မယ်၊ စာရဏပရိတ်ကို လေ့လာကြည့်တဲ့အခါ မိမိကြည့်မိတဲ့ စာအုပ်ထဲမှာ အပိုဒ် ကိုးပိုဒ်ခွဲပြီး စီစဉ်ထားတာ တွေ့ရပါတယ်။ သည် ကိုးပိုဒ်အနက် နံပါတ် ၁ အပိုဒ်ဟာ ပါရာဇိကဏ် ဝေရဥ္စကဏ္ဍ အဋ္ဌကထာမှာလာတဲ့ ...

(၁) ဘုရားရှင်၏ အသက်တော်ကို မည်သူမျှ အန္တရာယ် မပြုနိုင်။

(၂) ဘုရားရှင်အဖို့ ရည်ရွယ်ထားအပ်သော ဆွမ်းစသော ပစ္စည်းများကို ဘုရားရှင်ထံတော် မရောက်အောင် မည်သူမျှ အန္တရာယ်မပြုနိုင်။

(၃) ဘုရားရှင်၏ ၈၀ သော လက္ခဏာတော်ငယ်နှင့် တစ်လံမျှလောက်သော ကိုယ်တော်ရောင်ကို မည်သူမျှ အန္တရာယ် မပြုနိုင်။

(၄) ဘုရားရှင်၏ သဗ္ဗညုတဉာဏ်တော်ကို မည်သူမျှ အန္တရာယ် မပြုနိုင်။ (သင်္ခါရ၊ ဝိကာရ၊ လက္ခဏ၊ နိဗ္ဗာန်၊ ပညတ်ဟူသော ဉေယျဓံတရား ငါးပါးတို့ကို သဗ္ဗညုတဉာဏ်တော်ဖြင့် မသိအောင် မလုပ်နိုင်ဟု ဆိုလိုသည်) ဆိုတဲ့ အချက်လေးချက် အနက် နံပါတ် (၁) ပထမအချက်ပဲ ဖြစ်ပါတယ်။





နံပါတ် (၂) (၃) (၄) (၅) (၆) အပိုဒ်များဟာ (ဥပေတော ဗုဒ္ဓဓမ္မေဟိ အဋ္ဌာရသဟိ နာယကော) ဟူသော ဝိဘင်္ဂအဋ္ဌကထာ ဂန္ထာရမ္ဘကို ဖွင့်တဲ့ ဝိဘင်္ဂမူလဋီကာမှာ လာတဲ့ အဋ္ဌာရသ ဗုဒ္ဓဓမ္မ (ဘုရားဂုဏ်တော်) များ ဖြစ်ပါတယ်။ ဒါတွေကို အချို့အချို့သော ဝတ်ရွတ်စဉ် စာအုပ်များမှာ အာဝေဏိက ဂုဏ်တော် (၁၈) ပါးလို့ ဖော်ပြထားတာ တွေ့ရပါတယ်။ ဒါတွေဟာ တိုက်ရိုက် ဘုရားဟောထားတာ မဟုတ်သော်လည်း အဋ္ဌကထာ ဋီကာတို့ အဆိုအရ စီစဉ်ထားတာတွေ ဖြစ်ပါတယ်။ ဒါကြောင့် ထေရဝါဒကျမ်းလာ ဟုတ်ပါတယ်လို့ အထက်မှာ ဖြေခဲ့ပါတယ်။

(၇) (၈) (၉) အပိုဒ်တွေကတော့ ပါဠိအဋ္ဌကထာ ဋီကာတွေမှာ လာတာတွေ မဟုတ်ဘဲ စီစဉ်တဲ့ ပုဂ္ဂိုလ်တွေရဲ့ အလိုဆန္ဒအတိုင်း မိမိတို့ ကောင်းမွန် သင့်တော်တယ်ထင်သလို စီစဉ်ထားတာတွေ ဖြစ်ပါတယ်။

ပိဋကတ်တော်နှင့်တကွ ဘာသန္တရ ကျမ်းဂန်တွေမှာ ပါ ကျွမ်းကျင်တဲ့ ဆရာတော်ကြီး တစ်ပါးကတော့ 'စာရဏပရိတ်ဟာ သီဟိုဠ်ဆရာတော်များ ရေးသားတဲ့ စာလို့ ထင်ရတယ်။

"သည်စာရဏပရိတ်ကို လေ့လာကြည့်လျှင် ပါဠိအသုံးနဲ့ မတူတတ်တဲ့ ဣလ္လိ မိလ္လိ တိလ္လိ မိလ္လိ စတဲ့ အသုံးတွေ ပါနေတာ တွေ့ရတယ်။ သည်ပါဠ်မျိုးတွေ သီဟိုဠ်

အန္တရာယ်ကင်း တချို့မှာ တွေ့တယ်" လို့ အမိန့်ရှိတာကို နာခံမှတ်သားရကြောင်း ဖြေဆိုလိုက်ရပါတယ်။

သည် မာရဏပရိတ် တန်ခိုးအစွမ်းနဲ့ ပတ်သက်ပြီး မိမိတို့ ငယ်စဉ်ကာလ ဆရာတော်ကြီးနှစ်ပါး အချင်းချင်း ပြောနေတာ ကြားဖူးတာကတော့ မာရဏပရိတ်ကို ထန်းရွက်၊ ပေရွက်တို့မှာရေးပြီး မိမိတို့ လယ်တော၊ ယာတော လေးထောင့်မှာ ချိတ်ဆွဲ ထားရင် စပါး ကောက်ပဲသီးနှံတွေ ပိုးမကျဘူးလို့ ပြောသံကြားဖူးတယ်ဟူ၍ ဖြစ်ပါတယ်။

ဘုရားရှင်၏ မှန်ကန်တဲ့ ဂုဏ်တော် သစ္စာ တရားတွေ ဖြစ်တဲ့အတွက် ငွေကုန်ကြေးကျလည်း များတာမဟုတ်လို့ လယ်သမား၊ ယာသမားများဟာ စမ်းသပ်အသုံးပြုကြည့်သင့်တယ် ထင်ကြောင်း ပြောလိုက်ရပါတယ်။

**အဖြေ(၂)** အပြစ်ရှိပါတယ်။

ဒါပေမယ့် သည်နေ့လွဲ ညစာစားမှုဟာ လူများအဖို့ ပါဏာတိပါတ အစရှိတဲ့ သိက္ခာပုဒ် ငါးခုလို လွန်ကျူးသူအား ပြစ်မှုဆိုင်ရာ လောကဥပဒေနဲ့ အရေးယူရလောက်အောင် ကြီးလေးတဲ့ အပြစ်မျိုး မဟုတ်ပါဘူး။

ရဟန်းတော်များ ကျူးလွန်လျှင် ပါစိတ်အာပတ်သင့်ပါတယ်။ အပါယ်ကျစေနိုင်ပါတယ်။ ဒေသနာကြားပြီး သည်အာပတ်ကို ဖြေဖျောက် စင်ကြယ်စေရပါတယ်။

သာမဏေများ ကျူးလွန်လျှင် ဒဏ်ထိုက်ပါတယ်။





သဲဒဏ်၊ ရေဒဏ် ထမ်းခြင်း၊ မြက်နုတ်ခြင်း၊ ထင်းပေါက်ခြင်း စတဲ့ အလုပ်ကို လုပ်ခြင်း၊ ဒဏ်ထမ်းခြင်းဖြင့် အပြစ်ကို ပပျောက်စေရပါတယ်။

လူများ သည်သိက္ခာပုဒ်ကို ကျူးလွန်လျှင် ဘုရား, တရား, သံဃာနှင့် သိက္ခာပုဒ်တော်များကို မရိုသေခြင်း အဂါ၀ရ၊ အမင်္ဂလာ အကုသိုလ်ဖြစ်ခြင်း အပြစ်ရှိပါတယ်။ ဥပုသ်စောင့်ထားသူဟာ ဘယ်လောက်ပဲဆာဆာ ထမင်း, ဟင်း, မုန့်ပဲ သွားရည်စာ၊ လက်ဖက်ရည် အချို၊ အကြမ်း၊ ကော်ဖီ၊ နွားနို့ စသည့် အာဟာရများကို မစားသောက်ကောင်းပါဘူး။ ရိုးရိုးဆာလောင်သူ ဖြစ်စေ၊ မကျန်းမမာ ဖြစ်၍ ဆာလောင်သူဖြစ်စေ၊ မစား မသောက်ကောင်းပါဘူး။ အဆာပြေအောင် ဆာလောင်မွတ်သိပ်မှု ဝေဒနာပျောက်အောင် စားသောက်ဖို့ရာ ထန်းသီးဖျော်ရည်၊ အုန်းသီး၊ ပိန္နဲသီး၊ ဘူးသီး၊ ဖရုံသီး၊ သခွားသီး ဖျော်ရည်များမှ တစ်ပါး သံပရာ၊ လိမ္မော်၊ ရှောက်၊ မန်ကျည်းသီး၊ သရက်သီး ဖျော်ရည်၊ ကြံရည်၊ ထန်းရည် အချိုရည် စသော သောက်ဖွယ်ရာများ၊ စတုမဓု ပျားရည် စသော လျက်စားဖွယ်ရာများကို ရှင်တော် ဘုရားက ညွှန်ကြားထားတော်မူပါတယ်။ ဒါတွေဟာ ဘယ် လောက် ဆာလောင်နေသူပဲ ဖြစ်ဖြစ် အဆာပြေဖို့ ရောဂါဒဏ် ခံနိုင်ဖို့ လုံလောက်တဲ့ စားဖွယ် သောက်ဖွယ်များ ဖြစ်ပါတယ်။

အချို့ အချို့က ရဟန်းသာမဏေများ မကျန်းမမာ ဖြစ်နေတဲ့အခါ ဆေးဒဏ်ခံနိုင်အောင်၊ ရောဂါဒဏ် ခံနိုင်အောင် ဆွမ်း၊ ခေါက်ဆွဲ၊ ဆန်ပြုတ်၊ မုန့်၊ ကော်ဖီ စသည်များ စားကောင်းတယ်ထင်ပြီး မွန်းလွဲပိုင်းမှာ ကျွေးကြပါတယ်။ စားအောင်လည်း တိုက်တွန်းကြပါတယ်။

အထူးသဖြင့် ဆရာဝန်များက တိုက်တွန်းလေ့ ရှိကြပါတယ်၊ သူတို့ကတော့ ဘုရားရှင် ပညတ်ထားတဲ့ သိက္ခာပုဒ်တော်တွေနဲ့ ထိတွေ့မှု အားနည်းနေတဲ့အတွက် သူတို့ ဆေးပညာ ရှုထောင့်ကနေကြည့်ပြီး တိုက်တွန်းကြတာ ဖြစ်မှာပါ။

တချို့ကတော့ မစားကောင်းမှန်း သိပေမယ့် ရောဂါဝေဒနာ ပျောက်စေလိုတဲ့ ဆန္ဒ လွန်ကဲနေတာနဲ့ တိုက်တွန်းကြ၊ ကျွေးကြတာဖြစ်ပါတယ်။ မတိုက်တွန်းကောင်း မကျွေးကောင်းပါဘူး။ ကျွေးတဲ့သူ၊ တိုက်တွန်းတဲ့သူတွေဟာလည်း အပြစ်ရှိပါတယ်။ ဂိလာန ပုဂ္ဂိုလ်ဟာလည်း စားလျှင် သီလကျိုးပျက်ပါတယ်။ သီလ မစင်ကြယ်တော့ပါဘူး၊ ညှိုးနွမ်းပါတယ်။

သီလဟာ ကျိုး–ပေါက်–ပျောက်–ကျား–ခြင်း တို့ဖြင့် ပျက်စီး ညှိုးနွမ်းနိုင်ပါတယ်။

ကျိုး–ဥပုသ်သီလမှာ အစ ပါဏာတိပါတ သိက္ခာပုဒ်သော် လည်းကောင်း၊ အဆုံး ဥစ္စာသယန မဟာသယန သိက္ခာပုဒ်သော်လည်းကောင်း၊ ပျက်လျှင် ဥပုသ်ကျိုး ခေါ်ပါတယ်။

ပေါက်–ဝိကာလဘောဇန အစရှိတဲ့ အလယ်သိက္ခာပုဒ် တစ်ပါးပါး ပျက်စီးလျှင် ဥပုသ်ပေါက် ခေါ်ပါတယ်။ (ပေါက်တဲ့ ဥပုသ်ခေါ်ပါတယ်)

ပျောက်–ရှစ်ပါးသီလ သိက္ခာပုဒ်များမှာ တစ်ပါးတည်းလည်း မဟုတ်၊ အစဉ်အတိုင်း တစ်ဆက်ထည်းလည်း မဟုတ်ဘဲ (၂) အဒိန္နာဒါနာနှင့် (၄) မုသာဝါဒသော် လည်းကောင်း၊ (၃) အဗြဟ္မစရိယနှင့် (၅) သုရာမေရယ သော်လည်းကောင်း စသည်ဖြင့် ပြောက်ကျား ပြောက်ကျား ပျက်လျှင် ဥပုသ်ပျောက် ခေါ်ပါတယ်။

ကျား–ဥပုသ်သီလမှာ (၁) ပါဏာတိပါတနှင့် အဒိန္နာဒါနာ တစ်ဆက်တည်း၊ (၄) မုသာဝါဒနှင့် (၅) သုရာမေရယ တစ်ဆက်တည်း စသည်ဖြင့် ၂ ပါး ၃ ပါးတစ်ဆက်တည်း အကွက်အကျားကြီးများ ဖြစ်ပြီး ပျက်စီးလျှင် ဥပုသ်ကျား ခေါ်ပါတယ်။

အဲသည်လို အကျိုး၊ အပေါက်၊ အပျောက်၊ အကျားကြီးတွေ ဖြစ်နေတဲ့ ဥပုသ်သီလဟာ ဥပုသ်စောင့်သူအား ပီတိသောမနဿ နှစ်သက် ဝမ်းမြောက်မှုကို ဖြစ်စေနိုင်မယ် မဟုတ်ပါ။ စိတ်နှလုံး မချမ်းမြေ့မှု ဒေါမနဿကိုသာ ဖြစ်စေနိုင်မှာ ဖြစ်ပါတယ်။ သည် သီလမျိုးဟာ ယခုဘဝ ကိုယ်စိတ်နှစ်ဖြာ ချမ်းသာ စီးပွား ဥစ္စာတိုးတက် ကြွယ်ဝရေး၊ နောင်သုဂတိဘုံဘဝ ရောက်ရေး၊ ဘဝသံသရာမှ လွတ်မြောက်ရေး

တို့အတွက် အားကိုးလောက်တဲ့ သီလမျိုး မဟုတ်ပါ။ ဒါကြောင့် ဥပုသ်စောင့်တဲ့အခါ ဥပုသ်သီလကို ကျိုး–ပေါက်–ပျောက်–ကျားမှုမဖြစ်စေဘဲ စင်းလုံးချော ဖြူစင်တဲ့ ဥပုသ်သီလမျိုး ဖြစ်အောင် ကြိုးစားစောင့်သင့်ကြပါတယ်။

ရှေးက အနာထပိဏ် သူဌေးကြီး၏ အိမ်မှာ ဥပုသ်နေ့တိုင်း အိမ်သူ အိမ်သား အလုပ်သမားများဟာ နို့စို့ကလေးပါမကျန် အားလုံး ဥပုသ်စောင့်ကြရပါတယ်။ မွန်းလွဲသွားလျှင် နို့စို့ကလေးသူငယ်များရဲ့ ပါးစပ်ကို စင်အောင် ဆေးကြောပြီး စတုမဓုကလေးများကိုသာ သင့်လျော်သလောက် ခွံ့ပေးပါတယ်။ နို့မတိုက်တော့ဘူးလို့ ဆိုပါတယ်။

ရှေးသူတော်ကောင်းကြီးများဟာ ဝိကာလဘောဇနေသိက္ခာပုဒ်ကို ဤမျှအထိ အလေးဂရုပြု ဥပုသ်သီလ စောင့်ထိန်းကြပါတယ်။ ဒါကြောင့် ဘယ်လောက်ပဲ ဆာဆာ သီတင်းသည်များနှင့် ရဟန်းသံဃာများဟာ မွန်းလွဲသွားလျှင် အစာအာဟာရကို မစားသောက်ကောင်းဘူးလို့ မှတ်သားရပါမယ်။



## မေးခွန်း(၃၄)

**အမေး(၁)** ကွယ်လွန်သူအားရည်စူး၍ကောင်းမှုကုသိုလ် ပြုလုပ်ပါက ထိုကောင်းမှု၏ အကျိုးကို ထိုကွယ်လွန်သူ ခံစားရပါသလား။

**အမေး(၂)** ယခုဘဝတွင် ကောင်းမှုကုသိုလ်ပြုလုပ်ပါက ထိုကောင်းမှု၏ အကျိုးကို ယခုဘဝတွင်လည်း ရရှိနိုင်ပါသလား။ (အကျိုးပေးပါသလား)။

**အမေး(၃)** မည်သို့မျှ မရည်ရွယ်ဘဲနှင့် မိမိကြောင့် သတ္တဝါတစ်ခု ပြင်းထန်စွာ ထိခိုက်မိပါက မိမိတွင် အပြစ်ရှိပါသလား။

**အမေး(၄)** မကောင်းမှု အကုသိုလ် ပြုမိပါက ထို မကောင်းမှုကို ပပျောက်အောင် လုပ်၍ ရပါသလား၊ မည်ကဲ့သို့ ပြုလုပ်ရပါမည်နည်း။

**အမေး(၅)** ယခုဘဝတွင် ပြုလုပ်သည့် ကုသိုလ် ယခု ဘဝတွင် အကျိုးပေးပါ သလား။

မောင်နန်းထိုက်အောင်

ပရိက္ခရာရပ်ကွက်၊ ဆင်ဖြူကျွန်းမြို့နယ်၊ မကွေးတိုင်း။

**အဖြေ(၁)** ကုသိုလ်ဟာအကျဉ်းချုပ်လိုက်လျှင် ဒါန၊ သီလ၊ ဘာဝနာလို့ သုံးမျိုး ရှိပါတယ်။

ဒီသုံးမျိုးလုံးဟာ သည်ဘဝပြုလျှင် သည်ဘဝမှာ အကျိုးပေးပါတယ်။ ကုသိုလ်ရဲ့စွမ်းရည် သတ္တိအလိုက် နိဗ္ဗာန် ဆိုက်တဲ့ဘဝအထိ ဘဝအဆက်ဆက် ဘဝပေါင်းများစွာမှာ လည်း အကျိုးပေးပါတယ်။

သည်မေးခွန်းမျိုး ဝေသာလီပြည် လိစ္ဆဝီမင်းတို့ရဲ့ စစ်သူကြီး သီဟသေနာပတိက မြတ်စွာဘုရားကို 'ရှင်တော် ဘုရား၊ သည်ဘဝလုပ်တဲ့ ဒါန သည်ဘဝမှာ အကျိုးပေးတယ်လို့ ရှင်တော် ဘုရား ဟောကြားနိုင်ပါသလား' လို့ မေးဖူးပါတယ်။





ရှင်တော်ဘုရားက ဟောနိုင်တယ်လို့ ဖြေဆိုပြီး တစ်ဆက်တည်း မိန့်တော်မူတာက…

"သီဟ…

(၁) ပေးကမ်းလှူဒါန်းသူကို လူအများတို့ ချစ်ခင် လေးစားကြတယ်။

(၂) ပေးကမ်းလှူဒါန်းသူရဲ့ အိမ်သို့ သူတော် သူမြတ်များ ချဉ်းကပ်လာရောက်ကြတယ်။

(၃) ပေးကမ်းလှူဒါန်းသူရဲ့ ကောင်းတဲ့ ဂုဏ် သီတင်းဟာ အရပ်တကာ ပြည်ရွာအနှံ့ သင်းပျံ့မွှေးကြိုင် တလှိုင်လှိုင် ထင်ရှားကျော် ကြားတယ်။

(၄) ပေးကမ်းလှူဒါန်းသူဟာ ရဟန်းပရိသတ် လူပရိသတ် ဘယ်ပရိသတ်ထဲဝင်ဝင် မင်းပွဲ စိုးပွဲ ဘယ်ပွဲပဲတက်တက် မျက်နှာရွှင်ကြည် တည်တည်ခံ့ခံ့ ဝင့်ဝင့်စားစား တက်ရောက် နိုင်တယ်။

ဒါတွေဟာ ယခု ပစ္စက္ခ လူ့ဘဝမှာပဲ ရရှိတဲ့ အကျိုး ဖြစ်တယ်။ ဆက်လက်ပြီး ရှင်တော်ဘုရားက "သီဟ လှူဒါန်း ပေးကမ်းတဲ့ ဒါနရှင်ဟာ သေလွန်ပြန်လျှင် လူ့ပြည်နတ်ရွာ ကောင်းမြတ်တဲ့ သုဂတိ ဘုံဘဝ ရောက်ရတယ်၊ ဒါကတော့ တမလွန်ဘဝမှာ ဒါနရဲ့ အကျိုးပဲလို့ ဟောကြားတော်မူပါ

တယ်။ သည်အခါ သီဟစစ်သူကြီးက "အရှင်ဘုရား၊ ရှင်တော်ဘုရား ဟောကြားတော်မူတဲ့ ယခု ပစ္စုပ္ပန်ဘဝ ဒါနရှင်ရရှိတဲ့ အကျိုးလေးမျိုးကို တပည့်တော်ကိုယ်တိုင် ရရှိနေတာဖြစ်တဲ့အတွက် ဒါနကုသိုလ် ဆိုတာ သည်ဘဝမှာ အကျိုးပေးတာ ဆိုတာ ကိုယ်တွေ့အနေနဲ့ တပည့်တော် လေးလေးစားစား ယုံကြည် လက်ခံပါတယ် ဘုရား။

ဒါနဟာ လူ့ပြည်နတ်ရပ် ကောင်းမြတ်တဲ့ သုဂတိဘုံဘဝ ရောက်စေတယ် ဆိုတဲ့ အကျိုးဟာ တပည့်တော်ကိုယ်တွေ့ မဟုတ်ပါ။ ဒါပေမယ့် အမှန်ကိုသာ ဆိုတော်မူတတ်တဲ့ ရှင်တော်ဘုရား အပေါ်မှာ ယုံကြည်လေးစားတဲ့အတွက် ဒါနဟာ သုဂတိဘုံဘဝ ရောက်စေတယ်ဆိုတဲ့ ရှင်တော်ဘုရား မိန့်ကြားတော်မူချက်ကိုလည်း တပည့်တော် မမိုတ်မသုန် ယုံကြည်ပါတယ်လို့ လျှောက်ထားပါတယ်။

(အင်္ဂုတ္တိုရ် ပါဠိတော်၊ သီဟသေနာပတိသုတ်)

ဒါဟာ ဒါနကုသိုလ် သည်ဘဝမှာ အကျိုးပေးတယ်ဆိုတဲ့ အဖြေရဲ့ သာဓကပါပဲ။

သီလကုသိုလ် သည်ဘဝမှာ အကျိုးပေးပုံကို ရှင်တော်ဘုရားက သီလနှင့် ပြည့်စုံသူဟာ...

(၁) စည်းစိမ်ဥစ္စာ ချမ်းသာကြွယ်ဝတယ်။

(၂) သီလရှိသူရဲ့ ကောင်းသတင်းဟာ လေညာလေအောက် ထက်အောက် မရွေး၊ ရပ်လေးမျက်နှာ ပြန့်လှိုင်ထင်ရှားကျော်ကြားတယ်။

(၃) သီလရှိသူဟာ ဘယ်ပရိသတ် ဘယ်မင်းပွဲစိုးပွဲကိုပဲ ဝင်ဝင် တည်တည်ငြိမ်ငြိမ် ဣန္ဒြေရရ ခံ့ခံ့ညားညား ဝင့်ဝင့်စားစား ဝင်ရောက်နိုင်တယ်။

(၄) သီလရှိသူဟာ သေလွန်တဲ့အခါ တွေတွေဝေဝေ မေ့မေ့လျော့လျော့ မရှိဘဲ ကောင်းတဲ့ အာရုံကို အာရုံပြုပြီး သေလွန်ရတယ်။

ဒါတွေဟာ အင်္ဂုတ္တိုရ် ပါဠိတော် ဝိနည်းမဟာဝါ ပါဠိတော်များမှာ လာတဲ့ သီလရဲ့ ယခုဘဝမှာ ရရှိတဲ့ အကျိုးတွေပဲ ဖြစ်တယ်။

သီလကြောင့် ယခု ဘဝ ရရှိနိုင်တဲ့ အကျိုးတွေဟာ အလွန်များပါတယ်။ ရှင်တော်ဘုရားက "ချစ်သားတို့ ပစ္စည်းလေးပါး လာဘ်လာဘ ပေါများချင်လျှင် သိတင်းသုံးဖော်များ၊ ဒကာ ဒကာမများ၊ နတ်များ ချစ်ခင်လေးစား ကြည်ညိုစေချင်လျှင် သက်ရှည်ဆင်းလှ၊ သုခနှစ်ဖြာ၊ ကာယ, ဉာဏ၊ ဗလနှစ်ပါး၊ တိုးပွားစေချင်လျှင် သီလနှင့် ပြည့်စုံအောင်နေကြ စသည်ဖြင့် သီလရဲ့ ယခုဘဝ ရနိုင်တဲ့ အကျိုးတရားတွေဟောထားတာ အများကြီး၊ အများကြီးပါပဲ။

ဘဝနှာ ကုသိုလ်ရဲ့ ယခုဘဝ လက်ငင်းရနိုင်တဲ့ အကျိုးတရားတွေကတော့ ရေးပြလို့ ကုန်နိုင်စရာ မရှိအောင်

အံ့သြဖွယ်ရာ မြားမြောင်လှပါတယ်။ သတိမထားမိလို့သာ တချို့ မသိကြတာပါ။ နမူနာတစ်ခုကို ပြောရမည်ဆိုလျှင် တရားအားထုတ်ခြင်းဆိုတဲ့ ဘာဝနာ ကုသိုလ်ဟာ စိုးရိမ်ပူဆွေး ငိုကြွေးရမှုတွေကို လွန်မြောက်စေနိုင်တယ်။ ကိုယ် မချမ်းသာမှု၊ စိတ်မချမ်းသာမှုအဝဝ၊ ရောဂါဘယ အထွေထွေကို ပျောက်ကင်းစေနိုင်တယ်။ မဂ်ဉာဏ်၊ ဖိုလ်ဉာဏ်၊ နိဗ္ဗာန်ကို ရစေနိုင်တယ်လို့ မဟာသတိပဋ္ဌာန သုတ်တော်မှာ ရှင်တော်ဘုရား ဟောကြားထားတော်မူတာကို ယနေ့ ဗုဒ္ဓဘာသာဝင်တိုင်း သိပြီး ဖြစ်ပါလိမ့်မည်။ သည်အကျိုးတရားတွေကို မိမိတို့ သဒ္ဓါ၊ ဝီရိယ၊ ဉာဏ်၊ ပါရမီအလိုက် ထိုက်သလို ခံစားနေရတဲ့ ပုဂ္ဂိုလ်တွေလည်း နည်းလှတယ် မဟုတ်ပါဘူး။

ဒါက ဒီဘဝလုပ်တဲ့ ဘာဝနာကုသိုလ် ဒီဘဝအကျိုးပေးတယ် ဆိုတာနဲ့ ပတ်သက်တဲ့ အကြောင်းအချက် အမြွက်မျှသာ ဖြစ်ပါတယ်။

သည်ဘဝလုပ်တဲ့ဒါန ကုသိုလ်၊ သည်ဘဝ ထင်ထင်ရှားရှား အကျိုးပေးတဲ့ သာဓကတွေကတော့ ...

ကုန်းကောက်စရာ မရှိလောက်အောင် ဆင်းရဲတဲ့ မဟာဒုက်ဟာ ကဿပ ဘုရားရှင်ကို ဆွမ်းကပ်လှူလိုက်တာနဲ့ တစ်ပြိုင်နက် နေပြည်တော်ရဲ့ သူဌေးကြီး ဖြစ်သွားပါတယ်။

ပုဏ္ဏအမည်ရှိတဲ့ ဆင်းရဲသား ဇနီးမောင်နှံဟာ ရှင်သာရိပုတ္တရာ ကိုယ်တော့်မြတ်ကြီးကို သူတို့ တတ်အားသမျှ





ဆွမ်းဒါန ပြုလိုက်တာနဲ့ ချက်ချင်း သူဌေးကြီး ဖြစ်သွားပါတယ်။

ကာကဝလိယ ဇနီးမောင်နှံတို့ဟာ ရှင်မဟာကဿပ ကိုယ်တော်မြတ်ကြီးကို ဆွမ်းတစ်နပ် ကပ်လှူလိုက်ရတာနဲ့ ချက်ချင်း သူဌေးကြီးတွေ ဖြစ်သွားကြပါတယ်။

ဒါတွေကတော့ ကျမ်းဂန်များမှာလာတဲ့ ယခုဘဝ လုပ်တဲ့ ကုသိုလ်၊ ယခု ဘဝ အကျိုးပေးတယ်ဆိုတာနဲ့ ပတ်သက်တဲ့ ဝတ္ထုသက်သေတွေပဲ ဖြစ်ပါတယ်။ သည်လောက်ဆိုလျှင် သည်ပြဿနာ ပြေကောင်းစရာ ရှိပါပြီ။

**အမေး** မည်သို့မျှ မရည်ရွယ်ဘဲ မိမိကြောင့် သတ္တဝါတစ်ခု ပြင်းထန်စွာ ထိခိုက်မိပါက မိမိမှာ အပြစ်ရှိပါသလား။

**အဖြေ** သည် မေးခွန်းကို ဖြေရလျှင် စေတနာဟာ အဓိကပါပဲလို့ ဖြေရမှာပါပဲ။ ဘယ်လို ရည်ရွယ်ချက်မှ မရှိဘဲ မတော်တဆ လုပ်မိတဲ့ အလုပ်ဟာ စေတနာ မပါတဲ့အတွက် မိမိမှာ ဘာအပြစ်မှ မရှိပါဘူး။

ရှင်တော်ဘုရား လက်ထက်က တစ်နေ့မှာ ဆဗ္ဗဂ္ဂီ ရဟန်းတွေ တောမီးရှို့ကြပါတယ်။ မီးဟာ [illegible]တွေကို

ကူးစက်လောင်ကျွမ်းပြီး လူတွေ သေကုန်ပါတယ်။ ဆဗ္ဗဂိရဟာန်းတွေဟာ သူတို့ ပါရာဇိက အာပတ်များ သင့်နေသလားလို့ သံသယဖြစ်ပြီး ရှင်တော်ဘုရားကို လျှောက်ထားတဲ့အခါ ရှင်တော်ဘုရားက သေစေလိုတဲ့ ဆန္ဒမရှိဘဲ လုပ်တဲ့ အလုပ်ဖြစ်လို့ ပါရာဇိက အာပတ် မသင့်၊ အပြစ်မရှိလို့ အဆုံးအဖြတ်ပေးတော် မူပါတယ်။

(ပါရာဇိကဏ်ပါဠိတော် တတိယ ပါရာဇိက ဝိနီတဝတ္ထု)

သည်မေးခွန်းနှင့် အလားတူ မေးခွန်းမျိုး အဖြေပေးခဲ့ဖူးပြီ ထင်ပါတယ်။ ဒါနဲ့ပတ်သက်တဲ့ ဝတ္ထု နိပါတ် ဇာတ်သက်သေ တွေကတော့ အများကြီးပါပဲ။ သည်နေရာမှာ စေတနာ (ရည်ရွယ်ချက်)က အဆုံးအဖြတ် ပေးပါတယ်။ စေတနာ သန့်လျှင်၊ ရည်ရွယ်ချက် ကောင်းလျှင် ဘယ်လိုမှ မရည်ရွယ်ဘဲ မတော်တဆ လုပ်မိပြောမိလျှင် ဘာမှ အပြစ်မရှိဘူးလို့ မှတ်သားဖို့ပဲ ဖြစ်ပါတယ်။

နံပါတ်(၁) (၄) နဲ့ အလားတူ မေးခွန်းမျိုးတွေကို ဤစာအုပ်မှာပဲ အဖြေပေးပြီး ဖြစ်တဲ့အတွက် ရှာကြည့်ဖို့ ပြောကြားလိုက်ပါတယ်။



## မေးခွန်း(၃၅)

**အမေး** မသိသေးသော ဓမ္မအနှစ်သာရတွေကို အကျယ်တပြန့် သိရှိလေအောင် ကရုဏာတရား မေတ္တာထားပြီး ဗုဒ္ဓဝါဒဆိုင်ရာ ရတနာမွန်စာစောင်မှ ဖြေကြားဩဝါဒ ပေး နေသော အရှင်သူမြတ်ဘုရား။

တပည့်တော်ဟာ ဗုဒ္ဓဘာသာဝင် တစ်ယောက် ဖြစ်ပါတယ်။ သို့ဖြစ်၍ ဗုဒ္ဓဘာသာဆိုင်ရာ စာပေကျမ်းဂန်တွေကို အမြဲ လေ့လာနိုးကြားပါတယ်။ တစ်ခါတစ်ရံမှာ အနက်အဓိပ္ပာယ်မှာ မသိရှိပေမယ့် ဗုဒ္ဓဘာသာကို ကြည်ညိုလေးစားတဲ့အနေနဲ့ အနက်မသိသော ပါဠိဘုရားစာတွေကို အမြဲရွတ်ဖတ်လေ့ ရှိပါတယ်။

ဘေးမှာ နားထောင်နေသော သူငယ်ချင်းဟာလည်း ဗုဒ္ဓဘာသာဝင် ဟစ်ယောက် ဖြစ်ပါတယ်။ ဒါပေမယ့် သူ့ရဲ့ ခံယူချက်နှင့် တပည့်တော်ခံယူချက်နှင့် တော်တော်လေး ခြား နားနေပါတယ်။ သူငယ်ချင်းပြောပုံက အနက်မသိသော ပါဠိ ကို ရွတ်ဖတ်လို့ ဘာမှ မထိရောက်ဘူး ပြောပါတယ်။ ဒါ မှန်ပါသလား။ တပည့်တော် ခံယူချက်ကတော့ ဗုဒ္ဓဘုရား ဟော ကြားခဲ့သော စကား၊ အနှစ်သာရကို မသိရှိသည့် တိုင်အောင် သည်စကား အနှစ်သာရသည် ကောင်းသော စကား၊ ကောင်း သော ဝါဒ၊ ကောင်းသောအကျိုးပေး လိမ့်မည် ဟူသော ခံယူချက်နှင့် ရွတ်ဖတ်နေတာကတော့ အမှန်ဖြစ်ပါ တယ်။ သည်လို အနက်မသိသော ပါဠိဂုဏ်တော်တွေကို ရွတ်ဖတ်နေလို့ အကျိုးခံစားခွင့် ရှိပါသလား၊ မရှိဘူးလားဆိုတာ ကရုဏာ မေတ္တာပွားပြီး ဖြေကြားတော်မူပါ အရှင်သူမြတ် ဘုရား။

မောင်စံသိန်းလှိုင်
ပဒေသာမြို့သစ်၊ ပြင်ဦးလွင်မြို့။

**အဖြေ** **အနက်မသိဘဲ တရား ပါဠိတော်တွေ ရွတ်ဖတ်ခြင်း။**

အနက်အဓိပ္ပာယ် မသိသော်လည်း ဒါတွေဟာ ကောင်း သော အနက်အဓိပ္ပာယ် အနှစ်သာရရှိတဲ့ တရားတွေပဲဆိုတဲ့ အသိနဲ့ ဓမ္မစကြာ၊ အနတ္တလက္ခဏာသုတ်၊ ပရိတ်ကြီး အစရှိတဲ့





ပါဠိတွေကို ကြည်ညိုလေးစားစွာ ရွတ်ဖတ်တာဟာ များစွာ အကျိုးရှိပါတယ်။ ကုသိုလ်တရားတွေ မိမိသန္တာန်မှာ များစွာ ဖြစ်ပွားပါတယ်။

ဒါတွေဟာ ကောင်းတဲ့ အဓိပ္ပာယ် အနှစ်သာရရှိတဲ့ တရားတွေပဲလို့ သိတာ၊ သိပြီးတော့ ကြည်ညိုလေးစားတာ တွေဟာ ဘုရားကို ကြည်ညိုတဲ့၊ တရားသံဃာတွေကို ကြည် ညိုတဲ့ ကုသိုလ်စိတ်တွေပဲ မဟုတ်ပါလား။ သည်လို ကြည်ညို ရုံမကဘဲ နှုတ်နဲ့ပါ ရွတ်တယ်ဆိုတော့ ဓမ္မပူဇာမင်္ဂလာ ကုသိုလ် အထူးတွေ ဖြစ်တော့ (အဓိပ္ပာယ်) သိသလောက် အကျိုးမ ရောက်သော်လည်း) အလွန်မွန်မြတ်တဲ့ ကုသိုလ်တွေ ဖြစ်တယ် လို့ ဆိုရပါမယ်။ သည်နေရာမှာ သာဓကတစ်ရပ်ကို ထုတ်ရလျှင် ခုလို ပွင့်လင်းရာသီမှာ ရပ်တကာ ရွာအနှံ့ ပဌာန်းရွတ်ဆိုပွဲကြီးတွေ ခြိမ့်ခြိမ့်သဲ ကျင်းပနေကြတာ အားလုံးအသိပဲ ဖြစ်ပါတယ်။

အဲသည် ပဋ္ဌာန်းပွဲတော်ကြီးတွေမှာ ရွတ်ဆို ပူဇော် နေကြတဲ့ ပဋ္ဌာန်း ဒေသနာတော်ကြီးဟာ ကျမ်းစာအုပ်ကြီး ငါးအုပ်မျှ ဖြစ်ပါတယ်။ သည် ကျမ်းစာအုပ်ကြီး ငါးအုပ်ဟာ ရှင်တော်ဘုရား တာဝတိံသာ နတ်ပြည်မှာ ဟောကြားတော် မူခဲ့တဲ့ မူလ ပဋ္ဌာန်းဒေသနာတော်ကြီးကတော့ "သည်ရွေ့ သည်မျှနှင့်ပဲ" လို့ ဂဏန်းတပ်ပြီး နှုတ်ခမ်းသတ်လို့ မရအောင် များပြောင် ကျယ်ဝန်းလှပါတယ်။

အခုရှိနေတဲ့ ကျမ်းစာအုပ်ငါးအုပ်လာ ပဋ္ဌာန်း ဒေသနာတော်ကြီးကတော့ ရှင်သာရိပုတ္တရာ ကိုယ်တော်မြတ် ကြီးက သူ့တပည့် ရဟန်းတော်ငါးရာတို့အား သူတို့ဉာဏ်နဲ့ လက်ခံနိုင်ရုံမျှ အကျဉ်းချုံးပြီး ဟောထားတော်မူတဲ့ ဒေသနာတော် ဖြစ်ပါတယ်။

ကဿပ ရှင်တော်ဘုရား လက်ထက်က ကုသိုလ် အကုသိုလ် အဆိုးအကောင်းမျှ မသိကြတဲ့ အဟိတ် တိရစ္ဆာန် လင်းနို့သား ငါးရာတို့ဟာ လိုဏ်ဂူကြီးထဲမှာ နေကြပါတယ်၊ ရဟန်းတော်တစ်ပါးဟာ အဲသည် လိုဏ်ဂူကြီးထဲမှာ အဘိဓမ္မာ ဒေသနာကို ရွတ်ဆိုလေ့ ရှိပါတယ်။ လင်းနို့သား ငါးရာတို့ဟာ အဲသည် ရဟန်းတော်ရဲ့ တရားသံကို ကြားရတာ သူတို့ သဘောကျ စိတ်ကြည်လင်ကြရပါတယ်။ ကြည်ညိုတယ်လို့ ဆိုရမှာပါပဲ။ ဒါဟာ ကောင်းကျိုးဆိုးပြစ်ရယ်လို့ မသိဘဲ ကြည်ညိုတဲ့အတွက် ဉာဏဝိပ္ပယုတ် (ဉာဏ်မပါတဲ့) ကုသိုလ် စိတ်ပါပဲ။ လင်းနို့သား ငါးရာတို့ဟာ စုတေတဲ့အခါ အဲသည် ကုသိုလ်ကြောင့် တာဝတိံသာ နတ်ပြည်မှာ ဖြစ်ကြရပါတယ်။

သူတို့ဟာ ယခု ရှင်တော်ဘုရား လက်ထက်မှာ ရှင်သာရိပုတ္တရာ ကိုယ်တော်မြတ်ကြီးရဲ့ တပည့်ရဟန်း ငါးရာတို့ ဖြစ်လာကြပြီး ပဋ္ဌာန်း ဒေသနာတော်ကြီး အပါအဝင် အဘိဓမ္မာဒေသနာတော် အစဉ်ကို ဦးစွာ နာယူကြရကာ အဘိဓမ္မာ ဒေသနာတော်ရဲ့ အရသာကို ပြည့်ဝစွာ ခံစားကြရပါတယ်။





နောက်ထပ် သာဓကလေး တစ်ခုကို ပြရလျှင် တောတွင်း တစ်နေရာရှိ အိုင်နံ့ဘေးမှာ ရဟန်းတော်တစ်ပါး တရားကို ရွတ်ဆိုသရဇ္ဈာယ်နေပါတယ်။ သည်အခါ ဖားကလေး တစ်ကောင်ဟာ တရားသံကို နှစ်ခြိုက်စွာ နားစိုက် ထောင်နေပါတယ်။ သည်လို ဖားကလေး နားထောင်နေတုန်းမှာ နွားကျောင်း သား တစ်ယောက် ရောက်လာပြီး အမှတ်တမဲ့ ဖားကလေး ကျောကုန်းပေါ် တုတ်ထောက်ပြီး ရဟန်းရဲ့ တရားသံကို နားထောင်ပြန်ပါတယ်။ နွားကျောင်းသားဟာ လည်း တရားသံကို သဘောကျ နှစ်ခြိုက်နေတာနဲ့ တုတ်ကို တော်တော်နဲ့ နေရာမရွှေ့မိဘဲ နားထောင်နေတာကြောင့် ကျောကုန်းပေါ် က တုတ်ထောက်ခံထားရတဲ့ ဖားကလေးဟာ အဲသည်နေရာတွင်ပဲ အသက်ပျောက်ကာ တရားသံကို နှစ်သက်ကြည်ညိုတဲ့ စေတနာကြောင့် အထက်နတ်ရွာ တာဝတိံသာ ရောက်ပြီး မဏ္ဍုက ဒေဝပုတ္တ (ဖားနတ်သား) အဖြစ် တခမ်းတနားကြီးကို ချမ်းသာကြီးပွား တန်ခိုးထွားနေပါသတဲ့။

ဒါတွေက သူတစ်ပါး ရွတ်ဆိုသံကို နာကြားကြည်ညိုတဲ့ ကုသိုလ်ကြောင့် အကျိုးခံစားရပုံ အနည်းငယ်မျှ ဖြစ်ပါတယ်။ ကိုယ်တိုင် ရွတ်ဆိုလို့ရတဲ့ ကုသိုလ်အကျိုးကို ခံစားရပုံတွေကတော့ ...

(၁) ပရိတ်ကြီး တစ်ဆယ့်တစ်သုတ်ကို အဓိပ္ပာယ် အသေအချာ မသိဘဲ မှန်မှန်ရွတ်ဆိုတဲ့ ကုသိုလ်ကြောင့်

အသတ်ခံရမည့် ဘေးက လွတ်ခဲ့ရပုံ။

(၂) တစ်ခုသော ပါဠိဂါထာကို အကြိမ်များစွာ ရွတ်ဆိုတဲ့ ကုသိုလ်ကြောင့် မဖျော်လင့်ဘဲ ထောင်ထဲမှ လွတ်ခဲ့ရပုံ။

(၃) ပဋ္ဌာန်း ၂၄ ပစ္စည်းမှုကို အဓိပ္ပာယ်မသိဘဲ ယုံယုံကြည်ကြည် ရွတ်ဆိုတဲ့ ကုသိုလ်ကံကြောင့် စီးပွားဥစ္စာ တိုးတက်ရပုံ၊ လာဘ်လာဘရွှင်ရပုံ စသည် စသည်များပဲ ဖြစ်ပါတယ်။

ဒီလို သာဓကတွေ သိသမျှ ထုတ်နုတ်ပြရမယ် ဆိုလျှင် "ဇာတ် ဝတ္ထုသာဓကမှာ ကျောင်းတိုင်းတွင် ကိုးကြောင်းရေး ဆယ်ကြောင်းရေး စာတိုက်ချင်း ယှက်ထွေး၍ မကွေးသာ မဆန့်သာ ပေါ်များလှပါတော့သည်" ဟူသော လယ်တီဆရာတော်ကြီး၏ စကားအတိုင်း ကုန်နိုင်ဖွယ်မရှိ ပေါ်များလှပါဘိလို့ ဆိုရပါလိမ့်မယ်။

ဒါကြောင့် အဓိပ္ပာယ် အသေအချာ မသိဘဲ ကြည်ညိုတဲ့ စိတ်ထားနဲ့ ဘုရားစကား ပါဠိတော်များ ဂုဏ်တော်များကို ရွတ်ဆို ပွားများကုသိုလ်ဖြစ် အကျိုးရတယ်လို့ မှတ်ထားပြီး များများကြီး ရွတ်ဆိုပွားများပါလို့ တိုက်တွန်းလိုက်ပါတယ်။

အဓိပ္ပာယ်ကို သိပြီး ရွတ်ဆိုပွားများလျှင်တော့ တုမရနိုင်းမသာ အကျိုးသမုဒ္ဒရာကြီး ဖြစ်သွားမှာပဲလို့လည်း ထပ်ပြောလိုက်ပါတယ်။



## မေးခွန်း(၃၆)

**အမေး** ဆရာတော် အရှင်မြတ်ဘုရား။

တပည့်တော်သည် နံနက်ဆွမ်းခံထွက်တဲ့အခါ စိတ်ထဲကနေပြီး မေတ္တာသုတ်၌ "ယေကေစိမှ နပ်ရောပရံ ပိုဒ်အဆုံးထိကို တပည့်တော် သက်စေ့ရွတ်ပါသည် ဘုရား။ ယခုလို တပည့်တော် ရွတ်ခြင်းသည် အသံထွက် ရွတ်သလို အကျိုး ရှိမရှိ သိလိုပါ၍ ဖြေကြားပေးတော်မူပါရန် ရှိသေစွာ လျှောက်ထားအပ်ပါသည် အရှင်သူမြတ်ဘုရား။

တပည့်တော်

ရှင်ဥက္ကနန္ဒ

ကိုးသိန်းပရိယတ္တိ စာသင်တိုက်၊ ပခုက္ကူမြို့။

**အဖြေ**

မေတ္တာသုတ်ကို စိတ်နဲ့ရွတ်ဆိုတာ အသံထွက် သလိုပဲ အကျိုးရပါတယ်။ မေတ္တာဆိုတာ အကျိုးစီးပွားကို လိုလားတဲ့ (အဒေါသ စေတသိက်နဲ့ ယှဉ်တဲ့) စိတ်ပဲ။ မေတ္တာပို့တယ်၊ မေတ္တာပွား တယ်ဆိုတာ အဲသည် စိတ်ကို ပုဂ္ဂိုလ်တစ်ဦးဦး သို့မဟုတ် ပုဂ္ဂိုလ်သတ္တဝါများအပေါ် ပျံ့နှံ့စေကာ လွှမ်းခြုံဖြန့်ကျက်ထား တာပါ။ ဘေးရန်ကင်းကွာ ကျန်းမာချမ်းသာစေချင်တာပါပဲ။ ပုဂ္ဂိုလ် သတ္တဝါတို့၏ အကျိုးစီးပွားကို လိုလားတာပါပဲ။

ဒါကိုကြည့်လျှင် မေတ္တာပို့တယ်၊ မေတ္တာပွားတယ် ဆိုတာ အဓိက စိတ်အလုပ်ပဲ။ သည်တော့ စိတ်ထဲမှာ သည်လို အကျိုးစီးပွားလိုလားတဲ့ သဘောမျိုး မရှိဘဲ တခြား တွေးချင်ရာ တွေးပြီး နှုတ်နဲ့ မေတ္တာသုတ်ကို ဘယ်လောက်ပဲ ရွတ်ဆိုရွတ်ဆို မေတ္တာပို့ရာ မေတ္တာပွားရာ မရောက်ပါဘူး၊ ကုသိုလ်တော့ အထိုက်အလျောက် ဖြစ်ပါတယ်။

မေတ္တာပို့တာနဲ့ ပတ်သက်ပြီး ကိုရင်ကို ပြောချင်တာက ကိုရင် မေတ္တသုတ် ရွတ်တဲ့အခါ ယေကေစိမှ စပြီး ရွတ် တယ် ဆိုပါတယ်။ အဲသည်လို မရွတ်ဘဲ ကရဏီယက စပြီး ရွတ်ပါ။ ရွတ်ရုံသာ မဟုတ်ဘဲ သည်ဂါထာတွေ အနက် အဓိပ္ပာယ်တွေကို သိရှိနားလည်အောင် လေ့လာပါ။ အဲသည် အတိုင်းလည်း ကျင့်သုံးပါ။

အဲသည် ဂါထာတွေမှာ လာတဲ့ တရားတွေဟာ





မေတ္တာမပွားခင် ရှေးအဖို့ ကြိုတင် ဖြည့်ကျင့်ထားရမည့် အရေးကြီးတဲ့ (မေတ္တာပုဗ္ဗဘာဂပဋိပဒါ) တရားတွေ ဖြစ်ပါ တယ်။ မေတ္တာ၏ ရှေ့အနီးမှာ ဖြစ်တဲ့ အကျင့်များ ဖြစ်ပါတယ်။ သည်အကျင့်တရားတွေနဲ့ ပြည့်စုံလျှင် ပြည့်စုံသလောက် မေတ္တာပွားတာ ခရီးရောက် မေတ္တာကမ္မဋ္ဌာန်း ပေါက်ပါလိမ့် မယ်။ မေတ္တာတန်ခိုး ပွားတိုးကာ ထက်မြက်ပါလိမ့်မယ်လို့ ပြောလိုပါတယ်။

## မေးခွန်း(၃၇)

**အမေး** ရဟန်းဘဝဖြင့် အနန္တောအနန္တ ငါးပါး ရှိခိုးရာတွင် လောကီဘက်ဖြစ်သော အမိအဖနှင့် ဆရာများကို ရှိခိုးလို့ ရမရ ခွဲခြားဖြေတော်မူပါ ဘုရား။

**အဖြေ** **ရဟန်းက ရှိမခိုးကောင်းသော ပုဂ္ဂိုလ်များ**

၁။ ရွာတွင်း၌ ဝင်သော ရဟန်း၊

၂။ လမ်း၌ ရောက်နေသော ရဟန်း၊





၃။ မှောင်ထဲ၌ ရောက်နေသော ရဟန်း။

၄။ ရှိခိုးဝပ်ချသည်ကို နှလုံးမသွင်းသော (ဂရုမစိုက်သော) ရဟန်း၊

၅။ အိပ်ပျော်နေသော ရဟန်း၊

၆။ ယာဂုသောက်ရာ၌ (ရောက်နေသော) ရဟန်း၊

၇။ ဆွမ်းယူရာ၌ (ရောက်နေသော) ရဟန်း၊

၈။ တစ်ဖက်ရန်သူ၌ လည်သွားသော ရဟန်း၊

၉။ တစ်ပါးသော အာရုံ၌ စိတ်ထားနိုက်ရဟန်း၊

၁၀။ အဝတ်မဖုံး ကိုယ်တုံးလုံး ရဟန်း၊

၁၁။ ခဲဖွယ်ကို ခဲစားဆဲ ရဟန်း၊

၁၂။ ဆွမ်းဘောဇဉ်ကို စားဆဲရဟန်း၊

၁၃။ ကျင်ကြီးစွန့်နေသော ရဟန်း၊

၁၄။ ကျင်ငယ် စွန့်နေသော ရဟန်း၊

၁၅။ သံဃာ့ဆောင်မှ နှင်ထုတ်ထားသော (ဥက္ခိတ္တက) ရဟန်း၊

၁၆။ သီးတင်းငယ် (မိမိအောက် သိက္ခာ-ဝါငယ်သော) ရဟန်း၊

၁၇။ လူ, သာမဏေ၊

၁၈။ မိမိနှင့် အယူမတူသော အဓမ္မဝါဒီ ဘက်သားလည်း ဖြစ်သော သီတင်းကြီးသူ (မိမိထက် ဝါကြီးသူ)

၁၉။ မာတုဂါမ၊

၂၀။ ပဏ္ဍုက်၊

၂၁။ ပရိဝါသ်နေသော ရဟန်း။

၂၂။ အရင်းသို့ ငင်ထိုက်သော (အစက ပြန်ကောက် ထိုက်သော) ရဟန်း၊

၂၃။ မာနတ်ကျင့်ထိုက်သော ရဟန်း၊

၂၄။ မာနတ်ကျင့်ဆဲ ရဟန်း၊

၂၅။ အဗ္ဘာန် သွင်းထိုက်သော ရဟန်း ပေါင်း ၂၅ ပါး ဖြစ်ပါတယ်။

ဒါကြောင့် တစ်ခါတစ်ရံ ဆွမ်းဘုဉ်းပေးနေတဲ့ မထေရ်ကြီးကို ဝတ်ချမယ် လုပ်တဲ့အခါ မထေရ်ကြီးများက နေနေဝတ်မချနဲ့ စသည်ဖြင့် တားမြစ်တတ်တာကို တွေ့ဖူး ကြုံဖူးကြပါလိမ့်မယ်။ ဝတ်ချတဲ့အတွက် အပြစ် (အာပတ်) တော့ မသင့်ပါဘူး။

သည် အဝန္ဒိယ (ရှိမခိုးသင့်တဲ့) ပုဂ္ဂိုလ်များထဲက နံပါတ် ၁၅ မှ ၂၅ ထိ ၁၂ ဦးတို့ကို ရှိခိုးဝတ်ချလျှင် အာပတ်သင့်ပါတယ်။ (နံပါတ် ၁၇ အရ လူ၊ သာမဏေ နှစ်ဦး ယူပါ။)

ဆရာမိဘများဟာ နံပါတ် ၁၇–၁၈ တို့အရ ရှိမခိုး ရတဲ့ စာရင်းမှာ ပါဝင်နေသူများ ဖြစ်တဲ့အတွက် ရဟန်းဘာဝ





ဖြင့် လူဝတ်ကြောင် ဆရာ မိဘများကို ရှိမခိုးကောင်းဟု မှတ်ရမှာ ဖြစ်ပါတယ်။

လောကမှာ ရာထူးအာဏာ စည်းစိမ်ဥစ္စာ ချမ်းသာ ကြွယ်ဝခြင်း၊ လုပတင့်တယ်ခြင်း အမျိုးဇာတ် အစရှိတဲ့ ဂုဏ်တွေထက် သီလ (ကိုယ်ကျင့်တရား) ဟာ အမြတ်ဆုံးပဲ။ "မောဃာ ဇာတိစ ဝဏ္ဏောစ၊ သီလမေဝ ကိရုတ္တမံ" (အမျိုးဇာတ်တို့ အဆင်းလှခြင်းတို့ ဆိုတာတွေဟာ အလကား ဟာတွေပါ။ သီလကသာ အမြတ်ဆုံး) လို့ ရှင်တော် ဗုဒ္ဓ မိန့်ဟတော်မူခဲ့ပါတယ်။

လူဝတ်ကြောင်များမှာ တည်ရှိနိုင်တဲ့ သီလဟာ အလွန်ဆုံး (ဂဟဋ္ဌသီလ) လူဝတ်ကြောင်တို့ စောင့်ထိန်း နိုင်တဲ့ (၁၀) ပါး သီလမျှသာ ဖြစ်ပါတယ်။ ရဟန်းမှာ တည်ရှိတဲ့ သီလကတော့ အကျဉ်းအားဖြင့် ၂၂၇ သွယ်၊ အကျယ် ကုဋေကိုးထောင်ကျော် ရှိပါတယ်။

ရဟန်းကို အသာထား ရှင်သာမဏေများ စောင့်ထိန်း ရတဲ့ သီလသည်ပင် လိင်၊ ဒဏ်၊ သေခိယ၊ ခန္ဓကဝတ် စသည်ဖြင့် လူဝတ်ကြောင်များ သီလထက် အများကြီး ပိုပါ တယ်။ ဒါကြောင့် လောကမှာ အမြတ်ဆုံး၊ အသာဆုံး၊ သီလအနှစ်သာရရှိနေတဲ့ ရှင်ရဟန်းများက သီလအနှစ်သာရ အားနည်းတဲ့ လူဝတ်ကြောင်များကို ရှိမခိုးကောင်းတာ ဖြစ်ပါ တယ်။

ရဟန်းများ ရှိခိုးရမယ့် ပုဂ္ဂိုလ်ဟာ သုံးဦးသာ ရှိပါတယ်။

၁။ မိမိထက် သိက္ခာဝါကြီးတဲ့ ရဟန်း။

၂။ မိမိနဲ့ ပေါင်းသင်းဆက်ဆံရေး ကွဲပြားသော်လည်း ဓမ္မဝါဒီ–တရားလမ်းမှန် ဘက်က ရပ်တည်တဲ့ မိမိထက် သိက္ခာဝါကြီးတဲ့ ရဟန်း (မိမိထက် သိက္ခာဝါကြီးစေကာမူ အဓမ္မဝါဒီဖြစ်လျှင် ရှိမခိုးကောင်း)

၃။ မြတ်စွာဗုဒ္ဓ၊ သည် သုံးဦးပဲ ဖြစ်ပါတယ်။

သည်နေရာမှာ ရှိခိုးဦးချတာနဲ့ လက်အုပ်ချီတာ ကွဲပြားစေချင်ပါတယ်။ ရှိခိုးဦးချတယ်ဆိုတာ "နဖူး၊ ဒူး၊ လက်၊ မြေထက်ကျပြား တည်ခြင်းငါး ဝပ်တွားရပါမည်" ဆိုတဲ့ တည်ခြင်း ငါးပါးနှင့် အညီ ဦးနှိမ်ရိုကျိုး လေးလေး မြတ်မြတ် ရှိခိုးဝပ်ချတာကို ဆိုပါတယ်။

လက်အုပ်ချီတာကတော့ သည်လိုမဟုတ်ဘဲ လက်ဝါး နှစ်ဘက်ကို ကြာဖူးကြာငုံ ပုံသဏ္ဌာန်ဖြစ်အောင် ပူးပြီးတော့ နှလုံးသား တည့်တည့် ရင်မှာဖြစ်စေ၊ နဖူးမှာ ဖြစ်စေ ထားပြီး ကြည်သာရွှင်ပျတဲ့ မျက်နှာထားနဲ့ ရင်ထဲ နှလုံးသားထဲ အသည်းထဲက လှိုက်လှဲ ခင်မင်ပါတယ်၊ လေးစားပါတယ် ဆိုတဲ့ အမူအရာ ပြတာ ဖြစ်ပါတယ်။ သည်လိုကွဲပြားတယ်။

စန္ဒကုမ္မာရ ဇာတ်တော်မှာ အလောင်းတော် စန္ဒကုမာရ





မင်းသားဟာ ဇက်ဖြတ်အသတ်ခံရမည့် ဘေးက (သေတွင်းက) သီသီကလေး လွတ်ကာ ရှင်ဘုရင်ဖြစ်လာပြီးတဲ့ နောက်မှာ (မိမိလည်ချောင်းသွေးနဲ့ ယဇ်ပူဇော်ဖို့ လုပ်လို့ တိုင်းသူပြည်သား များက နှင်ထုတ်လိုက်တဲ့ အတွက် စဏ္ဍာလရွာ ရောက်ပြီး စဏ္ဍာလ ဖြစ်သွားတဲ့) ခမည်းတော်ထံ ရိက္ခာထောက်ဖို့ သွားတဲ့အခါ "ပတိမ္ဟိတိ န ဝန္ဒတိ၊ အဉ္ဇလိမ္ပနကတွာ စိရံ ဇီဝ သာမိတိ ဝဒတိ" ရှိမခိုးဘဲ လက်အုပ်ချီကာ အရှင် အသက်ရှည်ပါစေသတည်း။ သည်လောက်ပဲ ဆိုတယ်လို့ ဇာတ်အဋ္ဌကထာမှာ ဆိုပါတယ်။

မလ္လိကာမိဖုရားကြီးဟာ ဥဂ္ဂသေနမင်းရဲ့ ဓမ္မဒိန္နာ အမည်ရှိတဲ့ မိဖုရားကြီး ဖြစ်စဉ် အတိတ် ဘဝတုန်းက ဗာရာဏသီမင်းဟာ တစ်ရာ့တစ်ပါးသော မင်း မိဖုရားတို့ရဲ့ လည်ချောင်းသွေးနဲ့ ညောင်ပင်စောင့် ရုက္ခစိုးနတ်ကို ပူဇော်မည် ဆိုပြီး အားလုံးကို ဖမ်းခါ ညောင်ပင်မှာ စုရုံးထားပါတယ်။ သူ့ကံနဲ့သူ မင်းဖြစ်တာကို အလွဲယုံကြည်တာကြောင့်ပါပဲ။

သည်အခါ ဓမ္မဒိန္နာ မိဖုရားကြီးက နတ်က မင်းဖြစ် အောင် လုပ်မပေးနိုင်ကြောင်း ယုတ္တိသက်သေအမျိုးမျိုးနဲ့ ဗာရာဏသီ မင်းကို နားလည်အောင် ရှင်းပြတဲ့အတွက် မင်းဟာ သဘောပေါက် နားလည်သွားလို့ မင်း၊ မိဖုရား အားလုံးကို လွှတ်ပေး ပြီး မိမိထက်ကြီးသော မင်းများကို ရှိခိုးဝပ်ချ၊ မိမိအောက် ငယ်သော မင်းများကို လက်အုပ်ချီကာ

မိမိကျူးလွန်မိတဲ့ အပြစ်များကို တောင်းပန်ပြီးနောက် ဆိုင်ရာ တိုင်းပြည်များကို ပြန်သွားစေပါတယ်။

သည်ဝတ္ထုမှာလည်း ရှိခိုးတ ၂နဲ့ လက်အုပ်ချီတာကို ကွဲကွဲပြားပြား ဖော်ပြထားတာကို တွေ့ရမှာ ဖြစ်ကြောင်း ပြောလိုပါတယ်။



## မေးခွန်း (၃၈)

**အမေး** မန်ကျည်းစေ့ ကမ္ဗဝါကို ဘယ်ခုနှစ်၊ ဘယ်အချိန်မှာ ဆရာတော်က စထွင်ခဲ့သည်ကို သိလိုပါသည်။ ဖြေကြားပေးပါ။

မောင်လွမ်းဝေ

**အဖြေ** မန်ကျည်းစေ့ ကမ္ဗဝါစာလုံးနဲ့ ပတ်သက်ပြီး စိတ်ဝင်စားသူ အတော်များပါတယ်။ ဆွေးနွေးကြပါတယ်။ မိမိတို့လည်း ယခင်က မန်ကျည်းစေ့ ကမ္ဗဝါအကြောင်း မေးမြန်းလေ့လာဖူးခဲ့ပါတယ်။ လေ့လာလို့ သိရတာကတော့ "အင်းဝခေတ် ရှမ်းသိုဟန်ဘွား က ဘုန်းကြီးတွေသတ် ပိဋကတ်တော်တွေ ဖျက် စသည်ဖြင့်

သာသနာဖျက်မှု ပြုခဲ့ရာ သာသနာ့ အသက်လို့ ဆိုရမည့် ကမ္ဘဝါများကို ကာကွယ်ဖို့ရာ မန်ကျည်းစေ့ဟန် ဖန်တီးထား ခြင်း ဖြစ်တယ်" လို့ သိရပြီး သည်အတိုင်းပဲ လက်ခံမှတ်သား ခဲ့ပါတယ်။

ဒါပေမယ့် လွန်ခဲ့တဲ့ နှစ်ပေါင်း အတော်ကြာလောက် က မြန်မာပညာရှိကြီးများ အတော်စုံတဲ့ စကားဝိုင်း တစ်ခုမှာ ပုဂ္ဂိုလ်ကြီး တစ်ဦးက ဒီမန်ကျည်းစေ့ ကမ္ဘဝါအကြောင်းကို ပြောပါတယ်။ သူပြောတာက အထက် ဖော်ပြပါ ရှမ်းသိုဟန် ဘွားနဲ့ ပတ်သက်တဲ့ အကြောင်းပါပဲ။ ဒီအခါ ပုဂ္ဂိုလ်ကြီး တစ်ဦးက ဒါ လုံးဝမဟုတ်တဲ့ အကြောင်း၊ ယုတ္တိလည်း မရှိတဲ့အကြောင်း ပြောပြီး သူ့အဆိုကို လက်မခံခဲ့ပါ။

အဲသည် ပုဂ္ဂိုလ်ကြီးရဲ့ အကြောင်းပြချက်ကိုတော့ မမှတ်မိလိုက်ပါဘူး။ အဲဒီ အချိန်ကစပြီး မန်ကျည်းစေ့ ကမ္ဘဝါဟာ ရှမ်းသိုဟန်ဘွားနဲ့ မပတ်သက်ဘူး ဆိုတာကိုတော့ အမှတ်အသား ပြုထားလိုက်ပါတယ်။ ဆက်ပြီး သုတေသန မလုပ်ဖြစ်ဘဲ အမှတ်တမဲ့ နေလိုက်ပါတယ်။

အခု မောင်လွမ်းဝေရဲ့ အမေးကို တွေ့ရတော့မှ ဒါကို ဆက်လက် သုတေသန ပြုနေပါတယ်။ စာပေဘက်မှာ အကျော်အမော် အဘက်ဘက်က ပြည့်စုံတဲ့ ဆရာတော်ကြီး တစ်ပါးက ရှမ်းသိုဟန်ဘွား အကြောင်းကို ပြောပြီး ဒါဟာ တကယ် ခိုင်မာတဲ့အကြောင်း ဟုတ်ချင်မှ ဟုတ်မယ်။





ဆက်လက်ပြီး သုတေသန ပြုဖို့ လိုလိမ့်ဦးမယ် ထင်တယ်လို့ ခြွင်းချက်ကလေးနဲ့ အမိန့်ရှိလိုက်တာကြောင့် ဆက်လက်ပြီး သုတေသန ပြုတဲ့အခါ ...

အရှေ့တောင်အာရှ နိုင်ငံများ ဖြစ်ကြတဲ့ အိန္ဒိယ၊ သီဟိုဠ်၊ နီပေါ၊ တိဘက်၊ မြန်မာ၊ ထိုင်း၊ ကမ္ဘောဒီးယား၊ လောနဲ့ ဗီယက်နမ် နိုင်ငံများမှာ အသုံးပြုနေကြတဲ့ အက္ခရာများ ဟာ အိန္ဒိယပြည်တွင် ၇–ရာစု ဘီစီနောက်ပိုင်းမှာ ထွန်းကား လာတဲ့ ဗြဟ္မီအက္ခရာပွားများ ဖြစ်တယ်လို့ သိရပါတယ်။

သည် ဗြဟ္မီအက္ခရာဟာလည်း (၈၉၀) ဘီစီခန့်တွင် ဖိနီရှန် ကျောက်စာများမှာ တွေ့ရတဲ့ မြောက်ပိုင်း ဆီမိတစ် အက္ခရာမှ ဆင်းသက်လာတာဖြစ်တဲ့ သည်အက္ခရာများကို မက်ဆိုပိုတေးမီးယား ကုန်သည်များက ယူဆောင်ခဲ့ပြီး ၃– ရာစု ဘီစီ၊ အသောကကျောက်စာများကို ရေးထိုးတဲ့ အခါက စပြီး ဗြဟ္မီအက္ခရာလို့ အမည်တွင်တယ်လို့ သိရပါတယ်။

မြန်မာတို့ဟာ မြန်မာနိုင်ငံ မရောက်မီ အက္ခရာအရေး အသား ရှိချင်မှရှိမယ်။ ရှိရင်တောင် အခု ရေးသားနေတဲ့ အက္ခရာပုံသဏ္ဍာန်မျိုး ဟုတ်ဟန်မတူ။

မြန်မာနိုင်ငံသို့ ဝင်ရောက်နေထိုင်ပြီးနောက် ပုဂံခေတ် အရောက် ပျူ၊ မွန်တို့နှင့် ရောနှောနေထိုင်ပြီး ပျူ၊ မွန်တို့ ဆီက ဘာသာစာပေ အရေးအသားများကို သင်ယူတဲ့အခါ ပျူအက္ခရာက ပြုပြင်မှု နည်းပါးပြီး ရုပ်ထွေး၍ မွန်အက္ခရာ

အရေးအသားက အတော်အသင့် ပြုပြင်ထားတဲ့အတွက် ပိုမိုရှင်းလင်းတာကြောင့် မြန်မာတို့က မွန်တို့၏ အက္ခရာ ပုံသဏ္ဌာန်ကို လက်ခံရယူရေးသား သုံးစွဲပုံ ရပါတယ်။

မွန်အက္ခရာဟာ လေးထောင့်အက္ခရာဖြစ်ပါတယ်။ ပုဂံခေတ် မြန်မာအက္ခရာဟာလည်း လေးထောင့် အက္ခရာပဲ ဖြစ်ပါတယ်။ ရာဇကုမာရ ကျောက်စာမျက်နှာ လေးဖက်မှာ ပါဠိ၊ မွန်၊ မြန်မာ၊ ပျူ၊ ဘာသာလေးမျိုးနဲ့ ရေးထိုးထားရာမှာ ပါဠိ၊ မွန်နဲ့ မြန်မာ အက္ခရာများ တူညီနေတာ တွေ့ရပါတယ်။

ဒါကြောင့် ယနေ့ ရေးသားနေကြတဲ့ အက္ခရာကို မွန်–မြန်မာ အက္ခရာလို့ ခေါ်ပါတယ်။ ပုဂံခေတ် ကျောက်စာများရဲ့ ပုံသဏ္ဌာန်ဟာ လေးထောင့်တွေ ဖြစ်တာကို လေ့လာသူတိုင်း တွေ့ပြီး ဖြစ်ပါလိမ့်မယ်။

ဖော်ပြပါ သမိုင်းကျောက်စာ အထောက်အထားများအရ မြန်မာစာခေတ်ဦးက မြန်မာအက္ခရာဟာ လေးထောင့်ပုံသဏ္ဌာန် ဖြစ်တယ်လို့ ယူဆရမှာပဲ။

ထေရဝါဒ ပိဋကတ်စာပေတွေဟာ အနော်ရထာမင်းကြီး လက်ထက်ကျမှ သထုံက တစ်ဆင့် ပုဂံကို ရောက်လာတာ ဖြစ်ပါတယ်။ သည်စာပေတွေထဲမှာ ကမ္မဝါတွေလည်း ပါလာပါတယ်။ သည်ကမ္မဝါစာတွေကို ဆင့်ပွားကူးယူတဲ့အခါ လက်ရှိ ရေးသား အသုံးပြုနေကြဖြစ်တဲ့ အက္ခရာတွေနဲ့ပဲ ရေးသားတာ ဖြစ်တော့ ကမ္မဝါစာတွေဟာ မူလကတည်းက



လေးထောင့် အက္ခရာတွေနဲ့ချည်း ဖြစ်နေမှာပါပဲ။

နောက် တဖြည်းဖြည်း ပြုပြင်ပြောင်းလဲ လာခဲ့တာ ယနေ့ဆိုလျှင် ပင်မလေးထောင့်ပုံ အက္ခရာဟာ ပျောက်လု မတတ် ဖြစ်ပြီး အဝိုင်းပုံ အက္ခရာကသာ နေရာယူ လွှမ်းမိုးနေတာ တွေ့ရပါတယ်။

သည်အဝိုင်းပုံ အက္ခရာကို ဘယ်ခေတ်လောက်က စတင်အသုံးပြုလာတယ် ဆိုတာကိုတော့ ခန့်မှန်းဖို့ မလွယ်ပါ။ သက်တော် ၉၀ ကျော် ဆရာတော်ကြီးများပင် ခန့်မှန်းဖို့ မလွယ်ကြောင်း မိန့်ကြားကြပါတယ်။

အက္ခရာ သမိုင်းကြောင်းကို မလေ့လာဖူးသူများကတော့ မြန်မာတို့ရဲ့ ပင်မ အက္ခရာဟာ အဝိုင်းပုံ ဖြစ်ပြီး လေးထောင့်ပုံ အက္ခရာဟာ နောက်မှ ပြုပြင်ပြောင်းလဲ ဖြစ်ပေါ်လာတဲ့ အက္ခရာလို့ ပြောင်းပြန် ထင်နေကြတဲ့အတွက် ဒီမေးခွန်း ပေါ်လာဟန် တူပါတယ်။

ဒါကြောင့် သည်မေးခွန်းကို ဖြေဆိုရလျှင် လေးထောင့်ပုံ အက္ခရာနဲ့ မန်ကျည်းစေ့ ကမ္မဝါစာကို ဘယ်ခုနှစ်၊ ဘယ်ဆရာတော်က စထွင်ခဲ့တယ်လို့ နယ်ကျဉ်းကျဉ်းနဲ့ ဖြေလို့မရဘဲ ပုဂံခေတ် အနော်ရထာမင်းကြီး လက်ထက် ပုဂံသို့ သာသနာ တော် ရောက်ချိန်က ရှင်အရဟံ အစရှိတဲ့ ပညာရှိ ရဟန်းတော် မြတ်ကြီးများ၊ ပညာရှိ လူပုဂ္ဂိုလ်ကြီးများက စတင်ရေးသား ခဲ့တာ ဖြစ်တယ်လို့ပဲ ဖြေဆိုလိုက်ပါတယ်။

## မေးခွန်း(၃၉)

**အမေး(၁)** ရှင်ရဟန်းများ သင်းပိုင်ကို ကွင်း (ဂွင်း) ချုပ်ဝတ်ကောင်းပါသလား။

**အမေး(၂)** ရှင်ရဟန်းများ စေတီတည်ကောင်းပါသလား။

အရှင်ဓမ္မပီယ
မင်းကျောင်းစာသင်တိုက်၊ လှိုင်ကော်မြို့၊ ကယားပြည်နယ်။

**အဖြေ(၁)** ရှင်ရဟန်းများ သင်းပိုင်ကို ကွင်း (ဂွင်း) ချုပ်ပြီး မဝတ်ကောင်း။

သင်းပိုင်က လူ့ပုဆိုး လုံချည်နဲ့ မတူစေရပါဘူး။





ထောင့်လေးထောင်နဲ့ အလျားအနံ ပမာဏ ရှိရပါတယ်။

အန္တရဝါသကောစာပိ၊ ဒီဃသော မဋ္ဌိပဥ္စကော။
အမုတေယျော ဒွိဟတ္ထောဝါ၊ တိရိယန္တေန ဝဋ္ဋတိ။
(ခုဒ္ဒသိက္ခာ)

သင်းပိုင်ဟာ အလျားအားဖြင့် အတိုဆုံး လက်ဆုပ်အတောင် (လက်သီးဆုပ်ထားတဲ့ အတောင်) နှင့် ငါးထောင် ရှိရသည်။

အနံအားဖြင့် လက်ဆုပ်အတောင်နဲ့ သုံးတောင့်ထွာ သို့မဟုတ် နှစ်တောင် ရှိရသည်။ သို့မှ သင်္ကန်းအရာမြောက်၍ ဝတ်ကောင်းသည်။

ကွင်း (ဂွင်း) ချုပ်လိုက်လျှင် အလျားအနံ ပျောက်ပြီး ဘယ်မှာ သင်္ကန်းအရာ မြောက်ပါတော့မလဲ၊ ဘယ်မှာ သင်္ကန်း ဟုတ်ပါတော့မလဲ၊ လူ့ပုဆိုးနဲ့ ဘာထူးတော့မှာလဲ၊ သင်္ကန်း မဟုတ်လျှင် ဝတ်ကောင်းပါမည်လား။

သည်လို လူ့အသုံးအဆောင်နဲ့ တူတဲ့ အဝတ်မျိုး၊ ဖိနပ်မျိုး စသည်ကို အသုံးပြုလျှင် လူတွေက သာကီဝင် မင်းသား ဘုရားသားတော် ဖြစ်တဲ့ ရဟန်းတွေဟာ ကာမဂုဏ် ခံစားတဲ့ လူတွေနဲ့ ဘာထူးသေးသလဲ။ မတော်မတည့် ဝတ် ဆင်ကြတယ်၊ အသုံးပြုကြတယ်လို့ ကဲ့ရဲ့လေ့ရှိကြပါတယ်။

သည်လို ကဲ့ရဲ့တာကို ရှင်တော်ဘုရား ကြားသိတော်မူ လျှင် ခေါ်ယူစစ်ဆေး မေးမြန်းပြီး ကဲ့ရဲ့တဲ့အတိုင်းမှန်လျှင်

ရှင်တော်ဘုရားက ထပ်မံ ကဲ့ရဲ့ရှုတ်ချပြီး သိက္ခာပုဒ်တော် ပညတ်တားမြစ်တော် မူလိုက်ပါတယ်။ ရှင်တော်ဘုရား လက်ထက်က ဒီလို ကွင်း (ငွင်း) သင်းပိုင်လုပ်ဝတ်ရင် လူတွေက ကဲ့ရဲ့ကြပြီး ရှင်တော် ဘုရားကလည်း တားမြစ်တော်မူမှာ သေချာပါတယ်။

နောက်တစ်ချက်က ရဟန်းတော်များ သင်္ကန်းအသစ် ရလျှင် သင်္ကန်းရဲ့ ထောင့်တစ်ခုခုမှာ ကပ္ပဗိန္ဒု ထိုးရပါတယ်။ (အညိုရောင်၊ ရွှံ့ညွန်ရောင်၊ အနက်ရောင်) ဒီသုံးမျိုးထဲက အရောင်တစ်မျိုးမျိုးရှိတဲ့ အစက်အပြောက် ဝိုင်းဝိုင်းကလေး တစ်ခု ရေးထိုးလိုက်ရပါတယ်။) အဲသည်လို ကပ္ပဗိန္ဒု ထိုးပြီးမှ ဝတ်ရပါတယ်။ မထိုးဘဲဝတ်ရင် အာပတ်သင့်ပါတယ်။

သင်္ကန်းကို အဓိဋ္ဌာန်တင်လျှင် အဲသည် ကပ္ပဗိန္ဒုထိုးမှ အဓိဋ္ဌာန်တင်လို့ ရပါတယ်။ အဲသည် ကပ္ပဗိန္ဒုကို သင်္ကန်းရဲ့ ထောင့် မှာ ထိုးရတယ်ဆိုတော့ ကွင်း (ငွင်း) မှာ ထောင့်မှမရှိဘဲ ဘယ်လို ကပ္ပဗိန္ဒု ထိုးမလဲ၊ ကပ္ပဗိန္ဒု မထိုးလျှင်လည်း မဝတ်ကောင်းဘူးဆိုတော့ သည်ကွင်း (ငွင်း) သင်းပိုင်ကို မဝတ်ကောင်းဘူးလို့သာ မှတ်သားရန် ဖြစ်ပါတယ်။

စကားစပ်တာနဲ့ တစ်ဆက်တည်း ပြောလိုတာက အံ့သကိုင္ဃအကြောင်း။

အံ့သကိုင္ဃဟာ ရှင်ရဟန်းများအဖို့ အလွန် အသုံးဝင် အရေးပါတဲ့ အဝတ်အထည် ဖြစ်ပါတယ်။ ဆောင်းတွင်းအေး





ချိန်မှာဆိုလျှင် စောင်တစ်ထည်လောက် အားကိုးရပါတယ်။ နွေအခါ အတွက်ဆိုလည်း ချွေးခံအတွက် အသုံးပြုရပါတယ်။

ဒါပေမယ့် ယနေ့ ပုဂ္ဂိုလ်အတော်များများဟာ အင်္ကျီတစ်ခြမ်းပုံကို အံ့သကိုင္ဃဆိုပြီး ဝတ်ဆင်အသုံးပြုနေကြပါတယ်။ အရောင်မျိုးစုံ အကွက်ဆန်းမျိုးစုံ ဇစ်တပ်အိတ်တွေကလည်း အများအပြား ပန်းဖွားတွေ ဝေဝေဆာဆာနဲ့ လူဝတ်ကြောင် အင်္ကျီထက်တောင် လှပအောင် တန်ဆာဆင် ချုပ်လုပ်ထားကြပါသေးတယ်။

အဲသည်လို ချုပ်လုပ်ထားတဲ့ အင်္ကျီတစ်ခြမ်းပုံကို ဝတ်ပြီး လမ်းထွက်တဲ့အခါ အချို့ စောင့်စည်းမှုမရှိတဲ့ ပုဂ္ဂိုလ်များ ဟာ ကေသီကို လုံးထွေး ပခုံးပေါ်တင်ပြီး အင်္ကျီအလှကို လူမြင်အောင် ဖော်ပြခါ မြို့ထဲ, ရွာထဲမှာတောင် သမဏကုက္ကုစ္စ ကင်းမဲ့စွာနှင့် ပရိမဏ္ဍလ, သုပ္ပဋိစ္ဆန္န သိက္ခာပုဒ်တော်များကို ချိုးဖောက် ဖျက်ဆီးကာ လျှောက်သွားနေကြတာဟာ သာသနာတော်ကို ကြည်ညိုပြီးသား ပုဂ္ဂိုလ်များ အကြည်ညို ပျက်စရာ၊ မကြည်ညိုသေးသူများ တိုးပြီး မကြည်ညိုစရာ၊ သာသနာတော်ကို အထင်အမြင် သေးစရာ ဖြစ်တဲ့အတွက် သည်အင်္ကျီ တစ်ခြမ်းပုံကို အံ့သကိုင္ဃအဖြစ် အသုံးမပြုသင့်ဘူးလို့ ထင်ပါတယ်။

သင်္ကန်း ပရိက္ခရာ ရောင်းချတဲ့ ပုဂ္ဂိုလ်များကလည်း သာသနာတော် သန့်ရှင်းတည်တံ့ပြန့်ပွားရေးကို အားပေး

အလေးထားတဲ့ အနေနဲ့ သည်လို မအပ်မရာ ပစ္စည်းမျိုးကို ချုပ်လုပ်ရောင်းချခြင်းမှ ရှောင်ကြဉ်သင့်ကြောင်း ပြောကြားလိုပါတယ်။

**အဖြေ(၂)**

၁။ တဝေါ အာမန္တယာမိ ဝေါ၊ ဝယဓမ္မာ သင်္ခါရာ။
သာဝကေ သာသနေ ရတေ။
ဂဏှထ နေတွာစျာပေထ၊ တန့်
သဗြဟ္မစာရိနော။

၂။ ထူပံ ကရောထ ပူဇေထ၊ နိဗ္ဗုတော
သော မဟာမတိ။
ခိပ္ပာဘိညာန မေသဂ္ဂေါ၊ သာဝ
ကော မေ ဝစောကရော။

ထိုအခါ ရှင်တော်ဘုရားက သာသနာတော်၌ မွေ့လျော်တော်မူကုန်သော တပည့် ရဟန်းတော်တို့ကို ချစ်သားတို့၊ သင်တို့၏ သီတင်းသုံးဖော်ဖြစ်တဲ့ ငါ့သားတော် "ဗာဟိယ ဒါရုစီရိယ" ရဲ့ ရုပ်အလောင်းကို ယူဆောင်ပြီး မီးသင်္ဂြိုဟ်လိုက်ကြ၊ ကြွင်းကျန်တဲ့ အရိုးဓာတ်ပြာများကို ထူပါ (စေတီ) တည်ထား ကိုးကွယ်ပူဇော်ကြ။

ငါဘုရား၏ အဆုံးအမ စကားကို နားထောင်တတ်တဲ့၊ ဆုံးမတိုင်းသော လိုက်နာကျင့်သုံးတတ်တဲ့ ကြီးမြတ်သော





ပညာရှင်ဖြစ်တဲ့ ငါ့သားတော် "ဗာဟိယဒါရုစီရိယ" သည် ပရိနိဗ္ဗာန် ဝင်စံရုပ်သိမ်း ချုပ်ငြိမ်းသွားလေပြီ။

ငါ့သားတော် "ဗာဟိယဒါရုစီရိယ" ဟာ ငါဘုရား သွန်သင်ညွှန်ကြား သစ္စာလေးပါး မြတ်တရားကို လျင်လျင်မြန်မြန် သိစွမ်းနိုင်တဲ့ ပုဂ္ဂိုလ်တွေထဲမှာ အမြန်ဆုံး သိနိုင်စွမ်းတဲ့ အကြီးမြတ်ဆုံး ဧတဒဂ်ဘွဲ့ထူးခံ ပုဂ္ဂိုလ်ထူး ဖြစ်ပါပေတယ်လို့ မိန့်ကြားတော် မူလေပြီ။

ဗာဟိယဒါရုစီရိယ ဆိုတာ အဝတ်မရှိတာနဲ့ သစ်သားစ ကလေးတွေကို ကြိုးနဲ့သီပြီး အရှက်အကြောက် လုံခြုံစေရန် ခါးပတ်လည်မှာ တန်းစီလှည့်ပတ် ခုထားတဲ့ ပရိဗိုဇ်တစ်ဦး ဖြစ်ပါတယ်။

သူဟာ ရှင်တော်ဘုရား သာဝတ္ထိမြို့တွင်း ဆွမ်းခံကြွတော်မူစဉ် ရှင်တော်ဘုရား နောက်တော်က တကောက်ကောက် လိုက်ပြီး သူ့အား တရားဟောဖို့ အကြိမ်ကြိမ် တောင်းပန်လျှောက်ထားတာနဲ့ ရှင်တော်ဘုရားက "ဒိဋ္ဌေဒိဋ္ဌမတ္တံ–မြင်ရင်မြင်တယ်မှတ်" စသည် အနည်းငယ်မျှ ဟောကြားတော်မူလိုက်တဲ့ တရားကို နာရရုံနဲ့ ရဟန္တာဖြစ်သွားပါတယ်။

သူက ရဟန်းပြုပေးဖို့ တောင်းပန်တဲ့အခါ ရှင်တော်ဘုရားက သင်္ကန်းရှာခဲ့ဖို့ မိန့်တော်မူတာနဲ့ သူဟာ သင်္ကန်း အရှာထွက်တဲ့အခါ အမှိုက်ပုံမှာ အဝတ်အစားတွေ ကောက်နေတုန်း မြေဖုတ်ဘီလူး ပူးနေတဲ့ နွားမက ဝှေ့လိုက်တာ

တစ်ခါတည်း ပရိနိဗ္ဗာန် ပြုသွားပါတယ်။ ရဟန်း မပြုလိုက်ရပါဘူး။

ရှင်တော်ဘုရား ဆွမ်းခံအပြန်မှာ ဗာဟိယဒါရုစီရိယ အလောင်းကို အမှိုက်ပုံထဲမှာ တွေ့တာနဲ့ အထက်ဖော်ပြပါ အတိုင်း အလောင်းကို မီးသင်္ဂြိုဟ်ပြီး စေတီတည်ထား ပူဇော်ခိုင်းတာ ဖြစ်ပါတယ်။

သည်ဖော်ပြပါ (ဗာဟိယဒါရုစီယထေရာပဒါန်) ကို ထောက်ထား၍လည်းကောင်း–

သီဟိုဠ်ကျွန်း မဟာစေတီကြီးမှာ ချိုးယွင်းပျောက် ပျက်နေသော အရာများကို ရဟန်းတော်များ အင်္ဂတေနဲ့ ဖာထေးလိမ်းကျံ ပြုပြင်နေကြစဉ် ရဟန်းတော်တစ်ပါးဟာ ခြေချော် လက်ချော်ဖြစ်ပြီး စေတီတော် အဝန်းမှ လိမ့်ကျပါ တယ်။

သည်အခါ ရဟန်းတော်က "ဓဇဂ္ဂပရိတ္တံ မံ ရက္ခတု– ဓဇဂ္ဂသုတ် ပရိတ်တရားတော်သည် ငါ့အား စောင့်ရှောက်ပါစေ သတည်း" ဟု ရွတ်ဆို အဓိဋ္ဌာန်လိုက်တာနဲ့ စေတီဝန်း အဆင့်တစ်ခု ထွက်လာပြီး ရဟန်းတော်အား ခံယူထားလိုက် သည်။ (သဂါထာဝဂ္ဂ သံယုတ်အဋ္ဌကထာ) ဟူသော အချက်ကို ထောက်ထား၍ လည်းကောင်း၊ ရှင်ရဟန်းများ စေတီတည် ခြင်း၊ ပြုပြင်မွမ်းမံခြင်းကို ဓမ္မဝိနယနှင့် မဆန့်ကျင်သော အားဖြင့် ပြုလုပ်ကောင်းသည်ဟု ဆိုနိုင်ပါသည်။



## မေးခွန်း(၄၀)

**အမေး** ဆရာခင်ဗျား...

မင်္ဂလာရှစ်ပါးနှင့် ပတ်သက်၍ ပြောကြားပါရန် ရိုသေစွာ စာရေးသား၍ မေးလိုက်ရပါသည်။ အလောင်းတော် မဟာရက္ခိတ ရသေ့ဘဝမှာ ရှိနေစဉ် လူ့ လောက၌ "မင်္ဂလာ" ဟူသည်နှင့် စပ်လျဉ်း၍ အငြင်းအခုံ ပြဿနာများ ဖြစ်ကြရသည်ဟု ကြားဖူးပါသည်။ ၎င်း "မင်္ဂလာ" ပြဿနာကို အလောင်းတော် မဟာရက္ခိတ ရသေ့က ဩွန်ပြဟောကြားမှ ရှင်းလင်းခဲ့ရသည်ဟုလည်း သိရပါသည်။ ၎င်း မင်္ဂလာတရားတော်သည် မည်သည့်

ဓာတ်တော်မှာ ပါရှိပါသနည်း။ ၎င်း မင်္ဂလာတရားတော်ကို မူရင်း ပါဠိတော်နှင့်တကွ မြန်မာပြန်ကို ပူးတွဲသိလို၍ သက်ဆိုင်ရာ ပါဒများအလိုက် ဖြေကြားပေးပါ ခင်ဗျား။

မောင်သက်နိုင်ဦး

စစ်ကိုင်းတိုင်း၊ ချောင်းဦးမြို့နယ်၊ ငါးလုံးတင်ရွာ။

**အဖြေ** **အလောင်းတော် ရက္ခိတရသေ့၏ မင်္ဂလာတရား**

ဗာရာဏသီပြည် ဗြဟ္မဒတ်မင်း မင်းပြုစဉ် လူတို့၌ မင်္ဂလာ ပြဿနာ ဖြစ်ပေါ်လာပါသည်။ ဘယ်သူမျှ မဖြေရှင်းနိုင်တဲ့ အတွက် ဥယျာဉ်တော်ထဲက ရသေ့တွေကို မေးကြပါသည်။ ရသေ့တွေကလည်း သည်မင်္ဂလာပြဿနာကို မိမိတို့ မဖြေရှင်းနိုင်။ မိမိတို့ ဆရာ ဟိမဝန္တာက ရက္ခိတရသေ့က တော့ ပညာကြီးမားတဲ့ ရသေ့ဖြစ်တဲ့အတွက် ဖြေကြားနိုင်လိမ့်မည်လို့ ပြောတာနဲ့ ဘုရင်က ဟိမဝန္တာကို တပည့်တော်တို့ မသွားနိုင်ပါ၊ အရှင်ဘုရားတို့ပဲ ဆရာကြီးကို သွားမေးပြီး တပည့်တော်တို့ကို ပြန်ပြောပါလို့ တိုက်တွန်းလျှောက်ထားပါတယ်။ သည်အခါ ရသေ့တွေက ဟိမဝန္တာသွားပြီး ဆရာရက္ခိတရသေ့ကို မေးခါ ပြန်လာပြီး ဗြဟ္မဒတ်မင်းကြီးကို ဆရာ့စကားအရ ပြန်ပြောပြကြပုံမှာ ...

အလောင်းတော် ရက္ခိတကို တပည့်ကြီးက မေးပုံ။





အရှင်ဆရာ မင်္ဂလာကို အလိုရှိသော ပုဂ္ဂိုလ်သည် ဘာကို ရွတ်ဆိုလျက် ဝေဒသုံးပုံတို့တွင် အဘယ်ဝေဒကို သင်ယူလျက် အဘယ်သုတကို သင်ကြားလျက် ဤလောက၌ လည်းကောင်း၊ တမလွန်လောက၌ လည်းကောင်း၊ ဘယ်သို့ ပြုသည်ရှိသော် အပြစ်ကင်းကွာ ဘယ်သို့သော မင်္ဂလာဖြင့် စောင့်ရှောက် အပ်သူပဲ ဖြစ်ပါသနည်း။

၁။ အကြင်ပုဂ္ဂိုလ်သည် ဘုမ္မစိုး အစ ကာမာဝစရ နတ်တို့ကို လည်းကောင်း၊ ထိုမှအထက် ရူပါဝစရ ဗြဟ္မာတို့ကို လည်းကောင်း၊ ကိုယ်ဖြင့် တွားသွားတတ်သော မြွေ၊ ကင်း၊ သန်း စသည်တို့ကို လည်းကောင်း၊ ကြွင်းသော သတ္တဝါ မှန်သမျှတို့ကို မေတ္တာဘာဝနာဖြင့် အမြဲမပြတ် ပွားများအလေး ပြုအပ်၏။ ထိုမေတ္တာပွားမှုကို ထိုပုဂ္ဂိုလ်၏ သတ္တဝါတို့၌ အမြဲဖြစ်ပွား မင်္ဂလာတရားဟု ဆိုကြကုန်၏။

၂။ အကြင်ပုဂ္ဂိုလ်သည် အလုံးစုံသော သတ္တဝါ အပေါင်းအား စိတ်နူးညံ့ဘိ နိမ့်ချသော ဖြစ်ခြင်းရှိ၏။ သူ တစ်ပါးတို့၏ မကောင်းဆိုအပ်သော စကားတို့ကို သူ ငါ ကို ဆဲရေးပြီစသည် ဘက်ပြန်မှု မပြုတတ်။ ထိုသည်းခံခြင်း ကို ထိုပုဂ္ဂိုလ်၏ အပြစ်ကင်းသော မင်္ဂလာဟု ဆိုကြကုန်၏။

၃။ အကြင်ပုဂ္ဂိုလ်သည် ငယ်ပေါင်း ကြီးဖော် မိတ်ဆွေအများ၌ အတတ်ပညာအားဖြင့် လည်းကောင်း၊ အမျိုးအားဖြင့် လည်းကောင်း၊ ဥစ္စာအားဖြင့် လည်းကောင်း၊

ဓာတ်အားဖြင့် လည်းကောင်း၊ မထိမဲ့မြင် မပြုတတ်။ ကောင်းသော ပညာရှိ၏။ အကြောင်းကိစ္စ ဖြစ်ပေါ်လာသောအခါ ဆင်ခြင်စဉ်းစားတတ်သော ပညာရှိသည် ဖြစ်၍ ထိုမိတ်ဆွေတို့ကို မထိမဲ့မြင် မပြုတတ်။ ထိုသို့ မထိမဲ့မြင် မပြုခြင်းကို မိတ်ဆွေတို့၌ အပြစ်ကင်းသော မင်္ဂလာဟု ဆိုကြကုန်၏။

၄။ မိတ်ဆွေကျင့်ဝတ် မချွတ်ယွင်းသော အကြင်ပုဂ္ဂိုလ်အား စင်စစ် သူတော်ကောင်း ဖြစ်ကြသော မိတ်ဆွေတို့ ရှိကြကုန်၏။ အိမ်ထဲဝင်လိုရာ တက်ယူနိုင်လောက်အောင် ရင်းနှီးကျွမ်းဝင် ကြကုန်၏။ ထိုမိတ်ဆွေတို့ကို မပြစ်မှားတတ်။ ထိုမိတ်ဆွေတို့ကို မိမိဥစ္စာဖြင့် ဝေဖန်ခွဲခြမ်းပေးကမ်းမှု ပြုတတ်၏။ ထိုသို့ မိတ်ဆွေတို့ကို မပြစ်မှား။ ခွဲခြမ်းဝေဖန်မှု ပြုခြင်းကို စင်စစ် ဇကန်ပင် မိတ်ဆွေတို့၌ အပြစ်ကင်းသော မင်္ဂလာဟု ဆိုကြကုန်၏။

၅။ အကြင်ပုဂ္ဂိုလ်၏ ဇနီးသည် သက်တူရွယ်မျှ ညီညွတ်သော ဇနီးဖြစ်၏။ လင့်အလိုလိုက်တတ်၏။ သုစရိုက်တရား လိုလားကျင့်ကြံတတ်၏။ အမြုံမဟုတ် သားသည်အမေ ဖြစ်၏။ အမျိုးကျင့်ဝတ်စောင့်တတ်၏။ သီလရှိ၏။ လင်ကို လုပ်ကျွေးတတ်၏။ ထိုဇနီးမျိုး ရှိနေခြင်းကို ဇနီးမယားတို့၌ အပြစ်ကင်းကွာ မင်္ဂလာဟူ၍ စင်စစ်ဆိုကြကုန်၏။

၆။ အကြင်ပုဂ္ဂိုလ်သည် လူတို့၏ အရှင်ဖြစ်သော များသော အခြွေအရံရှိသော မင်းသည် သူတို့၏ စင်ကြယ်





သည်၏ အဖြစ်ကိုလည်းကောင်း၊ လုံ့လဝီရိယကိုလည်းကောင်း သိ၏။ ငါနှင့် နှစ်ဦးကွဲပြားသူ ဖြစ်လိမ့်မည် မဟုတ်ဟု လည်းကောင်း၊ ဤသူကား ငါ၏ ချစ်ကျွမ်းဝင်သူ လူအရင်းဟု လည်းကောင်း သိ၏။ ထိုသို့ဖြစ်ခြင်းကိုပင် မင်းတို့၌ စင်စစ် အပြစ်ကင်းကွာ မင်္ဂလာဟူ၍ ဆိုကြကုန်၏။

၇။ သဒ္ဓါတရား ရှိသူသည် ကြည်ညိုသောစိတ် ရှိသည်ဖြစ်၍ ဝမ်းမြောက် ဝမ်းသာသောစိတ် ရှိသည်ဖြစ်၍ ထမင်းကို လည်းကောင်း၊ အဖျော်ကိုလည်းကောင်း၊ ပန်းနံ့သာပျောင်းကိုလည်းကောင်း ပေးလှူသည်ဖြစ်အံ့။ ထိုသို့ လှူခြင်းကို စင်စစ် နတ်ပြည်တို့၌ အပြစ်ကင်းကွာ ကောင်းသော မင်္ဂလာဟု ဆိုကြကုန်၏။

၈။ အကြင်ပုဂ္ဂိုလ်ကို ဉာဏ်ပညာဖြင့် ကြီးမားကုန်သော အရိယာ ရဟန္တာအရှင်မြတ်တို့သည် အရိယာ တရားဖြင့် သုတ်သင်ပေးကြကုန်၏။ ထိုပုဂ္ဂိုလ်တို့သည်လည်း ကောင်းမြတ်သော သူတော်စင် အကျင့်နှင့် ပြည့်စုံစေကြ ကုန်၏။ ပဋိဝေဓ ဗဟုသုတ ရှိကြကုန်၏။ ထိုအရာကို ရဟန္တာတို့ အလယ်၌ ရအပ်သော မင်္ဂလာဟူ၍ ပညာရှိတို့ ဆိုကြကုန်၏။

ဆိုခဲ့ပြီး ကောင်းမှုအကျင့်တို့သည် ပညာရှိတို့ ချီးမွမ်းအပ် ချမ်းသာကို တိုးပွားစေတတ်သော မင်္ဂလာတို့ ဖြစ်ကြကုန်၏။ ဤလောက၌ ပညာရှိ ပုဂ္ဂိုလ်တို့သည် ထိုမင်္ဂလာတို့ကို ကျင့်ကြံမှီဝဲကြကုန်၏။

ဒီဌမင်္ဂလာစသော လောကမင်္ဂလာ အများတွင် တစ်ခု တလေမျှ မှန်ကန်လှသည် မရှိပါပေ။ တစ်ခုတည်းသော ပရမတ္ထသစ္စာ နိဗ္ဗာန်သည်သာ အမြတ်ဆုံး အမှန်ဆုံး သစ္စာ ဖြစ်ပါပေသတည်း။

အထက်ပါ မင်္ဂလာတရား ရှစ်ပါးမှာ ဇာတ်အဋ္ဌကထာ စတုတ္ထတွဲ၊ ဒသကနိပါတ–မဟာမင်္ဂလာဇာတ် အဋ္ဌကထာမှာ ပါရှိပါတယ်။

၎င်း အဋ္ဌကထာကို ရှာဖွေကြည့်ရှုပါ။



## မေးခွန်း (၄၁)

**အမေး**

ဆရာ ဟံသာသီရိ ခင်ဗျား ...
ဝေဒါသာက ကုသာဒါဝေ၊
ဒါယသာဒ ဒသာယဒါ။
သာသာဓိက ကုဓိသာသာ၊
ကုဒကုဘ ဘုကုဒက။

ဂါထာရဲ့ အနက်ကို သိလိုပါတယ် ခင်ဗျား။

မောင်ရဲထွန်းနိုင်
ဒသမတန်း၊ တပ်တွင်း (အထက)၊ စလင်းမြို့နယ်။

**အဖြေ**

...... ဝေဒါသာက ဂါထာရဲ့အနက်မှာ အောက်ပါအတိုင်း ဖြစ်ပါတယ်။

ဝေ–ရန်သူတို့သည်။ ဒါ–ဝေးသော အရပ်သို့။ သာ– လျင်မြန်စွာ။ က–ပြေးစေကုန်သတည်း။

ကု–မကောင်းသော သူတို့သည်။ သာ–မိမိအလိုလို။ ဒါ–အကြံအစည် ပျက်သောအားဖြင့်။ ဝေ–ပျောက်စေကုန်သတည်း။

ဒါ–ဒါန စေတနာကြောင့်။ ယသာ–အခြံအရံ အကျော်အစောတို့သည်။ ဒ–ပွားများစေသတည်း။

ဒသာ–ဆယ်ပါးကုန်သော ရန်သူတို့သည်။ ယ–ကုသိုလ်ဆယ်ပါး တန်ခိုးအားကြောင့်။ ဒါ–ပျောက်စေကုန်သတည်း။

သာသာ–မက်မောခြင်းရှိသော သူတို့နှင့်။ မိ–ရှည်မြင့်စွာ။ ကု–မပေါင်းဖော်ရပါစေသတည်း။

ကုမိ–အမျက်ဒေါသကြီးသူတို့ကို။ သာသာ–ဆုံးမဩဝါဒ ပေးသဖြင့် အောင်ပါစေသတည်း။

ကု–သူတော်ကောင်းတို့နှင့်။ ဒ–မပြတ်။ ကု–ဖြစ်လေရာရာ သံသရာ ဘဝ၌။ ဘု–ပေါင်းဖော်ရပါစေ သတည်း။

ဘု–မကောင်းသော သူတို့နှင့်။ ကု–ဖြစ်လေရာ အရပ်တွင်။ ဒ–အခါခပ်သိမ်း။ ကု–မတွေ့ရပါစေ သတည်း။

ဝေဒါသာကု ဂါထာအနက်များ အခြားစာအုပ်ငယ်ကလေးများမှာလည်း တွေ့ရတတ်ပါတယ်။ ဒါပေမယ့် အခုပေးထားတဲ့ အနက်ဟာ အချိတ်အဆက်မိမိ အဓိပ္ပာယ်ရှိရှိ အနှစ်သာရ ပြည့်ပြည့်ဝဝ ရှိတဲ့အနက် ဖြစ်တယ်လို့ သဘောကျတဲ့ အတွက် ဖော်ပြလိုက်တာ ဖြစ်ပါတယ်။



## မေးခွန်း(၄၂)

**အမေး** ပါရာဇိကကျပြီး အသွင် မပြောင်းသေးသူ ရဟန်းအသွင်နှင့်ပင် ဒါနပြု၍ ကုသိုလ်ရခြင်း ဘာဝနာပွားး၍ ကုသိုလ်ရခြင်းများ ရှိနိုင် သလို သီလစောင့်၍ ကုသိုလ်လိုချင်လျှင် လူတို့၏ ငါးပါး၊ ရှစ်ပါး၊ ကိုးပါး၊ ဆယ်ပါး သီလများကို ဘုရားထံတွင် ဆောက်တည်၍ ကုသိုလ်ရနိုင်ပါသလား။

မောင်အေးချို
စိန်ကန်လန့်ကျေးရွာ၊ မင်းလှမြို့နယ်။
မဲခူးတိုင်း။

**အဖြေ**

ကုသိုလ်ရနိုင်ပါတယ်။ သည်အဖြေအတွက် နည်းနည်း ချဲ့ပြောရလျှင် ငါးပါးသီလဟာ လူသားမှန်သမျှ ကေန် ကျင့်သုံးရမည့် လူ့ကျင့်ဝတ် နိစ္စသီလ ဖြစ်ပါတယ်။ မကျင့်သုံးလျှင် လောကဖြစ်၊ သံသရာပြစ် နှစ်မျိုးစလုံး သင့်ရောက်မှာ ဖြစ်ပါတယ်။

ဘုရား စသည်၏ ရှေ့တော်မှောက်မှာ ဖြစ်စေ၊ မိမိကိုယ်တိုင် ဖြစ်စေ ဆောက်တည်နိုင်ပါတယ်။

မွေးရာပါ သဘာဝ သိဒ္ဓသီလဖြစ်တဲ့အတွက် ဆောက်တည်သည် ဖြစ်စေ၊ မဆောက်တည်သည်ဖြစ်စေ ကျူးလွန်လျှင် အပြစ်ရှိပြီး ရှောင်ကြဉ်လျှင် အပြစ်ကင်း ကုသိုလ်ရမှာ ဖြစ်ပါတယ်။

ရှစ်ပါး၊ ကိုးပါး၊ ဆယ်ပါး သီလ များကတော့ အမွန်းတင် သီလများ ဖြစ်တဲ့အတွက် စောင့်ထိန်းနိုင်လျှင် ကုသိုလ် ရပြီး မစောင့်ထိန်းနိုင်လျှင် ထူးထူးထွေထွေ အပြစ်ရှိတယ်လို့ မဆိုနိုင်ပါဘူး။

သည်သီလတွေမှာ ငါးပါး သီလထက် ပိုလာတဲ့ သိက္ခာပုဒ်တွေဟာ မျက်စိ၊ နား၊ နှာ၊ လျှာ၊ ကိုယ်၊ နှုတ်၊ စိတ်တို့မှာ ဖြစ်နိုင်တဲ့ တဏှာ လောဘ (အဒေါသ မေတ္တာ၏ ဆန့်ကျင်ဘက်) ဒေါသဆိုတဲ့ အကုသိုလ်တွေ မဖြစ်ရအောင် ထိန်းသိမ်းစောင့်စည်းမှုတွေပဲ ဖြစ်ပါတယ်။





ဒါကို ဘယ်သူတော့ စောင့်ထိန်းနိုင်တယ်၊ ဘယ်သူတော့ မစောင့်ထိန်းနိုင်ဘူးလို့ ဆိုသင့်မယ် မထင်ပါဘူး။

သုတ္တန် ဒေသနာတော်တွေထဲမှာ သခ်ပါလ နဂါးမင်း၊ ဘူရိဒတ် နဂါးမင်း၊ ယုန်မင်း စသည် အပါယ်ဘုံသား တိရစ္ဆာန်များ ဥပုသ်သီလ စောင့်သုံးကြကြောင်း တွေ့ရပါလိမ့်မယ်။

သည်လို အပါယ်ဘုံသားတွေတောင်မှ ဆောက်တည်လို့ ရတယ်ဆိုလျှင် သုဂတိဘုံသားဖြစ်တဲ့ ပါရာဇိကကျ အသွင် မပြောင်းသူလည်း ဆောက်တည်လို့ရတယ် ဆိုရမှာပါပဲ။ ဆောက်တည်ကျင့်သုံးတယ်ဆိုလျှင် ကုသိုလ် ဖြစ်နေတယ် ဆိုရမှာ ဖြစ်ကြောင်း ပြောကြားလိုပါတယ်။

သည်မေးခွန်းဟာ အယဥ်ယသ္မာ ပါရာဇိကံ အာပန္နော၊ တသ္မ ဘိက္ခုဘာဝေ ဌတွာ အဘဗ္ဗော ဈာနာဒီနိ အဓိဂန္တုံ၊ ဘိက္ခုဘာဝေါဟိဿ သဂ္ဂန္တရာ ယောစေဝ ဟောတိ မဂ္ဂန္တရာယောစ။

ပါရာဇိကဏ် အဋ္ဌကထာ (၃-၈၃) စတုတ္ထပါရာဇိက သိက္ခာပုဒ် အဖွင့်။

ပါရာဇိကကျပြီး အသွင်မပြောင်းဘဲ အာပတ်တန်းလန်း ရဟန်းအသွင်နဲ့ နေသူဟာ ဈာန်မဂ်ဖိုလ် မရနိုင်၊ ရဟန်းအဖြစ်၊ ရဟန်းအသွင်ဟာ ပါရာဇိက ကျနေသူအဖို့

သုဂတိဘုံဘဝ ရောက်ရေး၊ ချမ်း မင်္ဂဖိုလ်ရရေးအတွက် အနှောင့် အယှက် အန္တရာယ်ကြီးပင် ဖြစ်သည်။

အထက်ပါ ပါရာဇိကကဏ် အဋ္ဌကထာရဲ့ အဓိပ္ပာယ်။

ဖော်ပြပါ အဋ္ဌကထာ အဆိုအရ ရဟန်းအဖြစ် ရဟန်းအသွင် မစွန့်သမျှ အပါယ်ငရဲကျဖို့သာ ရှိတဲ့ ထိုဒုဿီလ အတွက် ငါးပါး၊ ရှစ်ပါး၊ ကိုးပါး၊ ဆယ်ပါး သီလတို့က အပါယ်မကျအောင် အကာအကွယ် မပေးနိုင်တာကို ထောက်ဆ ပြီးတော့ ထိုသီလများ မဆောက်တည်ကောင်း၊ ဆောက်တည် သော်လည်း ကုသိုလ်မရဘူးလို့ ယူဆပြောဆိုနေကြတာ ဖြစ် ကောင်း ဖြစ်စရာ ရှိမည် ထင်ပါသည်။

ပါရာဇိက ကျသူဟာ ဒီဘဝ နောက်ထပ် ရဟန်းပြုလို့ မရတော့တဲ့အတွက် အဓိသီလဆိုတဲ့ ရဟန်းသီလကို သူဆောက် တည်လို့ မရတော့တာကြောင့် သူ့ကို ဒုဿီလလို့ ဆိုတာ ဖြစ်ပါတယ်။

လူတို့ရဲ့ နိစ္စ သီလဆိုတဲ့ ငါးပါးသီလ စသည်ကို ဆောက်တည်လို့ မရတဲ့အတွက်ဆိုတာ မဟုတ်ပါဘူး။

ဒါကြောင့် ငါးပါးသီလ စသည် ဆောက်တည်၍ ကုသိုလ်ရနိုင်တယ်လို့ ဖြေဆိုခဲ့ပါတယ်။

သည် ဖြေဆိုချက်နဲ့ ပတ်သက်ပြီး အာပတ်တန်းလန်းနဲ့ သေသူဟာ မုချ အပါယ် ကျ,မကျ စိစစ်စဉ်းစားစရာ တစ်ကွက် ပေါ်လာတဲ့အတွက် စိစစ်ကြည့်လျှင် ...





(၁) ပုဂ္ဂလပညတ် ပါဠိတော်မှာ

ပုဂ္ဂိုလ်တို့တွင် အဘယ်ပုဂ္ဂိုလ်တို့သည် မြဲသောလားရာ ဂတိ ရှိကုန်သနည်းဟု မေးတော်မူ၍-

ပဉ္စာနန္တရိယကံ ငါးပါး ထိုက်သူနှင့် နိယတမိစ္ဆာဒိဋ္ဌိ ပုဂ္ဂိုလ်များဟူ၍ ဖြေတော်မူသည် တစ်ရပ်၊

(၂) ပရိဝါ ပါဠိတော်မှာ-အဘယ် အာပတ်တို့သည် မြဲကုန်သနည်းဟု အမေးထုတ်၍-

ပဉ္စာနန္တရိယ နိယတာ၊ သေသာ အနိယတာ၊

၁။ အမိသတ်ခြင်း၊

၂။ အဖသတ်ခြင်း၊

၃။ ရဟန္တာသတ်ခြင်း၊

၄။ ဘုရားရှင်၏ ကိုယ်တော်၌ သွေးစိမ်းတည် (သွေးခြည်ဥ) အောင် လုပ်ခြင်း၊

၅။ သံဃာသင်းခွဲခြင်း၊ သံဃာချင်း ကွဲပြားအောင် လုပ်ခြင်း၊ အပြစ် အာပတ်တို့သည် မြဲကုန်၏။ ကြွင်းအပြစ် အာပတ်တို့သည် မမြဲကုန်ဟု ဖြေထားသည် တစ်ရပ်။

(၃) ခုဒ္ဒဝိပါက-မြဲသော အကျိုးပေးရာကို စိစစ်တဲ့ နေရာမှာ-

၁။ ပဉ္စာနန္တရိယကံ၊

၂။ သမာပတ်ရှစ်ပါး၊

၃။ နတ္ထိကဒိဋ္ဌိ၊ အဟေတုကဒိဋ္ဌိ၊ အကြိယဒိဋ္ဌိဆိုတဲ့ နိယတ မိစ္ဆာဒိဋ္ဌိ ဤသုံးမျိုးတို့သည် အကျိုးပေး မြဲ၏လို့ ဟောတော်မူသည် တစ်ရပ်။

သည်ဖော်ပြပါ အချက်(၃) ရပ်နဲ့ တိုက်ဆိုင် ညှိနှိုင်း ကြည့်လျှင် အာပတ်တန်းလန်းနဲ့ သေသူဟာ မုချ အပါယ်ကျရမည့် ပုဂ္ဂိုလ်ထဲမှာပါတာ မတွေ့ရတဲ့အတွက် သူဟာ သေလျှင် မုချ အပါယ်ကျမှာပဲလို့ မပြောနိုင်ဘူးလို့ ဆိုရပါမယ်။

မိမိတို့ ငယ်စဉ် ဝိနည်း ပါဠိတော်ကြီးများကို သင်ရစဉ်က စာချ ဆရာတော်က စကားစပ်သဖြင့် ပြောပြသည်မှာ "သာပတ္တိကေန ဘိက္ခဝေ နိရယံဝါ တိရစ္ဆာန ယောနိံဝါ" ဆိုတဲ့ ပါဠိရပ်ကို ထောက်ထားပြီး အာပတ်နှင့်တကွ (ဝါ) အာပတ်တန်းလန်းနှင့် သေသူဟာ ငရဲသော်လည်း ကျမယ်၊ တိရစ္ဆာန်သော်လည်း ဖြစ်ရမယ်လို့ ပြောကြတယ်၊ အဲဒီ ပါဠိကို ငါတို့ ကျမ်းဂန်ထဲမှာ မတွေ့မိဘူး။

အာပတ်တန်းလန်းနဲ့ သေသူတိုင်း အပါယ်ကျရမည် ဆိုတာလည်း စဉ်းစားစရာ ဖြစ်တယ်။ ငါတို့ ငယ်စဉ်က ကြုံဖူးတာ တစ်ခုရှိတယ်။ ရွာတစ်ရွာက ကျောင်းထိုင် ဘုန်းကြီးဟာ ပျံလွန်တော်မူသွားတယ်။ ပျံလွန်တော်မူပြီး သုံးနှစ်လောက် အကြာမှာ အဲသည်ရွာက ကလေးတစ်ယောက်ဟာ...

သူဟာ ဒီကျောင်းက ကျောင်းထိုင်ဘုန်းကြီးဖြစ်တယ်။





အဲသည်တုန်းက ကလတက်တုံးထဲမှာ ငွေထည့်ပြီး ကျောင်းလှေကားရင်းမှာ မြှုပ်ထားတယ်၊ အဲဒါတွေ သွားဖော်ယူရမယ်လို့ ပြောပြောနေတာနဲ့ လူကြီးမိဘတွေက မပြောဖို့ တားမြစ်သော်လည်း မရဘဲ ထပ်ခါတလဲလဲ ပြောပြောနေတဲ့အတွက် သူ့ကို ခေါ်သွားပြီး ကျောင်းလှေကားရင်း သူပြတဲ့ နေရာမှာ တူးကြည့်တော့ သူပြောတဲ့အတိုင်း ငွေတွေ တွေ့ရတယ်လို့ သိရတယ်။

သည်လို တွေ့ရတာကိုထောက်လျှင် သူဟာ နိဿဂ္ဂိယ ပါစိတ် အာပတ်တန်းလန်းနဲ့ ပျံလွန်တော်မူသွားတဲ့ သည်ကျောင်းက ကျောင်းထိုင်ဘုန်းကြီးပဲဆိုတာ သေချာသလောက် ဖြစ်စရာ ရှိတယ်။

သည်တော့ အာပတ် တန်းလန်းနဲ့ သေလျှင် မုချ အပါယ်ကျတယ်ဆိုတဲ့ စကားဟာ ကေန်မှတ်လို့ရတဲ့ စကား မဟုတ်ဘူး လို့ ဆိုရမှာပဲလို့ စာချဆရာတော် မိန့်ကြားတာကို မိမိတို့ မှတ်သားခဲ့ရပါတယ်။

ပိဋကတ်တော်မှာ အလွန်ကျွမ်းကျင် နှံ့စပ်တော်မူတဲ့ ဆရာတော်ကြီး တစ်ပါးကို လျှောက်ထားကြည့်တော့လည်း သာရတ္ထဒီပနီဋီကာမှာ လာတယ်ဆိုတဲ့ သည် "သာပတ္တိကေန ဘိက္ခဝေ" အစရှိတဲ့ ပါဠိကို မတွေ့မိကြောင်း မိန့်ကြားပါတယ်။

အာပတ်တန်းလန်းနဲ့ သေပေမယ့် အပါယ် ကျချင်မှ

ကျတယ်ဆိုတာ လဟုက (အပေါ့စား) အာပတ်များအတွက် လောက်သာ ဖြစ်စရာ ရှိပါတယ်။

ပါရာဇိကလို ဂရုက(အကြီးစား) အာပတ်ကြီးများ သင့်ပြီး အသွင်မပြောင်းဘဲ အာပတ်တန်းလန်းနဲ့ သေလျှင်တော့ အပါယ်ကျမှာ သေချာသလောက် ဖြစ်စရာ ရှိတဲ့အတွက် အကြီးအသေး အလေးအပေါ့ မရွေး ဘယ်အာပတ်မှ မသင့်ရလေအောင် အတတ်နိုင်ဆုံး စောင့်စည်းနေထိုင်ခြင်းသာ ဘဝကူးရာမှာ စိတ်အေးရကြောင်း ဖြစ်တယ်ဆိုတာ အလေးအနက် သတိပြုရမှာ ဖြစ်ပါတယ်။

သည်မေးခွန်းနဲ့ ပတ်သက်ပြီး အသွင် မပြောင်းသူ ငါးပါးသီလ စသည် ဆောက်တည်လို့ ကုသိုလ် ရ, မရဆိုတဲ့ အယူအဆ ကျမ်းဂန်မှာ တိုက်ရိုက်ဆိုထားတာကို မတွေ့မိတဲ့အတွက် ယုတ္တိကို ကြံဆ, အာစရိယ ဝါဒ အတ္တနောမတိတို့ အရသာ ဖြေဆိုလိုက်ရပေသည်။



## မေးခွန်း (၄၃)

**အမေး(၁)** အနေကဇာတိ သံသာရံအစရှိသော ဂါထာတော် နှစ်ပုဒ်ကို လူဝတ်ကြောင်တို့ ရွတ်ဖတ်ပူဇော်၍ သင့်ပါသလား။

**အမေး(၂)** တခြားသော စကြဝဠာသည် (၃၁) ဘုံ၌ ပါဝင်ပါသလား။

**အမေး(၃)** အိမ်ထောင် ရှိသူ လူအိုနှင့် အိမ်ထောင်မရှိသူ လူပျို/လူအို အချင်းချင်း၊ လူပျိုအချင်းချင်း၊ လိင်တူဆက်ဆံကြသော် မည်သည့်ကံ ထိုက်ကြပါသနည်း။

မောင်မြကြိုင်၊ ပဲခူး၊ ကျောက်တန်း။

**အဖြေ(၁)** အနေကဇာတိ သံသာရံ အစချီသော ဂါထာနှစ်ပုဒ်ကို လူဝတ်ကြောင်တို့ ရွတ်ဖတ် ပူဇော်သင့်ပါတယ်၊ ပူဇော်ကောင်းပါတယ်။

**အဖြေ(၁)** ၃၁ ဘုံမှာ ပါဝင်ပါတယ်။

သည်မေးခွန်းကို ဒါလောက်ဖြေလျှင် တာဝန်ကျေလောက်ပါတယ်။ ဒါပေမယ့် ယနေ့ သူသူငါငါ ၃၁–ဘုံ ၃၁–ဘုံလို့ ပြောနေကြသော်လည်း သည်ဘုံပေ့ွဟာ ဘယ်လိုဟာတွေလဲ၊ ဒီဘုံတွေဟာ ဘယ်မှာရှိသလဲလို့ မေးလျှင် သေသေချာချာ ဖြေနိုင်သူအရေအတွက်ဟာ များလှမယ် မထင်ပါဘူး၊ သဂြိုဟ်ကို ရေရေလည်လည် သင်ကြားမှတ် သားဖူးသူတွေလောက်သာ ဖြေနိုင်မယ် ထင်ပါတယ်။

ဒါကြောင့် ၃၁–ဘုံနဲ့ ပတ်သက်ပြီး အနည်းငယ် ရှင်းပြရလျှင်...

၁။ အပါယ်လေးဘုံ = ငရဲဘုံ, တိရစ္ဆာန်ဘုံ, ပြိတ္တာဘုံ, အသူရကာယ်ဘုံ။

(က) ငရဲဘုံဟာ သည်ကမ္ဘာမြေပြင်အောက် ယူဇနာ (၁၅၀၀၀) တစ်ယူဇနာ (၈) မိုင်ထားတွက်လျှင် မိုင်ပေါင်း (၁၂၀၀၀၀) အရပ်မှာ တည်ရှိတယ်လို့ ဆိုပါတယ်။

ငရဲက (၈) ထပ် ရှိပါတယ်။ တစ်ထပ်နှင့် တစ်ထပ်





သည်အကွာအဝေးအတိုင်း အောက်ဘက်ကို ကွာဝေးသွားပြီး ကမ္ဘာမြေကြီးရဲ့ အောက်မှာ တည်ရှိနေတယ်လို့ ဆိုပါတယ်။

(ခ) တိရစ္ဆာန်ဘုံ=တိရစ္ဆာန်ဘုံ ဆိုတာကတော့ အထူးညွှန်ပြနေစရာ မလိုပါဘူး။ ဆင်၊ မြင်း၊ ကျွဲ၊ နွား စသည်ဖြင့် လူတိုင်း အသိပါပဲ။

သူတို့ကတော့ ဘုံသီးခြား မရှိ။ တိရစ္ဆာန် အမျိုးမျိုး အလိုက် စုပေါင်းနေထိုင်ရာ အရပ်ကို တိရစ္ဆာန်ဘုံလို့ ခေါ်ပါတယ်။ အချုပ်ကတော့ သူတို့နေရာ အရပ်ဟာ သူတို့ဘုံပါပဲ။

(ဂ) ပြိတ္တာဘုံ=အစိမ်းသရဲ၊ ဘီလူး၊ သဘက်၊ တစ္ဆေ (ဇွဲ)၊ မြေဖုတ်၊ မှင်စာ အစရှိတဲ့ မကောင်းဆိုးဝါး သတ္တဝါ အစားစားတွေကို ပြိတ္တာလို့ ခေါ်ပါတယ်။

သူတို့လည်း နေရာဘုံ သီးခြား မရှိ။ တောကြီး တောင်ကြီး ချိုင့်ဝှမ်းကမ်းနား ချောင်းမြောင်း အင်းအိုင် အိမ်ကြိုအိမ်ကြား စသည် သူတို့ခိုကပ်နေထိုင်ရာ နေရာဟာ သူတို့ဘုံပဲ။

(ဃ) အသူရကာယ်ဘုံ= အသူရာဆိုတာ ပြိတ္တာ အကြီးစား ဖြစ်ပါတယ်။ သမုဒ္ဒရာ မြစ်ကမ်းစတဲ့ အရပ်တွေမှာ နေတတ်ပါတယ်။

ရေနားမှာ နေသော်လည်း ရေမသောက်ရ၊ ရေထဲ ဆင်းသွားလျှင် ရေတွေပျောက်ပြီး သဲပူတွေသာ တွေ့ရပါတော့

တယ်။ စားစရာ ဆိုတာကတော့ သာလို့ပဲ ဝေးပါတယ်။ အလွန် ဆင်းရဲပါတယ်။

အဲသည် အသုရာ (ပြိတ္တာအကြီးစား) အပေါင်းတို့ရဲ့ နေရာကိုပဲ "အသုရကာယ်ဘုံ" လို့ ခေါ်ပါတယ်။ ဘုံသီးခြား မရှိ။ အဲဒါ အပါယ်လေးဘုံပါပဲ။

၂။ လူ့ဘုံ-အခု လူတို့နေထိုင်ရာ ကမ္ဘာလောကကြီး ပါပဲ။

၃။ နတ်ပြည်ခြောက်ထပ်=စာတုမဟာရာဇ်ဘုံ၊ တာဝတိံသာဘုံ၊ ယာမာဘုံ၊ တုသိတာဘုံ၊ နိမ္မာနရတိဘုံ၊ ပရနိမ္မိတဝသဝတ္တီဘုံတို့ ဖြစ်ပါတယ်။

စာတုမဟာရာဇ်ဘုံဟာ မြင်းမိုရ်တောင် ခါးပန်း နံပါးလေးဘက်မှာ တည်ရှိပါတယ်။

တာဝတိံသာဘုံဟာ မြင်းမိုရ်တောင်ထိပ်မှာ တည်ရှိ ပါတယ်။

ယာမာ အစရှိတဲ့ နတ်ပြည်လေးထပ်ကတော့ တာဝတိံ သာ အထက်ကောင်းကင်ဘုံမှာ အဆင့်ဆင့် တည်ရှိတယ်လို့ ဆိုပါတယ်။

လူ့ဘုံ နတ်ပြည်ခြောက်ထပ် နတ်ဘုံပေါင်း ခုနစ်ဘုံ ကို ကာမသုဂတိ ခုနစ်ဘုံလို့ ခေါ်ပါတယ်။

အပါယ်လေးဘုံ ကာမသုဂတိ ခုနစ်ဘုံပေါင်း ဆယ့် တစ်ဘုံကို ကာမ ဆယ့်တစ်ဘုံလို့လည်း ခေါ်ပါတယ်။





## ဗြဟ္မာ့ဘုံ (၂၀)

ပထမဈာန်သုံးဘုံ-ဗြဟ္မပါရိသဇ္ဇာ၊ ဗြဟ္မပုရောဟိတာ၊ မဟာဗြဟ္မာ။

ဒုတိယဈာန်သုံးဘုံ-ပရိတ္တာဘာ, အပ္ပမာဏာဘာ, အာဘဿရာ။

တတိယဈာန်သုံးဘုံ-ပရိတ္တာသုဘာ, အပ္ပမာဏာ သုဘာ, သုဘကိဏှာ။

စတုတ္ထဈာန် ခုနစ်ဘုံ-ဝေဟပ္ဖိုလ်ဘုံ, အသညသတ် ဘုံ, သုဒ္ဓါဝါသ ငါးဘုံ၊ (အဝိဟာ, အတပ္ပာ, သုဒဿာ, သုဒဿီ, အကနိဋ္ဌာ)။

သည် (၁၆) ဘုံကို ရူပါဝစရ/ရူပ (၁၆) ဘုံလို့ ခေါ်တယ်။

အာကာသာနဉ္စာယတနဘုံ, ဝိညာဏဉ္စာယတနဘုံ, အာကိဉ္စညာယတနဘုံ, နေဝသညာနာသညာယတနဘုံ- သည်လေးဘုံကို အရူပါဝစရ/အရူပဘုံလို့ ခေါ်တယ်။

ရူပ, အရူပ နှစ်ရပ် ပေါင်းလိုက်တော့ ဗြဟ္မာ့ဘုံ နှစ်ဆယ် ဖြစ်တယ်။

၁။ အပါယ် ၄-ဘုံ

၂။ ကာမ ၁၁-ဘုံ

၃။ ဗြဟ္မာ့ဘုံ ၂၀

အားလုံးပေါင်းလိုက်တော့ (၃၁) ဘုံ ဖြစ်တယ်။

လေးကျွန်း တစ်မြင်းမိုရ်စီဖြင့် ဖွဲ့စည်းတည်ရှိနေတဲ့ စကြဝဠာတွေဟာ အသင်္ချေအနန္တ များလှတယ်လို့ ဆိုပါတယ်။ သည်စကြဝဠာတွေကို ဘုံအနေနဲ့ ခွဲခြမ်းသတ်မှတ်ကြည့်လိုက်လျှင် သည်စကြဝဠာ (သည်ကမ္ဘာ)က ဘုံမျိုးတွေပဲ ဖြစ်စရာ ရှိပါတယ်။ ဒါကြောင့် အခြားသော စကြဝဠာဟာလည်း (၃၁) ဘုံထဲ ပါဝင်တယ်လို့ ဆိုရမှာ ဖြစ်ပါတယ်။

**အဖြေ(၃)** ယောကျ်ားချင်း လိင်တူဆက်ဆံရင် ကာမေသု မိစ္ဆာစာရကံ ထိုက်၊ မထိုက် ဆိုတဲ့ အမေးကို ဖြေရလျှင်...

ဘယ်လိုဟာမျိုးဟာ ကာမေသုမိစ္ဆာစာရကံ ထိုက်တယ်၊ ဘယ်လိုဟာမျိုးဟာ မထိုက်ဘူးဆိုတာ ပထမ စိစစ်ကြည့်ရပါမယ်။

၁။ မာတုရက္ခိတာ–မိခင် စောင့်ရှောက်ထားတဲ့ မိန်းမ။

၂။ ပိတုရက္ခိတာ–ဖခင် စောင့်ရှောက်ထားတဲ့ မိန်းမ။

၃။ မာတာပိတုရက္ခိတာ–အမိ အဘ နှစ်ဦးစလုံးက စောင့်ရှောက်ထားတဲ့ မိန်းမ။

၄။ ဘာဂိနီရက္ခိတာ–အစ်မ ညီမတို့က စောင့်ရှောက်ထားတဲ့ မိန်းမ။

၅။ ဘာတုရက္ခိတာ–အစ်ကိုကြီး မောင်ငယ်တို့က စောင့်ရှောက်ထားတဲ့ မိန်းမ။





၆။ ဉာတိရက္ခိတာ–ဆွေမျိုးတို့က စောင့်ရှောက်ထားတဲ့ မိန်းမ။

၇။ ဂေါတ္တရက္ခိတာ–အနွယ်တူ လူတို့က စောင့်ရှောက်ထားတဲ့ မိန်းမ။

၈။ ဓမ္မရက္ခိတာ–အတူတကွ တရားကျင့်ဖော်တို့က စောင့်ရှောက်ထားတဲ့ မိန်းမ။

(ယောဂီ–ရသေ့မ၊ သီလရှင် စသည်များ)

သည်ရှစ်ယောက်တို့ဟာ ကာမပိုင် ယောကျ်ား မရှိတဲ့ အပျိုများ ဖြစ်ကြတာကို မှတ်ခဲ့ပါ။

၉။ သပရိဒဏ္ဍာ–မင်းစတဲ့ အာဏာပိုင်များက ကိုယ်တိုင် သိမ်းပိုက်မှာမို့ သူ့ကိုသွားလာလျှင်, ပေါင်းသင်းလျှင် ပြစ်ဒဏ်ပေးမည်လို့ သတ်မှတ်ထားတဲ့ အတွက် သွားလာပေါင်းသင်းသူ ပြစ်ဒဏ် မကင်းတဲ့ မိန်းမ။

၁၀။ သာရက္ခာ–အစောင့်အရှောက်ရှိတဲ့ မိန်းမ။

(အမိဝမ်းတွင်း ရှိစဉ်ကပင် ဖွားမြင်လာလျှင် မယားပြုဖို့ရန် သတ်မှတ် တောင်းရမ်းထားတဲ့ မိန်းမ။ ယနေ့ခေတ်အရ ပြောရလျှင် စေ့စပ် ကြောင်းလမ်းထားတဲ့ မိန်းမမျိုးလို့ ဆိုရမှာ ဖြစ်ပါတယ်။)

၁၁။ ခေနက္ကိတာ–ရွှေ ငွေ အစရှိတဲ့ ဥစ္စာဖြင့် ဝယ်ထားတဲ့ မိန်းမ။

၁၂။ ဆန္ဒဝါသိနီ–မိန်းကလေးကိုယ်တိုင်က ဆန္ဒတူ (ကြိုက်) သဖြင့် ယောကျ်ားလေးအိမ် လိုက်နေတဲ့ မယား၊ ခိုးရာလိုက်တဲ့ မယား။

၁၃။ ဘောဂဝါသိနီ–ဆင်းရဲလှတဲ့အတွက် ပန်းကန် ခွက်ယောက် အစရှိတဲ့ အသုံးအဆောင် ပစ္စည်းကလေးများ ပေးပြီး ယူထားတဲ့ မယား။

၁၄။ ပဋဝါသိနီ–အင်္ကျီ လုံချည် အစရှိတဲ့ အဝတ်တန်ဆာ ရရေးအတွက် နေထိုင်တဲ့ မယား။

၁၅။ ဩဒပတ္တကိနီ–ရေခွက်မှာ လက်ဆုံချ ထိမ်းမြားထားတဲ့ မယား၊ (ယနေ့ခေတ် လက်ထပ်ထိမ်းမြား ယူထားတဲ့ မယားမျိုး)။

၁၆။ ဩဘာသ စုမ္ဗတာ–ခေါင်းပေါ်က ခေါင်းခု ကျသွားတဲ့ မယား၊ ဆင်းရဲ၍ ခေါင်းခုဖြင့် ထင်းစသည် ရွက်ရောင်းရတဲ့ ဆင်းရဲသူကလေးကို မယားအဖြစ် အတည်ယူလိုက်တဲ့အခါ ထင်းစသည် မရောင်းရတော့တဲ့အတွက် ခေါင်းပေါ်ခု မတင်ရ၊ ခေါင်းပေါ်က ခေါင်းခု ကျသွားတဲ့ မယားလို့ ပြောလိုတာ ဖြစ်ပါတယ်။

၁၇။ ဓဇာဟတာ–တစ်နိုင်ငံကို စစ်သွားတိုက်လို့ နိုင်တဲ့





အတွက် အောင်လံစိုက်ထောင် ယူဆောင်လာတဲ့ သုံ့ပန်းများထဲက မယားအဖြစ် သိမ်းပိုက်ယူလိုက်တဲ့ မယား။

၁၈။ ကမ္မကာရီဘရိယာ–အစေခံ၊ အိမ်ဖော် မယား၊ (တချို့က အိမ်ဖော်မကလေးကို မယားအဖြစ် အတည်ယူထားတတ်သည်။)

၁၉။ ဒါသီဘရိယာ–ကျွန်မ မယား၊ (တချို့က ကျွန်မကလေးများကို မယားအဖြစ် အတည်ယူထားတတ်သည်။)

၂၀။ မုဟုတ္တိကာ–အတည်အမြဲ မဟုတ်ဘဲ အခကြေးငွေ ပေးပြီး ရက်ပိုင်းမျှ အချိန်းပိုင်းမျှ ခဏခေတ္တ ယူထားတဲ့ မယား။ (ပြည့်တန်ဆာလို မိန်းမမျိုး ဖြစ်သည်။

အခု ဖော်ပြလိုက်တဲ့ အပို့ အအို မိန်းမ (၂၀) ဟာ ယောကျ်ားများအတွက် အဂမနီယဝတ္ထု–မသွားလာကောင်းတဲ့ မိန်းမများဖြစ်ပါတယ်။

ယောကျ်ားတစ်ယောက်ဟာ . . .

၁။ သည်မိန်းမနှစ်ဆယ်ထဲက တစ်ယောက်ယောက်ကို (အဂမနီယ ဝတ္ထုကို)

၂။ မှီဝဲလို၊ ပေါင်းသင်းလိုသည့် စိတ်နှင့် (မှီဝဲလိုစိတ်ရှိခြင်း)

၃။ မိန်းမ၏ မင်္ဂလာသုံးခု=မုခမင်္ဂ–ခံတွင်းပါးစပ်၊ ပဿာဝမင်္ဂ–ကျင်ငယ်လမ်းကြောင်း၊ ဝစ္စမင်္ဂ–ကျင်ကြီးလမ်းကြောင်း တစ်ခုခုထဲသို့ မိမိရဲ့ လိင်ကို သွင်းခြင်း၊ ထုတ်ခြင်း ဆိုတဲ့ လုံ့လ ပယောဂကို ပြုလုပ်တဲ့အခါ (မှီဝဲခြင်း)

၄။ သာယာကျေနပ်လျှင် ကာမေသုမိစ္ဆာစာရကံ ထိုက်တယ်လို့ ဆိုပါတယ်။

ဒါကို ကြည့်လျှင် ဖော်ပြပါ အင်္ဂါလေးချက်နဲ့ ပြည့်စုံမှ ကံထိုက်တာကို မှတ်သားဖို့ ဖြစ်ပါတယ်။

ဒါဟာ ယောကျ်ားများဘက်က ကိုယ်ပိုင် မယားမှ တစ်ပါး ဖော်ပြပါ မာတုရက္ခိတာ စတဲ့ (အပျို–အအို) မိန်းမ (၂၀) လုံးကို သွားလာ လွန်ကျူးလျှင် ကာမေသုမိစ္ဆာစာရ ကံ ထိုက်တယ်လို့ ပြတာ ဖြစ်ပါတယ်။

မိန်းမများဘက်က–မာတုရက္ခိတာစတဲ့ ရှစ်ယောက်ဟာ ကာမပိုင် ယောကျ်ား မရှိတဲ့အတွက် မိမိပိုင် ကာမကို သူတစ်ပါးအား ပေးသော်လည်း (ဝါ) ဘယ်ယောကျ်ားနှင့်မဆို သွားလာသော်လည်း ကာမေသုမိစ္ဆာစာရကံ မထိုက်ပါ၊

သည်နေရာမှာ ပြောလိုတာက သည်လို ကံမထိုက်တာကို အခွင့်ကောင်းတစ်ခု အနေနှင့် မှတ်ယူပြီး စိတ်အလိုလိုက်မိလျှင် ဂုဏ်သိက္ခာပျက်၊ အရှက်တကွဲ အကျိုးနည်း လူထဲမျက်နှာမပြဝံ့တဲ့ အဖြစ်ဆိုးကြီးက ကာမေသုမိစ္ဆာစာရထက်





ကြောက်စရာကောင်းရုံတင်မက ငါ့နှယ် ဖြစ်မှဖြစ်ရပလေဆိုတဲ့ ပူပန်သောက နောင်တတွေ တစ်ထွေးကြီး ပိုက်ပြီး အပါယ် ဘေးကြီး ဆိုက်ရောက်ရမှာ သေချာသလောက် ဖြစ်တာမို့ ဒါကို အခွင့်ကောင်းတစ်ခု အနေနဲ့ မမှတ်ယူမိအောင် သတိ ဆောင်ဖို့ ဖြစ်ပါတယ်။

သာရက္ခာစတဲ့ ၁၂ ယောက်တို့ဟာ မိမိ ကာမကို ပိုင်ဆိုင်တဲ့ ယောကျ်ားရှိတဲ့ အတွက် မိမိကာမကို မိမိ ယောကျ်ားမှတစ်ပါး အခြားယောကျ်ားကို ပေးမိလျှင် ကာမေသုမိစ္ဆာစာရ ဖြစ်ပါတယ်။

ဒါကို ခြုံငုံသုံးသပ်လျှင် မိန်းမနှင့် ယောကျ်ားတို့ သွားလာ ဆက်ဆံခြင်းကိုသာ ကာမေသုမိစ္ဆာစာရ ဖြစ်တယ်လို့ ပြထားပြီး ယောကျ်ားအချင်းချင်း သွားလာတဲ့ အတွက် ကာမေသုမိစ္ဆာစာရ ဖြစ်တယ်လို့ ပြဆိုထားတာ ကျမ်းဂန်များ မှာ မတွေ့ရပါဘူး။

သည်နေရာမှာ ဝိသုဒ္ဓါရုံ ဆရာတော်ဘုရားကြီးက...

မှီဝဲတာကို သာယာတယ်ဆိုတဲ့ နေရာမှာ မင်္ဂသုံးပါး ရှိရာ ဘယ်မင်္ဂဟု သတ်မှတ်မဆိုဘဲ "မဂ္ဂေန မဂ္ဂပ္ပဋိပတ္တိ အဓိဝါသနံ=မိမိမင်္ဂဖြင့် သူ့မင်္ဂအတွင်းသို့ ရောက်သည်ကို သာယာခြင်း" ဟု သာမန်သာဆိုတဲ့ အတွက် ပဿာဝမင်္ဂသာ ကံထိုက်သည် မဟုတ်။ ဝစ္စမင်္ဂ၊ မုခမင်္ဂတို့၌လည်း ကံထိုက် သည်ဟု မှတ်ရမည်။

ဝစ္စမဂ် မုခမဂ်ချင်း တူလျှင်လည်း မိန်းမတို့၏ ဝစ္စ, မုခမဂ်တို့၌သာ ကံထိုက်သည်။ ယောကျ်ားတို့၏ ဝစ္စ မုခမဂ်တို့၌ကား ကံမထိုက်ဟု မှတ်ယူရန် မရှိချေ။

ကျမ်းဂန်တို့၌ကား မိန်းမနှင့် ယောကျ်ားတို့သာ သွားလာရိုး ဖြစ်သည်။ ယောကျ်ားအချင်းချင်း သွားလာရိုး (ထုံးစံ) မဟုတ်၍ မိန်းမ နှစ်ကျိပ်ကိုသာ ပြဟန်ရှိချေသည်။

(ဤအရာသည် ယှက်ထွေး၏။ သဘောဉာဏ် အထင်ကိုသာ ရေးလိုက်သည်။ ဆွေးနွေးမေးမြန်းကြလေဦး) ဟု ပရမတ္ထသရူပဘေဒနီ ကျမ်းမှာ မိန့်တော်မူထားတာ တွေ့ရပါတယ်။

ဆရာတော် ဘုရားကြီး အနေနဲ့ မိစ္ဆာစာရ ဖြစ်တယ်လို့ အယူရှိပုံ ရပါတယ်။ ဒါပေမယ့် ကျမ်းဂန်မှာ မိစ္ဆာစာရ ဖြစ်, မဖြစ် တိုက်ရိုက် မဆိုထားတဲ့အတွက် အငြင်းမပွား အကုသိုလ် မများစေချင်တာကြောင့် အတိအကျ အဆုံးအဖြတ် ပေးမထားတာ ဖြစ်တယ်လို့ ယူဆစရာ ဖြစ်ပါတယ်။

ကျမ်းဂန်မှာ ကံထိုက် မထိုက် တိုက်ရိုက် ဆိုမထားသော်လည်း အခုလို ယောကျ်ားချင်းချင်း လိင်တူဆက်ဆံခြင်းဟာ အစဉ်အလာထက် လွန်ကဲဆိုးရွား သူတော်ကောင်း ပညာရှိများ ကဲ့ရဲ့စက်ဆုပ်ဖွယ် တကယ့်အပြစ်ကြီးတဲ့ (အဓမ္မရာဂ) အကျင့်မျိုးပဲလို့ သိရှိနားလည်ရမှာ ဖြစ်ပါတယ်။

သည်လို လိင်တူဆက်ဆံခြင်းမျိုးဟာ ယနေ့ ကမ္ဘာ့





လူသားတွေရဲ့ အသက်စည်းစိမ်တွေကို အကြီးအကျယ် အန္တရာယ် ပြုနေတဲ့ အေအိုင်ဒီအက်စ် (ခုခံအားကျဆင်းမှု ကူးစက်ရောဂါ) ဖြစ်စေရာမှာ ထိပ်ဆုံးက နေရာယူထားတဲ့ အဓိက သေမင်းတမန်ပဲလို့လည်း ကြားသိရပါတယ်။

ဒါကြောင့် သည်လို ယုတ်ညံ့တဲ့ စက်ဆုပ်ဖွယ် လူသားမျိုးနွယ် တစ်ခုလုံးအတွက်ပါ အန္တရာယ်များလှတဲ့ အဓမ္မရာဂ အကျင့်ဆိုးမျိုးကို မပြုကျင့်မိအောင် အထူးရှောင်ကြဉ်သင့်ကြောင်း ပြောကြားလိုက်ရပါတယ်။

မှာထားချက်

သည်အဖြေဟာ ပဲခူးတိုင်း၊ ကျောက်တံခါးမြို့နယ်၊ သူဌေးကုန်း ဘူတာ၊ ဘူတာဝန်ထမ်း မောင်မြကြိုင်ရဲ့ ...

အိမ်ထောင်ရှိသူ လူအိုနှင့် အိမ်ထောင်မရှိသူ လူပျို၊ လူအို အချင်းချင်း၊ လူပျိုအချင်းချင်း လိင်တူဆက်ဆံကြသော် မည်သည့်ကံ ထိုက်ပါသနည်းဆိုတဲ့ အမေးအတွက်လည်း အဖြေဖြစ်တယ်လို့ မှတ်ယူစေလိုပါသည်။

သည် လိင်တူဆက်ဆံတာနဲ့ ပတ်သက်ပြီး သက်မောင် (စစ်ကိုင်း) ကလည်း ...

ကာမပိုင် ယောကျ်ားရှိသော မိန်းမတစ်ယောက်သည် ယောကျ်ားစိတ် ပေါက်၍ အခြား မိန်းမပျို တစ်ဦးနှင့် ကာမဂုဏ် ကျူးလွန်လျှင် ယောကျ်ားစိတ်ပေါက်တဲ့ မိန်းမရော

မိန်းမပျိုပါ ကာမေသုကံ ထိုက်ပါသလားလို့ မေးထားပြန်ပါတယ်။

သည်လို ကံထိုက် မထိုက်နဲ့ ပတ်သက်ပြီး အပြောအဆို အမေးအမြန်း ရှိလာလျှင် ဆိုင်ရာ အင်္ဂါနဲ့ ညီမညီ ညှိနှိုင်း တိုက်ဆိုင်ကြည့်ပြီး ဖြေဆိုမှ အမှန်ရမှာ ဖြစ်တဲ့အတွက် ညှိနှိုင်းတိုက်ဆိုင်ကြည့်ရလျှင်...

ကာမေသုကံနဲ့ ပတ်သက်တဲ့ အင်္ဂါများဟာ...

၁။ မသွားလာ မမှီဝဲကောင်းတဲ့ (အဂမနီယ) ဝတ္ထု ဖြစ်ခြင်း။

၂။ သွားလာ မှီဝဲလိုတဲ့စိတ် ရှိခြင်း။

၃။ မဂ်သုံးခုတွင် တစ်ခုခုသော မဂ်အတွင်းသို့ မိမိ၏ မဂ် (လိင်) ကို သွင်းခြင်း၊ ထုတ်ခြင်းဆိုတဲ့ လုံ့လပယောဂ ပြုခြင်း၊ မှီဝဲခြင်း။

၄။ သည်လို မှီဝဲတာကို သာယာခြင်းဆိုတဲ့ အင်္ဂါ လေးချက်နဲ့ ညီလျှင် ကံထိုက်ပါတယ်။

သည်အင်္ဂါများဟာ အထက်ဖော်ပြပါ မေးခွန်းအဖြေမှာလည်း ဖော်ပြပြီး ဖြစ်ပါတယ်။ ပိုရှင်းသွားအောင် ထပ်ပြီး ဖော်ပြလိုက်တာ ဖြစ်ပါတယ်။

မောင်သက်မောင်ရဲ့ အမေးကို သည်အင်္ဂါလေးရပ်နဲ့ တိုက်ဆိုင် ညှိနှိုင်းကြည့်လျှင်...





၁။ အဂမနီယဝတ္ထုဆိုတာ ယောကျ်ားနဲ့ မိန်းမများ အတွက်သာ ကျမ်းဂန်များမှာ တိုက်ရိုက် ဖော်ပြထားတဲ့အတွက် နံပါတ်(၁) အင်္ဂါနဲ့ မကိုက်ညီဘူးလို့ ဆိုရပါမယ်။

၂။ မှီဝဲစိတ်ရှိခြင်းဆိုတဲ့ နံပါတ်(၂) အင်္ဂါအတွက် ကတော့ ညီချင် ညီနိုင်စရာ ရှိပါတယ်။

၃။ တစ်ခုခုသော မဂ်အတွင်းသို့ မိမိ၏ မဂ်(လိင်)ကို ထုတ်သွင်းခြင်းဆိုတဲ့ တတိယ အင်္ဂါအတွက် ကတော့ မိမိတို့ ဘယ်လိုမှ မသိနိုင်။ အနုမာန အတွေးအဆနဲ့ ပြောဖို့ဆိုတာကလည်း ဘယ်လိုမှ မတွေးဆတတ်တာကြောင့် သည်အင်္ဂါအတွက် အဆုံးအဖြတ် မပေးနိုင်ပေ။

မိန်းမတစ်ယောက်ဟာ ယောကျ်ားစိတ် ပေါက်ရုံနဲ့ ယောကျ်ားစစ် ဖြစ်မသွား။ နဂိုအင်္ဂါ အစိတ်အပိုင်းတွေဟာ တစ်မျိုးတစ်ဖုံ မပြောင်းမလဲ။ နဂိုအနေအထား အတိုင်းပဲ ရှိနေတယ်ဆိုတာကို သတိပြုရပါမယ်။

၄။ မှီဝဲတာကို သာယာခြင်းဆိုတဲ့ နံပါတ်(၄) အင်္ဂါကတော့ ပြည့်စုံချင် ပြည့်စုံနိုင်စရာ ရှိပါတယ်။

ဒါတွေအားလုံး စုပေါင်း အဖြေထုတ်လိုက်လျှင် ဘယ်သူ့မှာမှ ကံမထိုက်ဘူးဆိုတဲ့ အဖြေပဲ ထွက်လာစရာ

ရှိပါတယ်။

ကံမထိုက်သော်လည်း အမှုအကျင့်က ယုတ်ညံ့လှတဲ့ အတွက် ဟီရိဩတ္တပ္ပ တရားနှစ်ပါး မိမိတို့ သန္တာန်မှာ ဖြစ်ပွားစေပြီး အမျိုးကောင်းသမီး ပီသစွာ နေနိုင်ကြပါမှ လက်ရှိဘဝထက် မွန်မြတ်တဲ့ ဘဝကို ရနိုင်ပြီး သံသရာ ခရီး လမ်းမှာ မျက်နှာပန်းလှစရာ ရှိကြပေလိမ့်မည်။

အမေးရှိလျှင် အဖြေရှိရမည်ဆိုတဲ့ စကား အရသာ သည့်မေးခွန်းကို ဖြေလိုက်ရပါတယ်။ ကျမ်းဂန်မှာလည်း တိုက်ရိုက် မလာ၊ ရှေးဆရာများရဲ့ အဆိုအမိန့်လည်း မရှိ။ မိမိ၏ အတွေးအဆနဲ့သာ ဖြေလိုက်ရတာမို့ မှန်လှပြီလို့တော့ မဆိုသာ။ မေးမြန်းကြပါလေဦးလို့သာ ပြောပါရစေ။

ဘယ်အင်္ဂါအရ ဘယ်လိုဖြစ်နိုင် မဖြစ်နိုင် စသည် ဘာဘာ ညာညာ စဉ်းစားရတာကလည်း အတော် ကသိ ကအောက် နိုင်လှပါတယ်။

သတ္တဝါ အကြိုက် စရိုက်သွယ်သွယ် မဖွယ်မရာတဲ့ အမှုအကျင့်တွေက အမျိုးမျိုးဆိုတော့ ထိုးထိုးထောင်ထောင် မေးခွန်းတွေလည်း ပေါ်လာရတော့တာပဲ။ ကြိုးစားဖြေရတော့ မှာပေါ့လို့ စဉ်းစားပြီး ကြံဖန် အဖြေရှာရတာကလည်း အမောသားပါပဲကလားလေ။

သည် ကာမေသုနဲ့ ပတ်သက်ပြီး မဖြစ်သင့်တာတွေ မဖြစ်ရအောင် သည်လို ထိုးထိုးထောင်ထောင် မေးခွန်းမျိုးတွေ





ပေါ်မလာရအောင် ကြိုတင် ကာကွယ် တားဆီးရာမှာ အရေးပါ လိမ့်မယ်လို့ ယူဆရတဲ့ လင်္ကာကလေးကို ဖော်ပြလိုက်ပါတယ်။ ကျက်မှတ်ဆောင်ထား လိုက်နာကျင့်သုံး သွားမယ်ဆိုလျှင် ကြီးမားတဲ့ အကျိုးကို ခံစားရမှာ သေချာပါတယ်။

### ဆောင်ပုဒ်လင်္ကာ

မိစ္ဆာစာရ၊ လွန်ကျူးကလည်း၊
မုန်းကြသူများ၊ ရန်သူပွားချ၊
ရှားပါးလာဘ်တိတ်၊ ချမ်းသာဆိတ်၏။
ဣတ္ထိ ပဏ္ဍုက်၊ မျိုးယုတ်ခါခါ၊
မျက်နှာမလှ၊ အရှက်ရလျှက်၊
လက္ခဏာ ဣန္ဒြေ၊ ယွင်းသွေချို့သိမ်၊
စိုးရိမ်များစွာ၊ ချစ်သူကွာသည်၊
ရောင်ကာ အပြန်အကျိုးတည်း။

## မေးခွန်း (၄၄)

**အမေး(၁)** လောင်းကစားမှ ရသော ငွေနှင့် လှူဒါန်းသော အလှူသည် မွန်မြတ်သော အလှူ ဖြစ်ပါသလား။

**အမေး(၂)** အမိ အဖနှင့် ကိုယ့်ကိုယ်ကိုသာ အလေးထားပြီး ယူထားသော မယားအပေါ်တွင် ဥပေက္ခာပြုကာ မောင်တစ်ထမ်း မယ်တစ်ရွက် မနေသောသူသည် အပြစ်ရှိပါသလား။

မဝင်းကြည် (ဖျာပုံ၊ ဧရာဝတီတိုင်း။)

**အဖြေ(၁)** လောင်းကစား အလုပ်ဟာ မိစ္ဆာဇီဝ အလုပ် ဖြစ်ပါတယ်။ မိစ္ဆာဇီဝနဲ့ ရတဲ့ ရွှေငွေစတဲ့ ပစ္စည်းတွေဟာ မစင်ကြယ်တဲ့ ပစ္စည်းတွေ





ဖြစ်ပါတယ်။ သည်ပစ္စည်းတွေကို စားသောက်သုံးစွဲလျှင် မိစ္ဆာဇီဝ ဖြစ်ပါတယ်။ အပြစ်ရှိပါတယ်။ မိစ္ဆာဇီဝနဲ့ ပတ်သက်ပြီး ပြောရလျှင် သမ္မာအာဇီဝနဲ့ ယှဉ်တွဲပြောမှ သဘောပေါက်ပိုရှင်းမှာမို့ သည်နေရာမှာ သမ္မာအာဇီဝကိုလည်း ပြောရပါမယ်။

သမ္မာအာဇီဝဟာ–

၁။ သုတ္တန်ပါဠိတော်လာ သမ္မာအာဇီဝ

၂။ အဘိဓမ္မာ ပါဠိတော်လာ သမ္မာအာဇီဝလို့ နှစ်မျိုး ရှိပါတယ်။

သည်နေရာမျိုးမှာ မိဘ စသူတို့ထံမှ အမွေအနှစ်ရတဲ့ ပစ္စည်း၊ လက်သမား၊ ပန်းရံ၊ ကူလီအလုပ်ကြမ်း စသည် အလုပ်မှ လုပ်အားခရတဲ့ ပစ္စည်း၊ လခစား၊ ဝန်ထမ်းသမားတို့ ရတဲ့ပစ္စည်း၊ အတိုးအပွားချလို့ ရတဲ့ပစ္စည်း၊ တရားသဖြင့် ရောင်းဝယ်၊ ကုန်သည်လယ်ယာ လုပ်ငန်းမှ ရတဲ့ပစ္စည်းများဟာ ဓမ္မိယလဒ္ဓ တရားသဖြင့် ရတဲ့ စင်ကြယ်တဲ့ ပစ္စည်းတွေ ဖြစ်ပါတယ်။

သည်ပစ္စည်းမျိုးကို စားသောက်သုံးစွဲ နေထိုင်တာမျိုး၊ သည်လိုနည်းမျိုးနှင့် ပစ္စည်းဥစ္စာ ရှာဖွေခြင်းမျိုးကို သုတ္တန်ပါဠိတော်လာ (သုတ္တန်) သမ္မာအာဇီဝလို့ ခေါ်ပါတယ်။

ပစ္စည်းဥစ္စာများကို အလွယ်တကူ ခိုးယူ၊ လိမ်ညာယူလို့ ရနိုင်ပါလျက် မခိုးမယူ၊ လိမ်ညာမယူဘဲ ရှောင်ကြဉ်နေတာမျိုးကို အဘိဓမ္မာ သမ္မာအာဇီဝလို့ ခေါ်ပါတယ်။

ကုသိုလ် အကုသိုလ် (ဝါ) သမ္မာအာဇီဝ၊ မိစ္ဆာအာဇီဝများကို နားမလည်ခင်က သတ်ဖြတ်ခိုးဝှက် လိမ်ညာခြင်း၊ လောင်းကစားခြင်း စသည် အလုပ်တို့ဖြင့် ရှာဖွေရရှိထားတဲ့ (အဓမ္မိယလဒ္ဓ—မတရား ရရှိထားတဲ့) မစင်ကြယ်တဲ့ ပစ္စည်းများကို စားသောက်သုံးစွဲနေလျှင် မိစ္ဆာဇီဝ ဖြစ်ပါတယ်။

သည်အဓမ္မိယလဒ္ဓ—မတရား ရရှိထားတဲ့ မစင်ကြယ်တဲ့ ပစ္စည်းများကို ဒါတွေဟာ မိစ္ဆာဇီဝတွေ ပါလားလို့ နားလည်လာတဲ့အခါ သည်လို မတရား ရှာဖွေမှုမျိုးကို ဆက်လက်မပြု တော့ဘဲ ရှောင်ကြဉ်လိုက်လျှင် အဘိမမ္မော သမ္မာအာဇီဝ ဖြစ် တယ်လို့ ဆိုနိုင်ပါတယ်။

ဆိုလိုရင်းက မတရား ရှာဖွေရရှိထားတဲ့ ပစ္စည်းဥစ္စာတွေကို စားသောက်သုံးစွဲနေလျှင် သုတ္တန်အလို မိစ္ဆာဇီဝ ရှာဖွေမှုကို ရှောင်ကြဉ်လိုက်လျှင် အဘိမမ္မာ သမ္မာအာဇီဝ ဖြစ်တယ်လို့ ဆိုလိုရင်း ဖြစ်ပါတယ်။

အခုဖော်ပြပြီးခဲ့တဲ့ ငွေနှင့်လှူတဲ့ အလှူဟာ သင့်တော်ရုံမျှ အကျိုးရတဲ့ သာမန်အလှူလောက်ပဲ ဖြစ်နိုင်ပါတယ်။

ဓမ္မိယလဒ္ဓ တရားသဖြင့် ရထားတဲ့ (စင်ကြယ်တဲ့) ငွေ မဟုတ်တဲ့အတွက် ထက်သန်ဖွံ့ဖြိုး များများကြီး အကျိုးပေးတဲ့ မွန်မြတ်တဲ့ အလှူတော့ မဖြစ်ပါဘူးလို့ မှတ်သားရပါမယ်။





**အဖြေ(၂)** လှည်းဘီးပြင်က၊ နားစောင့်ချသို့၊ မိဘနှင့်သား၊ မယားနှင့်လင်၊ အရှင်နှင့်ကျွန်၊ ထေရ်မွန် ဒကာ၊ မိတ်သဟာနှင့်၊ ဆရာတပည့်၊ တည့်တည့်မချွတ်၊ ကျင့်ဝတ်စုံလင်၊ ဖြူသန့်စင်မှ၊ ရှင်လည်းမကျွေ၊ သေလည်း မကျွ၊ နတ်ရွာလူ့ပြည်၊ လှည့်လည်အတူ၊ စံစားမှု၍၊ နိဗ္ဗူရွှေပြည်၊ ဝင်အံ့သည်တည့်။ မတည်ကျင့်ဝတ်၊ ချွတ်သူတို့မှာ၊ မလွတ်သာသည်၊ လေးရွာဖို့ လုံးလုံး လူဖြစ်ရှုံး။

(ဘုရားဟော ပါဠိတော်ကို ရှေးဆရာတော်ကြီးများ မြန်မာမှု ပြုထားသည့် အဖိုးတန်လှသည့် လင်္ကာဖြစ်သည်။)

ရှေးတုန်းက သည်လင်္ကာလေးကို ဗုဒ္ဓဘာသာဝင် လူရှင် ရဟန်း အားလုံးလောက်လိုလို ရရှိ အမိပ္ပာယ်လည်း သိထား ကြပါတယ်။ ဘုန်းတော်ကြီးကျောင်း မှန်သမျှမှာ ကျောင်းသား လူငယ်ကလေး ဘဝကပင် မသင်မနေရ အရကျက်သင်ထားရတဲ့ လင်္ကာကလေး မဟုတ်ပါလား။

ယနေ့ခေတ် ကာလမှာတော့ သည်လင်္ကာကလေးကို အရအမိ အသိအတော် နည်းပါးနေပါသေးတယ်။

လောကမှာ မိဘနှင့် သားသမီး လင်နှင့် မယား စသည် ဖြစ်လာကြလျှင် အချင်းချင်း အပြန်အလှန် ပြုကျင့်ရမည့် ဝတ္တရားတွေ ရှိလာပါတယ်။ အဲဒီ ဝတ္တရားတွေထဲက လင်နှင့် မယား ဝတ္တရားမှာ...

လင့်ဝတ္တရားက ... မထိမဲ့ကင်း အပ်နှင်းဥစ္စာ မိန္ဓာမများ ဝတ်စားဆင်ယင် မြတ်နိုးကြင် ငါးအင်လင်ကျင့်ရာ။

မယားဝတ္တရားက ... အိမ်တွင်းမှုလုပ် သိမ်းထုပ်သေချာ၊ မိန္ဓာကြည်ရှောင် လျော်အောင်ဖြစ်ချီ ပျင်းရိမမူ ဝတ်ငါးဆူ အိမ်သူကျင့်အပ်စွာ လို့ ဖြစ်ပါတယ်။

အဲသည် ဝတ္တရားတွေဟာ လှည်းတစ်ခုမှာရှိတဲ့ ဘီးနှစ်ဘီး ကျွတ်ထွက်မသွားအောင် ဘီးနှစ်ဘီး အပြင်ဘက်နားဝင်ရိုးအစွန်းက အပေါက်ကလေးထဲမှာ ကန့်လန့်ဖြတ် တပ်ထားတဲ့ ဘီးစောင့်သပ်ကလေးနှင့် တူပါတယ်။

အဲသည် ဘီးစောင့်သပ်ကလေးဟာ အလျား ခြောက်လက်မ၊ အနံ နှစ်လက်မခန့်မျှ သေးငယ်လှသော်လည်း လှည်းတစ်စီးလုံးကို တာဝန်ယူထားရတဲ့ အလွန် အရေးပါတဲ့ ပစ္စည်းကလေး ဖြစ်ပါတယ်။ လှည်းနှင့်တကွ လှည်းပေါ်မှာ ရှိနေတဲ့ လူတွေ၊ ဝန်တွေ၊ အားလုံးရဲ့ ကောင်းကျိုးဆိုးပြစ်ဟာ သူ့အပေါ်မှာ တည်နေပါတယ်။

ဝန်စည်တွေ အပြည့်တင်ထားတဲ့ လှည်းတစ်စီးဟာ တအိအိနဲ့ သွားနေရာမှာ ဘီးစောင့်သပ်ကလေး ကျွတ်ထွက်မသွားဘဲ ခိုင်မြဲနေမယ်ဆိုလျှင် အဲသည် လှည်းကြီးဟာ အန္တရာယ်ကင်းကွာ လိုရာခရီးဆုံးထိ ရောက်ရှိသွားပြီး လှည်းပေါ်ပါ လူတွေရော၊ ဝန်စည်တွေပါ ကိုယ်စိတ်နှစ်ဖြာ ချမ်းသာ





ပျော်ရွှင်စွာနဲ့ မိမိတို့လိုရာ ကိစ္စပြီးမြောက် ဘဝခရီးတစ်လျှောက် ပြည့်မောက်ချမ်းသာ အေးချမ်းသာယာ ရှိကြမှာ ဖြစ်ပါတယ်။

လှည်းကြီး သွားနေတုန်း ဘီးစောင့် သပ်ကလေး ကျွတ်ထွက်သွားလျှင်တော့ အစောင့်အထိန်း မရှိတော့တဲ့ လှည်းဘီးကြီးတွေဟာ ထိန်းမရ သိမ်းမနိုင် ကယိမ်းကယိုင် တိမ်းစောင်း မြင်မကောင်းအောင် မှောက်သွားတော့မှာပါ။

အဲသည်လို မှောက်သွားလျှင်တော့ လှည်းကြီးနှင့်တကွ လှည်းပေါ်ပါ လူတွေရော ဝန်စည်ထုပ်တွေပါ ရစရာ မရှိအောင် သေကြေပျက်စီး အဆုံးရှုံးကြီး ဆုံးရှုံးတော့မှာ ဖြစ်ပါတယ်။

သည်အတိုင်းပါပဲ။ လင်ရော မယားပါ ကိုယ့်ဆိုင်ရာ ဝတ္တရားနဲ့ ပြည့်စုံကြလျှင် နားစောင့်မကျွတ်တဲ့ လှည်းကြီးလို အသက်ရှင်စဉ် ဘဝခရီးတစ်လျှောက် စည်းစိမ်ဥစ္စာတွေ ဖြိုးမောက်၊ ရာသက်ပန် ပျော်ရွှင်ဝမ်းမြောက်စွာ နေကြရပြီး တစ်ဘဝခရီး စခန်းသတ်လို့ နောက်ထပ် ခရီးဆက်ကြလျှင်လည်း သုဂတိ သံသရာမှာ ပျော်ရွှင်စွာ လက်တွဲပြီး အပျော်ကြီးပျော်၊ အချမ်းသာကြီး ချမ်းသာကြမှာ ဖြစ်ပါတယ်။

လင်နဲ့မယား အချင်းချင်း ဝတ္တရား မကျေပွန်ကြလျှင်တော့ နားစောင့်ကျွတ်တဲ့ လှည်းကြီး တိမ်းမှောက်ပျက်စီးသလို အချင်းချင်း မညီမညာ အိမ်တွင်းရေး မသာမယာနဲ့ ဘဝခရီးတစ်လျှောက်မှာ ကိုယ်ရောစိတ်ပါ ချမ်းသာနဲ့ဝေး

သောကတွေ တစ်ထွေးကြီး ရင်ဝယ်ပိုက်ပြီး အဆင်းရဲကြီး ဆင်းရဲနေရမည့်အပြင် သူ့အတွက် တမလွန်ဘဝ ဆိုတာလည်း အပါယ်ငရဲပဲ ဖြစ်စရာ ရှိတာကြောင့် ရရှိထားတဲ့ လူ့ဘဝ ကလေး ဆုံးရှုံးခါ အနစ်နာကြီး နစ်နာတော့မှာ ဖြစ်ပါတယ်။

သားမယားအပေါ် ဥပေက္ခာပြုထားတဲ့ လင်ယောကျ်ား ဟာ "ပုတ္တဒါရဿ သင်္ဂဟော-သားမယားအား ပေးကမ်း ချီးမြှောက်ရခြင်းဆိုတဲ့ မင်္ဂလာ ပျက်ကွက်သူ ဖြစ်ပါတယ်။ မင်္ဂလာပျက်လျှင် အမင်္ဂလာ ဖြစ်တော့တာပဲ။ အမင်္ဂလာဆိုတာ အကုသိုလ်တရား ဖြစ်တာကြောင့် သည်ယောကျ်ားဟာ ခုရော နောင်ပါ နှစ်ဖြာဘုံဘဝလုံးမှာ အကုသိုလ်ရဲ့ ဆိုးကျိုးများကို ခံစားရမည့် အပြစ်ရှိသူ ဖြစ်တယ်လို့ မှတ်သားရမှာ ဖြစ်ကြောင်း ပြောကြားလိုက်ရပါတယ်။

လူ့ကျင့်ဝတ်တရားတွေ ကွယ်ပျောက် လှည်းမှောက် ပျက်စီးသူတွေ ပေါများလှတာကြောင့် သတိပေးတဲ့ အနေနဲ့ ခပ်ကျယ်ကျယ်ကလေး ဖြေဆိုလိုက်ပါတယ်။



## မေးခွန်း(၄၅)

**အမေး** ရဟန်း၏ ခမည်းတော်၊ မယ်တော်နှင့် ရဟန်း ဒါယကာ၊ ဒါယိကာမများ ဝိညာဉ်ချုပ်သွားသောအခါ တချို့က မီးသင်္ဂြိုဟ်ခြင်း ပြုကြ၏။ ၎င်းပြဿနာတို့၏ ထူးခြားချက်များ သိလိုပါသဖြင့် ကျေးဇူးပြု၍ ဖြေပေးပါရန် တပည့်တော် ရိုသေစွာ လျှောက်ထားပါသည်။ သာသနာ့ အာဇာနည် ဆရာတော်ဘုရား။

ဦးပညာနန္ဒ
မကွေးတိုင်း၊ ပခုက္ကူမြို့နယ် (ကိုင်းအုပ်စု)
မန်ကျည်းကန်ကျောင်းတိုက်။

**အဖြေ** ရဟန်း ခမည်းတော် မယ်တော်စသည်တို့ ဝိညာဉ်ချုပ်တဲ့အခါ မီးသင်္ဂြိုဟ်၊ မသင်္ဂြိုဟ် ကိစ္စ အလေ့အထဟာ လူမျိုးတစ်မျိုး

လုံးရဲ့ အလေ့အထ၊ တစ်နိုင်ငံလုံးရဲ့ အလေ့အထ အစဉ်အလာ မဟုတ်ဘဲ မိမိတို့ နယ်ပယ် ရပ်ရွာဒေသ အချိန်ကာလ ပတ်ဝန်းကျင် အခြေအနေများအရ "တစ်ကျောင်း တစ်ဂါထာ၊ တစ်ရွာ တစ်ပုဒ်ဆန်း" ဆိုသလို ကျင့်သုံးနေကြတဲ့ ကိစ္စ အလေ့အထမျိုးသာ ဖြစ်ပါတယ်။

သည်လို ကိစ္စမျိုးတွေအတွက် ဗုဒ္ဓဒေသနာတော်မှာ တွေ့ရတာက ရဟန်းတော်များအတွက် မီးသင်္ဂြိုဟ်ပြီး လူများအတွက် သုသာန်မှာ သွားပစ်လိုက်တယ်လို့သာ တွေ့မိပါတယ်။ တချို့ ကြီးကျယ်တဲ့ ပုဂ္ဂိုလ်ကြီးများကိုလည်း မီးသင်္ဂြိုဟ်တယ်လို့ တွေ့ရပါတယ်။

မိမိ လက်လှမ်းမီရာ ကြည့်ရှုမိသမျှ စာပေများထဲမှာလည်း တွေ့မိတယ်လို့ သတိမထားမိ၊ လေးစားလောက်တဲ့ ဆရာသမားကြီးများရဲ့ အဆိုအမိန့်ကိုလည်း မကြားမသိပါဘူး။

ဒါကြောင့် သည်ကိစ္စမှာ ဘယ်လို ထူးခြားချက်များ ရှိတယ်လို့ ဖြေဆိုလို့ မဖြစ်နိုင်ကြောင်း ပြန်ကြားလိုက်ပါတယ်။





## မေးခွန်း (၄၆)

ဆရာတော်ဘုရား...

ဆရာတော်အား တပည့်တော် သိလိုသည့် အချက်များကို ခွင့်ပြုပါ ဘုရား။ ယင်းအမေးများကိုလည်း ဖြေကြားပေးပါ ဘုရား။

**အမေး(၁)** တပည့်တော်မတို့ ဘုရားရှိခိုး အမျှဝေ၍ စည်ရိုက်သည့်အခါ ဘယ်နှစ်ချက် ရိုက်ရပါမည်လဲ ဘုရား။ အချို့က တစ်ဆယ်ချက် ရိုက်မှ ကောင်းသည်ဟု ပြောကြပါသည် ဘုရား။

**အမေး(၂)** ပုတီးစိပ်ရာတွင် အဘယ်သို့သော ပုတီးစိပ်နည်းက အကျိုးရှိပါမည်လဲ ဘုရား။

ပွတ်းစိမ်းရာတွင် လူငယ်သဘာဝ ကြီးပွားတိုးတက်ရေးကို ရှေးရှုပြီး စီးပွားတိုးတက်ပါသည်ဆိုသော နမောငါးချက်နှင့် အခြားနည်းများကို ပွတ်းစိပ်ပါက အပြစ်ရောက်ပါသလားဘုရား။

**အမေး(၃)** ဝမ်းတစ်ထွာအတွက် စီးပွားရေးလုပ်ရာတွင် အရင်းအနှီးကလည်း မရှိ။ လုပ်လည်း မလုပ်တတ်သဖြင့် စိတ်မချမ်းမြေ့စွာ တံငါလုပ်နေရသော သူများသည် ငရဲကို ရောက်နိုင်ပါသလားဘုရား။ ဗဟုသုတ ပြည့်စုံစွာဖြင့် တရားနာ၊ အလှူများတွင် တရားစကား ပြောကြား၍ ကိုယ်တွင် တရားမရှိသူနှင့် စိတ်မချမ်းမြေ့စွာ တံငါလုပ်နေသောသူ ဘယ်သူ့ကို ပို၍ ဘုရားမကြိုက်ပါသလဲ ဘုရား။

ကင်းမော်
တပ်ဦးရုံ၊ ကင်းတပ်
မော်လိုက်မြို့နယ်၊ (စစ်ကိုင်းတိုင်း)

**အဖြေ(၁)** ကြေးစည်ရိုက်၊ ခေါင်းလောင်းထိုး၊ ကလတက်ခေါက် စတဲ့ ကိစ္စတွေဟာ ဘယ်နှစ်ချက်၊ ဘယ်နှစ်ကြိမ်ရယ်လို့ သတ်မှတ်ချက်မရှိပါဘူး၊ မိမိတို့ အယူအဆ၊ ရည်ရွယ်ချက်အရ ရိုက်ကြ၊ ထိုးကြ၊ ခေါက်ကြတာ ဖြစ်ပါတယ်။





ကြေးစည်ရိုက်တာဟာ မိမိတို့၏ ကုသိုလ်အဖို့ကို အမျှအတန်း ပေးဝေနေတယ်ဆိုတာ အများသိစေဖို့ ရည်ရွယ်ချက်နဲ့ ထုတာ ဖြစ်တော့ ဘယ်နှစ်ချက်ထုမှ ကောင်းတယ်လို့ မူသေ သတ်မှတ်ဖို့ မဟုတ်ပါဘူး၊ အများကြားနိုင်လောက်လျှင် ပြီးတာပါပဲ။

တစ်ချက် နှစ်ချက်လောက်နဲ့ သတိမပြုမိ မကြားမသိသေးတဲ့ ပုဂ္ဂိုလ်တွေ သတိပြုမိ ကြားသိလောက်အောင် ခုနစ်ချက် လောက်ကနေ ကိုးချက် ဆယ်ချက်လောက် ထိအောင် မနည်းလွန်း မများလွန်း ရိုက်တာ ကောင်းတယ်လို့ ဆိုချင်ပါတယ်။

ခေါင်းလောင်းထိုးတာတို့ ကလတက်ခေါက်တာတို့လည်း သည်သဘောအတိုင်းပါပဲ။ ရည်ရွယ်ချက် အမျိုးမျိုးနဲ့ ခေါက်ကြ ထိုးကြတာပါ။ သုံး၊ ငါး၊ ခုနစ်၊ ကိုး၊ ဂဏန်းများဟာ မိမိအတွက် အကျိုးပေးတဲ့ ဂဏန်းတွေပဲလို့ ယုံကြည်ယူဆပြီး အဲသည် ဂဏန်းအရေအတွက်အတိုင်း အသုံးပြုကြတာလည်း ရှိပါတယ်။ ပုံသေမှတ်ထားတယ်လို့ မရှိပါဘူး။

ကလတက် ခေါက်တာကတော့ တချို့ ကျောင်းတိုက်ကြီးတွေမှာ ဘုရားဝတ်တက်တဲ့အခါ သံဃာများ ကြားနိုင်၊ အိပ်ရာက နိုးနိုင်လောက်အောင် ဆိုပြီး ခပ်လေးလေး ခပ်မှန်မှန် (၂၄) ပစ္စည်းကို ရွတ်ဆိုပြီး (၂၄) ချက် ခေါက်တတ်ပါတယ်။

အဲသည်လို ကိုယ့်ယုံကြည်ချက်၊ ယူဆချက်နဲ့ လုပ်နေကြတာ ဖြစ်တဲ့အတွက် ကိုယ်ကောင်းမည်ထင်သလို လုပ်ဖို့ပဲ ဖြစ်ပါတယ်။ ဒါတွေဟာ ကုသိုလ်ရေးနဲ့ စပ်တာတွေဖြစ်တော့ အပြစ် တစ်စုံတစ်ရာတော့ ရှိမှာမဟုတ်ပါဘူးလို့ ပြောလိုပါတယ်။

**အဖြေ(၂)** ပုတီးစိပ်တယ်ဆိုတာ ဗုဒ္ဓဘာသာဝင်တွေ အနေနဲ့ ဘုရားဂုဏ်တွေကို စိပ်ကြပါတယ်။ တချို့လည်း တရားဂုဏ်၊ သံဃာ့ဂုဏ်တော်တွေကို စိပ်ကြပါတယ်။

သည်လို စိပ်ရာမှာ ဘုရားဂုဏ်တော် စသည်ကို ဂုဏ်တော် တစ်ပါးချင်း ရွတ်ဆိုပြီးတော့ ဖြစ်စေ၊ ဂုဏ်တော် တစ်ပါးကိုပဲ ပုဒ်အမျိုးမျိုး အက္ခရာ အမျိုးမျိုး ခွဲပြီးတော့ ဖြစ်စေ စိပ်ကြတာလည်း တွေ့ရပါတယ်။

ဘယ်လိုပဲ စိပ်စိပ် ဘုရား၊ တရား၊ သံဃာ ဂုဏ်တော်တွေ အာရုံပြုမိလျှင် ကောင်းတာချည်းပါပဲ။ ဂုဏ်တော်ကို ထိထိမိမိ အာရုံပြုမိဖို့ အရေးကြီးပါတယ်။ ဂုဏ်တော်ကို အာရုံမပြုမိဘဲ စိတ်က ဟိုတွေး သည်တွေးပြီး မုက္ခပါဌ်တော်တွေ ရွတ်ဆိုပြီး စိပ်တာမျိုးကတော့ အကျိုးရဖို့ တယ်မရှိပါဘူး။ ကျေးဇူးမပွားအညောင်းများရုံသာ အဖတ်တင်မှာပါ။

ရာထူး၊ ဂုဏ်သိန် စည်းစိမ်ဥစ္စာ လာဘ်သပ်ပကာ







ရရှိတိုးပွားရေးအတွက် နမောင်းချက်နဲ့ရော အခြားနည်းများ ဖြင့်ပါ စိပ်ရာမှာ အပြစ်မရှိနိုင်ပါဘူး။

မိမိရည်မှန်းချက် ပြည့်စုံဖို့ရာကတော့ ဂုဏ်တော်ကို အလေးအနက် ယုံကြည်တာဟာ သဒ္ဓါ ဝီရိယ ပညာပါတဲ့ ကုသိုလ်စိတ်ပါ။ အဲဒီ ကုသိုလ်စိတ်က မိမိအလိုရှိတဲ့ အရာကို ဖြစ်ပေါ်ရရှိစေတာ ဖြစ်ပါတယ်။ ဖန်တီးပေးတာ ဖြစ်ပါတယ်လို့ ဖြေကြားလိုက်ပါတယ်။

**အဖြေ(၃)** စိတ်မချမ်းမြေ့စွာနဲ့ လုပ်သည်ဖြစ်စေ၊ စိတ်ချမ်းသာ ပျော်ရွှင်စွာနဲ့ လုပ်သည်ဖြစ်စေ တံငါအလုပ်ဟာ တံငါအလုပ်ပါပဲ။ တံငါအလုပ်ဟာ အကုသိုလ် အလုပ်ပါ။

ကုသိုလ် အကုသိုလ်ဆိုတာတွေဟာ ပရမတ္ထ သဘာဝတွေ ဖြစ်ပါတယ်။ ပရမတ္ထ သဘာဝတွေဟာ မျက်နှာမလိုက်တတ်ပါဘူး။ ဗလောင်းဗလဲ ဖောက်လွဲဖောက်ပြန် မလုပ်တတ်ပါဘူး။ တစ်သမတ်တည်း နေပါတယ်။

အကုသိုလ်ကံဟာ ဘာကြောင့်ပဲ လုပ်လုပ်၊ ဘယ်သူပဲ လုပ်လုပ် မကောင်းကျိုးကိုပဲ ပေးမှာပဲ။ ကုသိုလ်ကံဟာ ဘာကြောင့်ပဲလုပ်လုပ်၊ ဘယ်သူပဲ လုပ်လုပ် ကောင်းကျိုးကိုပဲ ပေးမှာပဲ။

ဒါကြောင့် အကုသိုလ်ဖြစ်တဲ့ တံငါကို လုပ်လျှင် စိတ်မချမ်းမြေ့စွာနဲ့ပဲ လုပ်လုပ်၊ စိတ်ချမ်းသာ ပျော်ရွှင်စွာနဲ့ပဲ လုပ်လုပ် အပါယ်ငရဲ **ရောက်နိုင်ပါတယ်။**

တစ်ခုတော့ ရှိပါတယ်။ လောကဥပဒေအရ ပြစ်ဒဏ်ခံရတာနဲ့ ဓမ္မဥပဒေအရ အပြစ်ဒဏ် ခံရတာချင်းတော့ မတူတတ်ပါဘူး။

ပြစ်မှုတစ်ခုကို မသိလို့ ကျူးလွန်မိလျှင် လောကဥပဒေအရ အပြစ်ဒဏ် ပေါ့ပါတယ်။ သိလျက်နဲ့ ကျူးလွန်လျှင် အပြစ်ဒဏ်လေးပါတယ်။

ပြစ်မှုတစ်ခုကို မသိလို့ ကျူးလွန်လျှင် ဓမ္မဥပဒေအရ အပြစ်ဒဏ်ကြီးလေးပါတယ်။ သိလျက်နဲ့ ကျူးလွန်လျှင် အပြစ်ဒဏ် ပေါ့ပါတယ်။

ဥပမာ မီးခဲကို ကိုင်လျှင် ပူမယ်၊ လောင်မယ် ဒုက္ခရောက်မယ်လို့သိတဲ့လူဟာ မီးခဲကို မလွဲသာလို့ ကိုင်ရတဲ့အခါ တအားကြီး ဆုပ်မကိုင့်ဘဲ သက်သက်သာသာဖြစ်အောင် ခပ်လျော့လျော့ ကိုင်တဲ့အတွက် အပူလောင် သက်သာပါတယ်။

အဲသည် အတိုင်းပါပဲ။ ဒါလုပ်လျှင် သည်အပြစ်ဒဏ်ခံရမည်ဆိုလို့ သိထားတဲ့ လူဟာ အပြစ်ဒဏ် ခပ်ကြောက်ကြောက်နဲ့ လုပ်တဲ့အတွက် သူ့စိတ်ဓာတ်တွေ သူ့လုံ့လပယောဂတွေဟာ သိပ်မပြင်းထန် မထက်သန်ပါဘူး။ အဲသည်တော့ သူ့လုပ်ဆောင်ချက် အကုသိုလ်မှုဟာလည်း သိပ်မလေး





နက် မပြင်းထန်တော့ ပါဘူးကွယ်။ ဒါကြောင့် အပြစ်ဒဏ်ခံရတဲ့ နေရာမှာ သက်သာနိုင်ပါတယ်။

မီးခဲကိုင်လျှင် ပူမယ်၊ လောင်မယ် မသိတဲ့ လူဟာ ကိုင်တဲ့အခါ အားရှိပါးရှိ တအား ဆုပ်ကိုင်လိုက်တဲ့အခါ ပြင်းပြင်းထန်ထန် **အပူလောင်ခံရ**ပါတယ်။ အဲသည်လို ပါပဲ။

ဒီအလုပ်လုပ်လျှင် သည်အပြစ်ဒဏ် ခံရမယ်လို့ မသိတဲ့ လူဟာ အကုသိုလ်လုပ်တဲ့အခါ ထက်သန်တဲ့စိတ်ဓာတ် ပြင်းထန်တဲ့ လုံ့လပယောဂတွေနဲ့ လုပ်တဲ့အတွက် သူ့အကုသိုလ်မှုဟာလည်း လေးနက်ပြင်းထန်ပါတယ်။ ဒါကြောင့် ကြီးမားလေးနက်တဲ့ အပြစ်ဒဏ် ခံရပါတယ်။ ကြီးမားတဲ့ ဆင်းရဲဒုက္ခနဲ့ တွေ့ကြုံရပါတယ်။

ဒါကြောင့် စိတ်မချမ်းသာ၊ စိတ်မပါဘဲ တံငါလုပ်ငန်းလုပ်နေတဲ့ လူတွေဟာ မကောင်းတဲ့ စိတ်ဓာတ် မပြင်းထန်တဲ့ အလျောက် အားထုတ်မှု လုံ့လ ဝီရိယလည်း အားနည်းတာကြောင့် အပြစ်ဒဏ်မှ သက်သာသင့်သမျှ သက်သာနိုင်တယ်လို့ ယူဆနိုင်ပါတယ်။

ဗဟုသုတ ပြည့်ဝစွာနဲ့ တရားနာ၊ တရားစကားပြောကြားပြီး ကိုယ်မှာ တရားမရှိသူနဲ့ စိတ်မချမ်းမြေ့စွာ တံငါ လုပ်နေရသူ ဒီနှစ်ဦးအနက် ကိုယ်မှာ တရားမရှိသူကို ပိုပြီး ဘုရားမကြိုက်ဘူးလို့ ယူဆနိုင်ပါတယ်။

စိတ်မချမ်းမြေ့စွာနဲ့ တံငါလုပ်နေသူဟာ ပါဏာတိ

ပါတမှ တစ်ပါး တခြား ကိုယ်ကျင့်တရားတွေနဲ့ ပြည့်စုံနေသူ ဖြစ်တဲ့အတွက် ကိုယ်မှာ တရားရှိသူလို့ ဆိုနိုင်ပါတယ်။

တရားနာ၊ တရားစကားပြောပြီး ကိုယ်မှာ တရားမရှိသူကတော့ ကိုယ်ကျင့်တရား ငါးပါးသီလ မလုံခြုံသူလို့ ဆိုနိုင်စရာ ရှိပါတယ်။ သည်လို " ပါးစပ်က ဘုရား ဘုရား၊ လက်က ကားယား ကားယား" လုပ်နေသူမျိုးကို ဆရာကြီး ဦးပုည က "အလှူမသာ ရှိလေရာဝယ် ဖြန်းကာညာဝါး လက်ဖက်စား သည် ဘုရားမကြိုက်သည့် လူစုတည်း" လို့ သရော်ပြောင်လှောင် ရှုတ်ချထားပါသည်။

သူဟာ လောကကြီးကို လိမ်ညာဝါကြွား စားသောက်နေတဲ့ အကြီးဆုံး ခိုးသူကြီးပဲလို့ ရှင်တော်ဘုရားကလည်း မိန့်ကြားထားတော် မူပါတယ်။

ဒါကြောင့် ကိုယ်မှာ တရားမရှိသူကို ပို၍ ဘုရားမကြိုက်ဘူးလို့ ဆိုရတာ ဖြစ်ကြောင်း ပြောကြားလိုက်ပါတယ်။

ဟံသာသီရိ